

အပ္ပမာဒစာစဉ်

# ဘိုးတော် ဝိဇ္ဇာ ယုံကြည်ကိုးကွယ်မှုကို ထေရဝါဒရှုထောင့်မှ လေ့လာသုံးသပ်ခြင်း

## ဒေါက်တာ အရှင်ဓမ္မပိယ

(အပြည်ပြည်ဆိုင်ရာ ထေရဝါဒဗုဒ္ဓသာသနာပြု တက္ကသိုလ်)



2010.GRAPHIC DESIGN : KYAW MINN MOUNG

ဘိုးတော် ဝိဇ္ဇာယံ့ကြည်ကိုးကွယ်မှုကို ထေရဝါဒရှုထောင့်မှ
လေ့လာသုံးသပ်ခြင်း

စာမူခွင့်ပြုချက် - ၆၀၀ ၀၀၅ ၀၁၁၁
အဖုံးခွင့်ပြုချက် - ၆၀၀ ၀၅၁ ၀၁၁၁

ပုံနှိပ်ခြင်း
ပထမအကြိမ် - ၂၀၁၂ ခုနှစ်၊ ဇန်နဝါရီလ၊ အုပ်ရေ (၁၀၀၀)

အဖုံးနှင့် အတွင်းပုံနှိပ်
သန်းထိုက်ရတနာပုံနှိပ်တိုက်၊ ဦးဝင်းအောင် (မြဲ - ၀၅၁၃၀)
အမှတ် -(၈၄)၊ လမ်း (၅၀)အလယ်၊ ရန်ကုန်မြို့။

ထုတ်ဝေသူ
ဦးမြသန်းစံ(မြဲ-၀၃၈၈၂)၊ အပွမာဒစာစဉ်
အမှတ်(၁၈၉)၊ ရွှေဝါထွန်း(၂) လမ်း၊ (၃၃) ရပ်ကွက်၊
ဒဂုံမြို့သစ်မြောက်ပိုင်းမြို့နယ်၊ ရန်ကုန်မြို့၊ ဖုန်း - ၅၈၄၇၃၈။

မျက်နှာဖုံးပန်းချီ
ပန်းချီကိုကျော်မင်းမောင်

အတွင်းပန်းချီ
မောင်မောင်သိုက်၊ ကိုကျော်သိုက်၊
ကျော်သောင်း၊ ပန်းချာန်

စီစဉ်ဖြန့်ချိသူ
ဒေါ်သိင်္ဂီမိုး

ထပ်ပြည်လုံး ဖြန့်ချိရေး
အပွမာဒဓမ္မရသစာပေတိုက်

တန်ဖိုး
-ကျပ်

ဒေါက်တာအရှင်ဓမ္မပိယ ၂၉၀
ဘိုးတော် ဝိဇ္ဇာယံ့ကြည်ကိုးကွယ်မှုကို ထေရဝါဒရှုထောင့်မှ
လေ့လာသုံးသပ်ခြင်း / ဒေါက်တာအရှင်ဓမ္မပိယ ။
- ရန်ကုန် ၊
အပွမာဒစာစဉ်၊ ၂၀၁၀ ။
၅၀၄ စာ၊ ၂၄ × ၁၈ စင်တီ။
ဘိုးတော်ဝိဇ္ဇာယံ့ကြည်ကိုးကွယ်မှုကို ထေရဝါဒရှုထောင့်မှ လေ့လာသုံးသပ်ခြင်း



# ဘိုးတော် ဝိဇ္ဇာယံ့ကြည်ကိုးကွယ်မှုကို ထေရဝါဒရှုထောင့်မှ လေ့လာသုံးသပ်ခြင်း



## ဒေါက်တာ အရှင်ဓမ္မပိယ

အပြည်ပြည်ဆိုင်ရာထေရဝါဒဗုဒ္ဓသာသနာပြုတက္ကသိုလ်



# သဗ္ဗဒါနံ ဓမ္မဒါနံ ဇိနာတိ

အလှူအားလုံးတို့တွင် တရားအလှူသည်
အမြတ်ဆုံးဖြစ်၏

-------------------------- သို့

-------------------------- ၏

အမှတ်တရဓမ္မဒါန






## ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ

မြတ်စွာဘုရားကို အားကိုးရာဟူ၍
ယုံကြည်ဆည်းကပ်ပါ၏ဘုရား။

## ဓမ္မံ သရဏံ ဂစ္ဆာမိ

မြတ်စွာဘုရား၏ တရားတော်ကို အားကိုးရာဟူ၍
ယုံကြည်ဆည်းကပ်ပါ၏ဘုရား။

## သံဃံ သရဏံ ဂစ္ဆာမိ

မြတ်စွာဘုရား၏ တပည့်သား သံဃာတော်မြတ်အပေါင်းကို
အားကိုးရာဟူ၍ ယုံကြည်ဆည်းကပ်ပါ၏ဘုရား။




# မာတိကာ

## ပါမောက္ခချုပ်ဆရာတော်
## ဒေါက်တာဘဒ္ဒန္တနန္ဒမာလာဘိဝံသ ၏
## အမှာစာ

ဤစာအုပ်သည် 'ဘိုးတော်ဝိဇ္ဇာယုံကြည်ကိုးကွယ်မှု'ကို ထေရဝါဒဗုဒ္ဓရှုထောင့်မှ လေ့လာ သုံးသပ်ထားသော သုတေသနစာအုပ်ဖြစ်၏။

လူသားတို့၏စိတ်ဓာတ်၌ မျှော်လင့်ခြင်းနှင့် စိုးရိမ်ကြောက်ရွံ့ခြင်းများသည် ခိုင်မြဲစွာ စွဲကပ်လျက်ရှိ၏။ ဖြစ်ချင်သော်လည်း မဖြစ်သေးသော အရာများကို မျှော်လင့်ကြ၏။ ဖြစ်ပြီး ရရှိပြီး ချမ်းသာသုခများ လက်လွတ်ဆုံးရှုံးမှာကို စိုးရိမ်ကြ၏။ ဆင်းရဲမှာကို ကြောက်ရွံ့ကြ၏။

မျှော်လင့်ခြင်းနှင့် စိုးရိမ်ကြောက်ရွံ့ခြင်း လွှမ်းမိုးနေသော လူသားတို့၏ စဉ်းစားဉာဏ်သည် မှေးမှိန်သွား၏။ စိတ်ဓာတ် ခွန်အားများသည် လျော့ပါးသွား၏။ စဉ်းစားဉာဏ် ကင်းမဲ့သော ယုံကြည်မှု၊ ယုံကြည်မှုကို အခြေခံသော ကိုးကွယ်မှုအမျိုးမျိုး ဖြစ်ပေါ်လာ၏။

'ဘိုးတော်ဝိဇ္ဇာယုံကြည်ကိုးကွယ်မှု'သည် မြန်မာနိုင်ငံ၌သာမက အခြားနိုင်ငံများ၌ပါ အသွင်အမျိုးမျိုးဖြင့် ရှိသည်သာဖြစ်၏။

ထိုသို့ နိုင်ငံအနှံ့ရှိနေခြင်းမှာ ဖော်ပြပါ အကြောင်းကြောင့်သာ ဖြစ်ပေသည်။

ရန်ကုန်မြို့ အပြည်ပြည်ဆိုင်ရာ ထေရဝါဒဗုဒ္ဓသာသနာပြု တက္ကသိုလ် ပရိယတ္တိမဟာဌာနပါမောက္ခ မဟာဌာနမှူးဆရာတော် ဒေါက်တာဘဒ္ဒန္တဓမ္မပိယသည် '**ဘိုးတော်ဝိဇ္ဇာယုံကြည် ကိုးကွယ်မှု**' နှင့်ပတ်သက်၍ သုတေသနပြုထား၏။ သူ၏သုတေသနကျမ်းသည် သုတေသနကျမ်း၏ နည်းစနစ်များကို အသုံးပြုထားသဖြင့် မှန်ကန်တိကျ၏။

ဤကျမ်း၌ အခန်း(၉)ခန်း ခွဲခြားလျက် စေ့ငုသေချာ လေ့လာသုံးသပ်ထားသည်။ အမှန်နှင့်အမှား ခွဲခြားပြထား၏။

လောကလူသားအများတို့သည် အထင်ကို ဆုပ်ကိုင်ထားကြပြီး အမြင်ကို စွန့်ပယ်ထားကြ၏။ အမြင်ဖြင့် အထင်ကို ပယ်ခွာနိုင်အောင် ကြိုးစားကြရမှာဖြစ်၏။

မြတ်ဘုရားက '**ယထာဘူတံ ဉာဏာယ သတ္ထာ ပရိယေသိတဗ္ဗော**' လို့ ဟောတော်မူသည်။ အဖြစ်မှန်သိအောင် (အမှန်ကိုပြနိုင်တဲ့) ဆရာမျိုးကို ရှာကြရမည် ဖြစ်သည်။

အသိမှန်ဖြင့် အမှန်သိကြပါစေ။

ဒေါက်တာဘဒ္ဒန္တနန္ဒမာလာဘိဝံသ
ပါမောက္ခချုပ်
အပြည်ပြည်ဆိုင်ရာထေရဝါဒ
ဗုဒ္ဓသာသနာပြုတက္ကသိုလ်
မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့။
၂၀၁၂-ခု၊ မတ်လ ၂ ရက်။



## နိဒါန်းစကားဦး

စာရေးသူငယ်စဉ်က အမှောင်ညများကို အလွန်ကြောက်တတ်ခဲ့သည်။ ကြောက်တတ်လွန်း၍ ညမှောင်လာပြီဆိုယင် အစ်ကို (သို့မဟုတ်)အစ်မတစ်ယောက်ယောက်မပါဘဲ။ စာရေးသူတို့နေထိုင်ရာ အိမ်အပေါ်ထပ်ကို တစ်ယောက်တည်း တက်ရိုးထုံးစံမရှိခဲ့ပေ။ ညညများ ရောက်လာပြီဆိုရင် ရွာပြင်ဘက်ကို ထွက်ရဲဖို့နေနေသာသာ အိမ်တွင်း၊ အိမ်ပြင်ထွက်ဖို့ကိုပင် ဝန်လေးနေခဲ့သူဖြစ်သည်။ အမှောင်ကို ကြောက်တတ်သော စာရေးသူတစ်ယောက် အမှောင်ညများကို ဖြတ်ကျော်ခဲ့ရင်း လူလားမြောက်ခဲ့ရသည်။

လူလားမြောက်လာခဲ့ပြီး ဗုဒ္ဓစာပေများကို ကံအားလျော်စွာ သင်ယူခွင့်ရခဲ့ပြီးသည့် နောက်ပိုင်းမှာတော့ မကြောက်သင့်သည့် အရာများကို မကြောက်တော့ဘဲ၊ ကြောက်သင့်သည့် အရာများကိုသာ ကြောက်ခဲ့တော့သည်။ စာရေးသူဆိုလိုသော ကြောက်သင့်သည့် အရာများဆိုတာ တခြားတော့ မဟုတ်ပါ။ မကောင်းမှုဒုစရိုက်များနှင့် အယူသည်းမှုကြောင့် ဖြစ်ပေါ်လာသော အကြောက်တရားများကို

ရည်ညွှန်းပြောဆိုလိုခြင်းဖြစ်သည်။ အမှန်တကယ်တော့ မသိမှု အဝိဇ္ဇာကြောင့် အယူမှားတွေကို အကြောက်တရားဖြင့် စွဲမြဲစွာလက်ခံထားမှု၊ အသိဉာဏ်နည်းပါးမှုကြောင့် ဒုစရိုက်အမှုတွေကို ပြုလုပ်နေမှုတို့သည် အပါယ်လေးပါး၌ ကျရောက်သွားစေနိုင်ကြောင်းကို သိထားလိုပါ၏။ ဤအကြောင်းကြောင်းတွေကြောင့် ကြောက်သင့်သောအရာတို့၌ အကြောက်တရားကို အခြေခံ၍လျက် အသိတရား၊ သတိတရားတို့ဖြင့် ဘဝလမ်းကြောင်းမှန်ပေါ်ရောက်အောင် ကြိုးစားနေခဲ့သည်။ ဒါပေမဲ့ တစ်ခုတော့ရှိသည် အကြောက်တရားများနှင့် ကြီးပြင်းလာခဲ့ရသူဖြစ်လေတော့ ကြောက်တတ်သည့် ကလေးဘဝလေးကို တစ်ခါတစ်ရံမှာတော့ အမှတ်ရနေမိသည်။

ကလေးဘဝဆိုတာ အသိဉာဏ်များ အားနည်းလှသေးတာကြောင့် မဲမဲကြီးဆိုလည်း ကြောက်ရ၊ ရဲရဲကြီးဆိုလည်း ကြောက်ရ၊ မှောင်လွန်းရင်လည်း ကြောက်ရ၊ မဲလွန်းရင်လည်း ကြောက်ရနဲ့ ကြောက်နေရတာတွေက များလွန်းနေတတ်သည်။ ဒါကလည်း အသိဉာဏ် အားနည်းလှသေးတဲ့ ကလေးတို့ရဲ့ သဘာဝပဲလို့ အရွယ်လေးရလာတဲ့အခါ စဉ်းစားကြည့်မိသည်။ ဒါပေမဲ့ စာရေးသူ သတိပြုမိပြန်တာက ကလေးငယ်အများစုဟာ အမှောင်ကို ကြောက်တတ်ကြပေမဲ့ အလင်းရောင်အောက်ကို ရောက်လာကြပြီဆိုရင် မြူးလို့၊ ရွှင်လို့အကြောက်တရားတွေကင်းလို့ ဖြစ်နေတတ်တာကို တွေ့ရပြန်သည်။ ကလေးဘဝလေးတွေဟာ တကယ်တော့ ကြည်နူးဖို့ ကောင်းသည်။ ဒါကြောင့်များထင်ပါ၏။ အသက်အရွယ်များ ရလာကြပြီဖြစ်သော လူအတော်များများသည် ငယ်ဘဝလေးများကို ပြန်ပြီး လွမ်းမောနေမိတတ်ကြသည်။

လူဘဝဆိုတာ ဆန်းကြယ်တယ်။တချို့များဆိုရင် အရွယ်ကြီးပေမဲ့ ကိုယ်အမူအရာ၊ နှုတ်အမူအရာများက ကလေးသာသာ။





တချို့ကလေးများကြပြန်တော့လည်း လူကြီးလေးတွေလို ပြောဆိုပြုမူနေတတ်တာကို တွေ့ရပြန်သည်။ ကလေးက လူကြီးနှင့်တူ၊ လူကြီးက ကလေးနှင့်တူနေသောအချက်က ဘာလဲလို့ မေးစရာတော့ ရှိလာသည်။ တချို့လူကြီးတွေမှာ ကလေးငယ်တွေနှင့်တူနေတဲ့အချက်ကတော့ မကြောက်သင့်သည့်အရာတွေကို ကြောက်နေတတ်ခြင်းမျိုးပါ။ အရွယ်တွေ ရလာမှတော့ အသိတရားတွေ ပိုပြီးရှိသင့်တာပေါ့။ မဲမဲကြီးဆိုလည်းကြောက်၊ ရဲရဲကြီးဆိုလည်းကြောက် ဆိုတာမျိုးလို ကလေးငယ်တွေလိုတော့ မဖြစ်သင့်ဘူးပေါ့။ မကြောက်သင့်တဲ့အရာမျိုးတွေဆိုရင် မကြောက်အောင် နေတတ်ရသည်။ တစ္ဆေ၊ သရဲ၊ နတ်မိစ္ဆာများအပြင် 'ဘိုးတော်၊ ဝိဇ္ဇာကြီးများ' ကိုပါ ကြောက်နေကြတာမျိုးကတော့ ဉာဏ်အားနည်းသေးတဲ့ ကလေးငယ်တွေနှင့်ဘာမှမထူးခြားတော့ဘူး။'ကြောက်တတ်ရင် ဘေးကင်း'တယ်လို့အဆိုရှိပေမဲ့'ကြောက်လွန်းရင် ဘေးဖြစ်'ဆိုတာကိုလည်း မေ့မထားသင့်ပါ။ အသိတရား၊ သတိတရားမျိုးဆိုတာ ဉာဏ်ယှဉ်နိုင်သူတွေအတွက်တော့ တန်ဖိုးမဖြတ်နိုင်တဲ့ ရတနာတွေပါ။ ဒီတော့လည်း ကြောက်တတ်လွန်းတဲ့အတွက် အမှားသံသရာမှာ ကျင်လည်နေရတဲ့ သူတို့ရဲ့ ဘဝရှင်သန်နေရခြင်းမျိုးဟာ သံသရာအတွက်တော့ ရင်လေးစရာပါ။

ဘဝဆိုတာ ရှင်သန်သူတို့ရဲ့နေရာပါ။ အကယ်၍သာ စာဖတ်သူသည် ဗုဒ္ဓဘာသာဝင်ကောင်း တစ်ယောက်ဖြစ်လိုတဲ့စိတ်နဲ့ အပြစ်ကင်းသော ဘဝတစ်ခုကို တည်ဆောက်ထားလိုလျှင် နံပတ်တစ်ဦးစားပေးအဆင့်က အသိတရားရှိအောင် ကြိုးစားအားထုတ်ရမှာ။ သတိရှိအောင် အလေ့အကျင့်ကောင်းတွေကို ပြုလုပ်ထားရမှာ။ ကြောက်သင့်သည့်အရာ၊ မကြောက်သင့်သည့်အရာများကို ဉာဏ်နှင့်ယှဉ်ပြီး ဆင်ခြင်သုံးသပ်ကြည့်ရမှာ။ အယူမှားလမ်းစဉ်များ (ဗုဒ္ဓစာပေရှုထောင့်မှ ကြည့်ရှု၍ ပြောဆိုသည်)ကို မလိုက်စားမိအောင် ကိုယ့်ကိုယ်

ကို စောင့်ရှောက်နေရမှာ။ အတုအယောင်တွေကို (ဘိုးတော်တု၊ ဘိုးတော်ယောင်တွေကို) အားနာလို့ဖြစ်စေ၊ ကြောက်လို့ဖြစ်စေ၊ ယုံကြည်လို့ ဖြစ်စေ ကိုးကွယ်ပူဇော်ပသနေခြင်းမျိုးကို အသိတရားနဲ့ ရှောင်ရမှာ။မိမိကိုးကွယ်ထားသော ဘာသာတရားတစ်ခုကို မှန်၊မမှန် စစ်ဆေးနိုင်သည့် အသိတရားမျိုးဆိုတာ လူတိုင်းမှာ မရှိနိုင်ဘူး။ ကိုးကွယ်ရာ စစ်၊မစစ် စစ်ဆေးကြည့်ရာမှာ ဗုဒ္ဓ၏ ဓမ္မမှတ်ကျောက်ဟာ အခိုင်အမာဆုံးပဲ။ 'ဘယ်သူမပြု၊ မိမိမှု'ဆိုတာ ဗုဒ္ဓ၏ အဆုံးအမများထဲမှ အသိလွယ်သည့် အဆုံးအမတစ်ခုဖြစ်သည်။လေးလေးနက်နက်တွေးကြည့်မှ လေးနက်တဲ့အဓိပ္ပါယ်ကို ဖော်လို့ရတယ်။ မိမိက အယူမှား၊ အကျင့်မှားတွေကို ဆက်လက်ပြုလုပ်နေမည်ဆိုလျှင် ကိုယ်ပြုသည့် မကောင်းမှုကံတို့သည် ကိုယ့်ထံကို တစ်နေ့နေ့ တစ်ချိန်ချိန်မှာ ပြန်လည်ရောက်လာကြမှာဖြစ်သည်။

ဘဝတစ်ခု၏ သက်တမ်းဆိုတာ တိုတိုလေးပါ။ အယူမှားတွေကို လိုက်စားခဲ့မိရင် ဖြစ်ပေါ်လာနိုင်တဲ့ ဆိုးကျိုးတွေကို ပေးဆပ်ရတာမျိုးသည် ပြုသူအတွက် များလွန်းနေတတ်ပါသည်။ကိုယ့်ကိုယ်ကို အမှန်လမ်းပေါ်ရောက်အောင် သတိတရားနဲ့ ကာကွယ်စောင့်ရှောက်နိုင်မှုမျိုးဆိုတာ လူတိုင်းလုပ်နိုင်တဲ့ အရာမျိုးမဟုတ်လေတော့၊ ကိုယ့်ကိုယ်ကို သူတော်ကောင်းစိတ်တွေရှိလာအောင် မွေးမြူပြီး၊ သူတော်ကောင်းစိတ်ထားမျိုးနဲ့ ကိုယ်မှု၊ နှုတ်မှု တစ်ခုခုကို မပြုလုပ်ခင် 'အကျိုးရှိ မရှိ၊ သင့်တော် မတော်' စဉ်စားဆင်ခြင်ပြီး ပြုသင့်တာဆိုရင်လည်း ပြုလို့၊ မပြုသင့်တာဆိုလျှင်လည်း ရှောင်လို့ စွမ်းနိုင်သမျှ ဘုရားစကားကို နားထောင်နိုင်အောင် ကြိုးစားကြရမှာပေါ့။ မြတ်ဗုဒ္ဓရဲ့ အနှိုင်းမဲ့မေတ္တာ၊ အဆုံးမရှိတဲ့ဉာဏ်တော်၊ ကရုဏာတော်တို့ကို နားလည်နိုင်အောင် ကြိုးစားကြရမှာပေါ့။ မြတ်ဗုဒ္ဓရဲ့ ကျေးဇူးတော်များကို အစဉ်သတိရလျက် ကိုယ့်ကိုယ်ကို အများသံသရာထဲ ကျရောက်





မသွားရအောင် စောင့်ထိန်းကြရမှာပေါ့။ သတိတရားဖြင့် ကိုယ်နှုတ်
စိတ်သုံးပါးကို စောင့်ရှောက်လျက် 'မှတပါး ကိုးကွယ်ရာမရှိသူ
အဖြစ်သို့ရောက်အောင် ကြိုးစားကြမည်ဆိုလျှင် ဤစာတမ်း ရေးသ
အတွက် ကြည်နူးလို့ မဆုံး၊ ဝမ်းသာလို့ မဆုံး ရှိနေတော့မည်သာ

ဤစာတမ်းသည် သူတော်ကောင်းအကျင့်တရားများကိ
ကျင့်ကြံ၊ ပွားများ၊ အားထုတ်နေကြသော သူတော်ကောင်းများကိ
လည်းကောင်း၊ သူတော်ကောင်းဖြစ်ကြသော လောကီဝိဇ္ဇာများကိ
လည်းကောင်း၊ အရိယာဖြစ်ပြီးဖြစ်ကြသော အရိယာဝိဇ္ဇာများကို လည်
ကောင်း ပြစ်မှားလိုသော စိတ်ထားမျိုးနှင့် ရေးသားခြင်းမဟုတ်ပ
ဓမ္မဝိနယနှင့်လျော်ညီသော အရိယာဝိဇ္ဇာကျင့်စဉ်များနှင့် ဓမ္မဝိနယန
မညီသော အတုအယောင်ဘိုးတော်၊ဝိဇ္ဇာတို့၏ ကျင့်စဉ်များကို အသ
ဉာဏ်ဖြင့် ခွဲခြားနားလည်းနိုင်ရန် ရည်ရွယ်၍ ဤစာတမ်းကို ရေးသ
ပြုစုခြင်းဖြစ်သည်။

အမှန်ကို ဝန်ခံရလျှင် စာရေးသူအတွက် ဤသုတေသ
စာတမ်းမျိုးကို ရေးသားပြုစုရခြင်းသည် ခက်ခဲသောအနေအထားမှ
ရှိပါသည်။ ဤစာတမ်းကို ရေးသားပြုစုရန် စိတ်ဆန္ဒတွေ ဖြစ်ေ
ခဲ့သည်မှာတော့ အချိန်တွေ အတော်ကို ကြာခဲ့ပါပြီ။ အကြောင်းယု
နိုင်လုံသော အခြေခံအချက်အလက်များ မရရှိသေးတာက တ
ကြောင်း၊ စာတမ်းအတွက် သက်ဆိုင်ရာ အရပ်ဒေသများသို့ သွ
ရောက်၍ သုတေသနမပြုနိုင်သေးတာကတစ်ကြောင်း၊ ဤအကြော
များကြောင့် အချိန်တွေ အတော်နှောင်းသွားခဲ့သည်။ နောက
တစ်ကြောင်းက ဤစာတမ်းမျိုးကို ရေးသင့်၊ မရေးသင့် ချင့်ချိန်ကြည
သောအခါ ရေးနိုင်၊ မရေးနိုင်ဆိုတဲ့အမေးက စာရေးသူ၏ စာရေးလ
သည့်စိတ်ဆန္ဒကို အဟန့်အတားတွေ ဖြစ်နေခဲ့သည်။သို့သော် အနှိုင်း
ဘုရားရှင်၏ ဗုဒ္ဓသာသနာတော်ပေါ်မှာရော၊ သာသနာတော်ဝန်က

ထမ်းရွက်နေကြသော ရဟန်းသံဃာတော်များ အပေါ်မှာပါ ကျေးဇူးပြုနေကြသော ဗုဒ္ဓဘာသာဝင်များအတွက် အတိုင်းအတာတစ်ခုအထိ ကျေးဇူးတုံ့ပြန်လိုသော တာဝန်သိစိတ်ဖြင့် ဓမ္မဝိနယနှင့်လျော်ညီသော အသိတရားများကို ရရှိနိုင်စေရန် ဤစာတမ်းကို ရေးသားခြင်း ဖြစ်သည်။

'ဘိုးတော်၊ ဝိဇ္ဇာယုံကြည်ကိုးကွယ်မှုကို ထေရဝါဒရှုထောင့်မှ လေ့လာသုံးသပ်ခြင်း' ဤသုတေသနစာတမ်းကို ရေးသားပြုစုရာတွင် ဗုဒ္ဓဘာသာစာပေဆိုင်ရာ ကျမ်းဂန်များကို မှီငြမ်းပြု၍လည်းကောင်း၊ ဘိုးတော်အောင်မင်းခေါင်ကို မီလိုက်ဖူးသော ဆရာတော်များ၊ လူပုဂ္ဂိုလ်များကို သွားရောက်တွေ့ဆုံ၍ ထိုပုဂ္ဂိုလ်များ၏ အတွေ့အကြုံများကို မှီငြမ်းပြု၍လည်းကောင်း၊ သိုက်ကျမ်း၊ သမိုင်းကျမ်းများမှ ဖော်ပြထားသော အချက်အလက်များကို စုဆောင်း၍လည်းကောင်း၊ သမိုင်းတွင် ထင်ကျန်ခဲ့သော ရှင်အဇ္ဇဂေါဏ၊ ဘိုးမင်းခေါင် စသော ပုဂ္ဂိုလ်များ နေထိုင်သွားလာခဲ့ဖူးသော အရပ်ဒေသများဖြစ်ကြသည့် ရန်ကုန်တိုင်း၊ သက်နှင်းကျွန်းမြို့နယ်၊ ၉-တောင်ရပ်ကွက်၊ သာသနာ့ အလင်းရောင်ဘုရား၊ မုလဆယ်တောင်ပြည့်ဘုရားနှင့် ဝင်ဒါမီယာ၊ အောင်မင်းခေါင် ဘုရားဝင်းအတွင်း၌ တည်ရှိသော သမိုင်းဝင်နေရာများ အဖြစ် ထင်ကျန်ရစ်ခဲ့သော ဘိုးမင်းခေါင်အဓိဋ္ဌာန်ဝင်သွားသော နေရာများ၊ မန္တလေးတောင်ခြေအနီး၊ တောင်တက်ကားလမ်း၏ လက်ယာဘက်အရပ်၌ တည်ရှိသော ဘိုးမင်းခေါင်၏ ခေတ်စခန်းဋ္ဌာနချုပ်ဖြစ်ခဲ့ဖူးသော မိုးထိတိုက်၊ နတ်စလင်းကျောင်း၊ (ယခုအခါ နတ်စလင်းကျောင်းအမည်ပျောက်၍ ရတနာသီဂီကျောင်းအမည်နှင့် တည်ရှိနေသော သစ်သားနှစ်ထပ်ကျောင်းဆောင် အဆောက်အအုံ တစ်လုံးကို တွေ့ရသည်) ပုပ္ပါးတောင်ကလပ် ရင်ခွဲဇရပ်၊ ဘိုးမင်းခေါင်မြှုပ်နှံရာဂူနှင့် အနီးဝန်းကျင်ဒေသများ၊ ပုဂံမြို့ဟောင်း တစ်နေရာ၌ရှိသော ရှင်အဇ္ဇဂေါဏဘုရားစသော နေရာဒေသများသို့ သွားရောက်၍လည်းကောင်း ဤစာတမ်းကို ရေးသားပြုစုခဲ့ခြင်းဖြစ်သည်။





ဤစာတမ်းကို ရေးသားပြုစုနေချိန်အတွင်း ဤစာတမ်းဖြစ်မြောက်ရေးအတွက် အကြံဉာဏ်ကောင်းများကို ပေးတော်မူကြသော ဆရာတော်၊ သံဃာတော်များ သွားရေးလာရေးများအတွက် အကူအညီပေးခဲ့ကြသော ရဟန်းတော်များနှင့် ဒကာ ဒကာမများ၊ လိုအပ်သော စာအုပ်စာပေများကို ရှာဖွေစုဆောင်းပေးကြသော ရန်ကုန်တက္ကသိုလ်စာကြည့်တိုက်မှူးများနှင့် စာအုပ်အဖြစ် ပုံနှိပ်ထုတ်ဝေနိုင်ရန် အလှူငွေများကို စိုက်ထုတ်လှူဒါန်းခဲ့သော အလှူရှင်မိသားစုများကို အထူးကျေးဇူးတင်ရှိပါကြောင်း ပြောကြားလိုပါသည်။ ဗုဒ္ဓတရားတော်အပေါ် အသိရှင်းပြီး ဓမ္မဝိနယနှင့်အညီ လိုက်နာကျင့်သုံး စေလိုသော စေတနာဖြင့် ဤစာတမ်းကို ရေးသားပြုစုခဲ့ခြင်းဖြစ်၍ ဗုဒ္ဓစာပေကျမ်းဂန်များနှင့် မလျော်ညီသော အချက်အလက်များပါရှိနေပါလျှင် 'ဆိုရေးရှိက၊ ဆိုအပ်လှ၏၊ ဆိုစများများ၊ ထားပချေမိ၊ ငါ့ဝန်ရှိခဲ့' ဆိုသည့်အတိုင်း စာရေးသူအား မေတ္တာရှေ့ထား၍ အကြံဉာဏ်များ (သို့မဟုတ်) လိုအပ်ချက်များကို ရေးသားပေးပို့တော်မူကြပါရန် လေးလေးစားစား ဖိတ်ကြားအပ်ပါသည်။ မေတ္တာစေတနာများဖြင့် ပေးပို့သော အကြံဉာဏ်ကောင်းများကို မြတ်နိုးစွာဖြင့် ခံယူနေလျက်ပါဟူ၍။

**ဒေါက်တာအရှင်ဓမ္မပိယ**

**အပြည်ပြည်ဆိုင်ရာ ထေရဝါဒ ဗုဒ္ဓသာသနာပြုတက္ကသိုလ်**



## အခန်း(၁)

## ဘိုးတော် ဝိဇ္ဇာများကို ကိုးကွယ်ခြင်း အခြေခံထမိုင်းကြောင်း

ယနေ့မျက်မှောက်ခေတ်၌ အချို့ဘာသာတရား ကိုးကွယ်မှုများ၌ အစွန်းရောက်လွန်းနေ၍ ထိုအစွန်းရောက် ဘာသာတရားကိုးကွယ်မှုများကို သက်ဆိုင်ရာဘာသာတရားအလိုက် ဖြေရှင်းပေးနေကြရသည်။ သို့သော် အစွန်းရောက်ဘာသာတရားကို ကိုးကွယ်သူများသည် လွန်သည်ကို လွန်မှန်းမသိ၊ မှားသည်ကို မှားမှန်းမသိဖြစ်ကြ၍ မေတ္တာဖြင့်ဖြေရှင်းပေးသော သူများအပေါ်၌ အစာမကြေ ဖြစ်ခဲ့ကြသည်။ ဒီဠပါဒါန်–အယူမှားကိုစွဲလမ်းခြင်းသည် .အကုသိုလ်တရားများသာဖြစ်ကြောင်း သူတို့မသိရှာကြလေသလော။ မြန်မာတို့ကိုးကွယ်မှုဓလေ့ထုံး၌ ကိုးကွယ်မှုတစ်ခုကို ဘာသာတရားတစ်ခုဟု အသိအမှတ်ပြုထားသည်ဆိုလျှင် မြန်မာတို့၏ဓလေ့ထုံး၌ ဘာသာတစ်ခု တိုးလာသည်ဟု ဆိုရတော့မည်လော။ ထိုဘာသာကား 'ဘိုးတော်ဝိဇ္ဇာ'များကို ကိုးကွယ်ပူဇော်ပသလာခြင်း ဖြစ်သည်။

ယနေ့မျက်မှောက်ခေတ်၌ 'ဘိုးတော်၊ ဝိဇ္ဇာ'ဟူသော စကား

အသုံးအနှုန်းများ အတော်လေးတွင်ကျယ်လာသည်။ နှစ်ဆယ်ရာစု အစောပိုင်းနှင့် ထိုထက်စောသောမြန်မာစာပေများ၌ 'ဘိုးတော်၊ ဝိဇ္ဇာ' ဟူသော ဝေါဟာရအသုံးအနှုန်းများ မြန်မာစာပေထဲ၌ မတွေ့ရ သလောက်ပင်။ သို့သော် နှစ်ဆယ်ရာစု နှောင်းပိုင်းသို့ ရောက်လာ သောအခါ ထိုအသုံးအနှုန်းဝေါဟာရများသည် ပြည်သူတို့ အကြားဝယ် အတော်လေး ရေပန်းစားလာသည်။ ပြည်သူတွေအတွက် ဘာတွေစွမ်း ၍ ဘာတွေကို ဆောင်ရွက်နိုင်စွမ်းရှိသည်ကိုတော့မသိ။ သူတို့ သတင်း တွေကတော့ သင်းနေပါသည်။ သို့သော် မကောင်းသတင်းတွေက အနန္တ။ သူတို့၏ သတင်းများသည် ဤ၍ဤမျှအထိ သင်းနေခဲ့ပါလျှင် 'ဘိုးတော်ဝိဇ္ဇာဆိုတာ ဘယ်သူတွေဖြစ်သလဲ' ဆိုသည့် မေးခွန်းများ က မေးစရာဖြစ်လာသည်။

စာရေးသူ ကိုရင်ဘဝအရွယ်အထိ ဘိုးတော်၊ ဝိဇ္ဇာများကို စိတ်ဝင်စားခြင်းမရှိခဲ့ပါ။ စာသင်တိုက်များ၌ ပရိယတ္တိစာပေများကို သင်ကြားလေ့လာနေစဉ်အချိန်မှာလည်း ဘိုးတော်၊ ဝိဇ္ဇာများကို စိတ် ဝင်စားခြင်း မရှိသေးပေ။ ဘိုးတော်ဝိဇ္ဇာဟူသော စကားအသုံးအနှုန်း များနှင့်မူ စတင်ရင်းနှီးစ ပြုလာသည်ကိုတော့ သတိမူမိသည်။ သို့သော် ဘိုးတော်၊ ဝိဇ္ဇာတို့ အကြောင်းကိုတော့ ဘာမျှထွေထွေထူးထူး စပ်စပ်စုစု မရှိခဲ့။စိတ်လည်း မဝင်စားခဲ့။ မဟာစည်သာသနာ့ရိပ်သာကြီး၌ တရား ဝင်ရောက်အားထုတ်ပြီး ဝန်ဆောင်အဖြစ်နှင့် နေစဉ်အချိန်မှာတော့ ဘိုးတော်တု၊ ဘိုးတော်ယောင်၊ ဝိဇ္ဇာတု၊ ဝိဇ္ဇာယောင်တို့၏ စရိုက် အမူအရာများကို ပို၍ပို၍ ကြားလာခဲ့ရသည်။ သို့သော် သာသနာ့ ဝန်ထမ်းရဟန်းများ လျှောက်သောလမ်းနှင့် ဘိုးတော်၊ဝိဇ္ဇာတို့ လျှောက်သောလမ်းသည် 'ပြဒါးတစ်လမ်း၊ သံတစ်လမ်း'ဟု နှလုံးသွင်း လျက် ထူးထူးခြားခြား ဘိုးတော်၊ ဝိဇ္ဇာတို့အကြောင်းကို လေ့လာခြင်း မရှိခဲ့။





အပြင်ဆွမ်းစားများပင့်၍ အိမ်များသို့ ဆွမ်းစားကြွရတဲ့ အခါ မျိုးတွေမှာ အချို့အိမ်များ၏ ဘုရားစဉ်များပေါ်၌ ထူးထူးဆန်းဆန်းတွေ စတင်တွေ့လာရသည်။ ဘိုးတော်၊ ဝိဇ္ဇာကြီးများ၏ ဓာတ်ပုံများ၊ ပန်းချီ ကားချပ်များကို အိမ်အချို့ ဘုရားစင်များပေါ်၌ ဘုရားနှင့်တန်းတူ နေရာပေး၍ ကိုးကွယ်ထားကြသည်ကို တွေ့တွေ့နေရ၍ စိတ်ထဲမှာ မသက်မသာဖြစ်မိသည်။ တစ်ခုခုတော့ မှားနေပြီထင်တယ်ဟု စဉ်စား နေမိခဲ့၏။ ထိုနောက် 'ဘိုးတော်၊ ဝိဇ္ဇာကြီး'များ၏ အခန်းကဏ္ဍ၊ သူတော်ကောင်းကြီးများဖြစ်ကြသော ဘိုးဘိုးအောင်၊ ဘိုးမင်းခေါင် စသော 'ဘိုးတော်၊ ဝိဇ္ဇာကြီး'များ၏ ဘုရားသာသနာအပေါ်၌ ထားရှိ သော စိတ်နေစိတ်ထား၊ ရတနာသုံးပါးအပေါ်၌ သူတို့၏ ယုံကြည်မှု သဒ္ဓါတရား၊ စသည်စသည်များကို တစ်စတစ်စ စတင်စိတ်ဝင်စား လာခဲ့သည်။ထိုအချိန်မှစ၍ ဘိုးတော်၊ ဝိဇ္ဇာနှင့်စပ်သော သမိုင်းကြောင်း များကို စတင်ရှာဖွေဖတ်ရှုခဲ့သည်။ သို့သော် စာတမ်း ရေးနိုင်သည့် အဆင့်သို့ ရောက်မလာခဲ့။ သည်နှစ်ပိုင်းရောက်မှ သွားသင့်သွားထိုက် သော အရပ်ဒေသများသို့ ကိုယ်တိုင်သွားရောက်၍ သုတေသနစာတမ်း အတွက် အချက်အလက်များကို လေ့လာစုဆောင်းနိုင်ခဲ့သည်။ ရာဇဝင် သမိုင်းများ၌ မသဲမကွဲရေးသားထားခဲ့ကြသော သမိုင်းအထောက် အထားများကို သမိုင်းပညာရှင်များနှင့် ဆွေးနွေးခွင့်ရရှိနိုင်ခဲ့သည်။

ဘာသာတရားတစ်ခုကို ကိုးကွယ်ကြရာ၌ 'ဘယ-လာဘ၊ ကုလမယှဉ်၊ မိစ္ဆာကြဉ်လျက်၊ ကြည်လင်သဒ္ဓါ၊ စေတနာနှင့်၊ ဂါရဝ တရား၊ ထိပ်မှာထား၍၊ ဝပ်တွားဝန္ဒနာ ကိုးကွယ်ပါ' ဆိုသည့်အတိုင်း ဘေးကိုကြောက်၍ ကိုးကွယ်ခြင်း၊လာဘ်ကိုမျှော်၍ ကိုးကွယ်ခြင်း၊ ပုဂ္ဂိုလ်(ကုလ)ကို ခင်တွယ်၍ ကိုးကွယ်ခြင်းမျိုးတို့ကို ရှောင်ရှားလျက်၊ အသိမှား၊ အမြင်မှားများနှင့်ယှဉ်သော မိစ္ဆာဒိဋ္ဌိ အမှားမျိုးနှင့် ကိုးကွယ် ခြင်းမျိုးကိုလည်း ရှောင်ရှားလျက် ကြည်လင်သောသဒ္ဓါ ဖြူစင်သော

စေတနာတို့နှင့် ကိုးကွယ်တတ်ကြရမည်။ထိုသို့မဟုတ်ပါမူ 'နဖူးပွန်းနှင့်၊ ဒူးပွန်းခံကာ၊ ကိုးကွယ်ပါလည်း၊ ဆရာလွဲက၊ ငရဲအပါယ်၊ ကျတတ်တယ်' ဟူသော ပညာရှိစကားကို အမှတ်ရသင့်သည်။ ဤသည်တို့ကို စံပြု၍ ခေတ်သစ် 'ဘိုးတော်'များ၏ အလေ့အကျင့်များကို လေ့လာသုံးသပ်ခဲ့သည်။ ခေတ်သစ် 'ဘိုးတော်'များသည် လောက၏ အထာကို ကျွမ်းကျင်ကြသည်။ လောက၌ 'လောဘကြီးသူသည် ပို၍ အလိမ်ခံရတတ်သည်'' ဆိုသည့်သဘော သဘာဝမှာ လောကနိယာမသဘောပင် ဖြစ်နေပြီ။ ဆိုလိုသည်မှာ လောဘကြီးသူများကို လိမ်ရခြင်းသည် ပို၍လွယ်ကူသည်ဟု ဆိုလိုရင်း ဖြစ်သည်။ ရွှေဖြစ်၊ ငွေဖြစ်၊ ပြဒါးဝိဇ္ဇာ၊ သံဝိဇ္ဇာများဖြစ်သော ရှင်အဇ္ဇဂေါဏ မထေရ်ကဲ့သို့သော ပုဂ္ဂိုလ်မျိုးကို ယုံကြည်ကိုးကွယ်လျှင်၊ ဘိုးဘိုးအောင် ဘိုးမင်းခေါင်ကဲ့သို့သော ပုဂ္ဂိုလ်မျိုးကို ပူဇော်ပသလျှင် ဘာဖြစ်မည်၊ ညာဖြစ်မည်စသည်ဖြင့် ဝိဇ္ဇာမဟိဒ္ဓိ သိဒ္ဓိရှင်တို့၏ တန်ခိုးအစွမ်းများကို အစွမ်းကုန်ယူ၍ ကိုးကွယ်ယုံကြည်သူတို့အား လောဘရမ္မက်လှိုင်းများကို ထစေခဲ့ကြသည်။ ကိုးကွယ်ယုံကြည်သူများသည် သူတော်ကောင်း 'ဘိုးတော်၊ ဝိဇ္ဇာကြီး'များကို ပူဇော်ပသသည်ဟု အထင်ရောက်နေခဲ့ကြသော်လည်း တကယ်သူတို့ ကိုးကွယ်ပူဇော်ပသ နေသူတို့ကား လောကသဘာဝကို ကျွမ်းကျင်ကြသော 'ဘိုးတော်တု၊ ဘိုးတော်ယောင်များ' ကိုသာ ပူဇော်ပသနေခြင်းဖြစ်သည်။ သတိထားစရာပင်။

ဗုဒ္ဓဘာသာဝင်အချို့သည် တစ်ခါတစ်ရံ၌ အသိတရား၊သတိတရား၊ ဆင်ခြင်တုံ၊ မြော်မြင်တုံတရားများ အားနည်းလွန်းလှသည်။ ထိုအခါမျိုး၌ မသူတော်တို့သည် သူတော်စဉ်များ ဖြစ်ကြသော ဘိုးဘိုးအောင်၊ဘိုးမင်းခေါင်ကဲ့သို့သော ဘိုးတော်ကြီးများကို ပရိယာယ်ကြွယ်ကြွယ်ဖြင့် ယုံကြည်စေနိုင်ခဲ့ကြသည်။ ထိုဘိုးတော်ကြီးများကို ဘုရားစင်ပေါ်၌ ဘုရားနှင့်တန်းတူထား၍ ကိုးကွယ်လာသည်အထိ



ဖြစ်စေခဲ့ကြသည်။ မကြံစည်အပ်၊ မကြံစည်ထိုက်သော အမှုတို့ကို ပြုရဲဘိ၏ဟု ခံစားမိ၏။ စာရေးသူ ပုပ္ပါးတောင်ကလပ်သို့ လေ့လာရေးခရီးထွက်ခဲ့စဉ်က ဘိုးမင်းခေါင်မွေးစားသော မွေးစားသားကို ကိုယ်တိုင်တွေ့ခဲ့ရသည်။ သူ၏နာမည်က ဦးစံဖေ (၆၆–နှစ်) ဖြစ်သည်။ သူ၏အိမ်အပေါ်ထပ်၌ ဘိုးမင်းခေါင်နှင့် ဘိုးမင်းခေါင်၏ အသုံးအဆောင်ပစ္စည်းများကို ဘုရားစဉ်နှင့် သီးခြားထား၍ ကိုးကွယ်ထားသည်ကို တွေ့ရှိရ၍ ဘုရားစဉ်ပေါ်မှာ ဘိုးဘိုးအောင်ပုံကို အတူထား၍ ဘာကြောင့် မကိုးကွယ်သလဲဟု မေးမြန်းကြည့်ရာ 'ကြံကြီးစည်ရာ၊ ဘုရား ဘုရားရှင် ကိုယ်တော်မြတ်ကြီးဆိုတာ အတုမဲ့၊ အနှိုင်းမဲ့ဖြစ်တဲ့ပုဂ္ဂိုလ်၊ ဘယ်သူမျှ မနှိုင်းယှဉ်နိုင်ဘူး၊ အဘရှိစဉ်အခါတုန်းက ဘုရားရှင်၏ အဆုံးအမများကို ဦးထိပ်မှာထားပြီး ရှိသေလိုက်နာတာကို တွေ့ရတယ်၊ အဘက စကားမပြောဘူး၊ သုံးနှစ်တစ်ကြိမ်လောက် ပါးစပ်က ပျစ်တောက်ပျစ်တောက်နဲ့ပြောတာ၊ ဒါကို လူတွေက လိုက်မှတ်ကြတာ' ဟု စာရေးသူ၏အမေးကို ဖြေကြားရင်း သူမှတ်မိနေသေးသော ဒွေးချိုးလေးတစ်ပိုဒ်ကို ရွတ်ပြခဲ့သည်။ ''နဝင်းပါရွာအနီး၊ သိမ်ပျက်ကြီးနဲ့ ဘုရားကိုတည်၊ ထည့်ဝင်ကြလူအများ။ ပြောစကားရယ်နဲ့၊ ဟောကြားတာ နားဝင်ကြယင်ဖြင့်၊ တို့သခင်လာချိန်တန်တော့ (နောင်ပွင့်မည့်ဘုရား)၊ လက်ဆောင်တော်ဝေမဲ့ပွဲ (တရားလက်ဆောင်)၊ နွဲ့ကြစို့ပဲ။ အကျင့်မွဲရယ်နဲ့ . . ဟယ်၊ အမြဲအလိုရှိရင်ဖြင့်၊ တို့သခင် လာချိန်တန်တော့၊ လက်ဆောင်တော်ဝေမဲ့ပွဲ၊ လွဲကြဖို့ပဲ။''

ဗုဒ္ဓဘာသာဝင်အချို့သည် 'မှတစ်ပါး ကိုးကွယ်ရာမရှိ' ဆိုသည့် မိမိတို့၏ မူလယုံကြည်ချက်များကို အသိမယှဉ်နိုင်၊ သတိမယှဉ်နိုင်ကြ၍ 'အုတ်အရော ကျောက်အရောရော' ဖြစ်ကာ ဘိုးဘိုးအောင်၊ ဘိုးမင်းခေါင်တို့ကို ဘုရားစင်ပေါ်မှာ အတူထားလိုထား အတူပြု၍ ကိုးကွယ်လို ကိုးကွယ်၊ ဘာတွေမှန်းမသိဖြစ်နေခဲ့သည်မှာ ဘာသာ

တရားအတွက် ရင်လေးမိပါ၏။ ဘိုးဘိုးအောင်၊ ဘိုးမင်းခေါင်တို့၏ ပုံများ အချို့သောဗုဒ္ဓဘာသာဝင်များ၏ ဘုရားစဉ်ပေါ်၌ တွေ့နေရ၍ ဘာသာနဲ့ သာသနာအတွက် စိတ်မကောင်းဖြစ်နေရချိန်မှာ စင်ကာပူနိုင်ငံတို့လို၊ မလေးရှားနိုင်ငံတို့လို နိုင်ငံများရှိ အချို့မြန်မာများ၏ ဘုရားစင်များပေါ်၌ ထိုပုံများကို စတင်တွေ့ရှိလာရ၍ အံ့ဩရပြန်သည်။ ထပ်မံဝမ်းနည်းရပြန်သည်။ စားရေး သူသိထားသော စင်ကာပူနိုင်ငံသားတစ်ယောက်၏ ရုံးခန်းထဲရှိ ဘုရားစင်ပေါ်၌ ဘိုးဘိုးအောင်၊ ဘိုးမင်ခေါင်တို့ကို ရုတ်တရက်တွေ့လိုက်ရ၍ အကြီးအကျယ် အံ့ဩမိသည်။ ဘယ်လိုဖြစ်ရတာလဲဟု ကိုယ့်ကိုယ်ကို ပြန်မေးမိ၏။ ထိုပုဂ္ဂိုလ်သည် စားရေးသူနှင့် အတော်ရင်းနှီး၍ ဘာ့ကြောင့် ဒီရုပ်ပုံများကို ဘုရားစင်ပေါ်မှာ တင်ထားရသလဲဟုမေးတော့ 'သူတော့ အတိအကျမသိပါဘူးတဲ့။ မြန်မာသူငယ်ချင်းတစ်ယောက်က ဒီပုံများ (ဘိုးဘိုးအောင်၊ ဘိုးမင်းခေါင်)ကို ကိုးကွယ်ပူဇော်ပသလျှင် စီးပွားဥစ္စာများ တိုးတက်ပြီး၊ ချမ်းသာကြီးပွားသည်ဆို၍ ဘုရားစင်ပေါ်မှာ တင်ထားပြီး ငှက်ပျောပွဲ၊ အုန်းပွဲများဖြင့် ပူဇော်ပသနေကြောင်း'အဖြေပေး၏။ အံ့ဩစရာပင်။

ဗုဒ္ဓဘာသာဝင်အများစုသည် ကမ္မဿကတာသမ္မာဒိဋ္ဌိ (ကံတရားကို မှန်မှန်ကန်ကန် သုံးသပ်ဆင်ခြင်နိုင်သောဉာဏ်အမြင်) သဘောကိုမျှ နားမလည်နိုင်ကြပါတကားဟု ဩချမိပါ၏။ ဗုဒ္ဓဘာသာဝင်တို့အတွက် ဝမ်းနည်းမိသလိုလည်း ရင်တွင်းမှာ ခံစားမိ၏။ 'ဩော်. . ရွှေမြန်မာတို့ရယ် ဘာသာတရားနဲ့ပတ်သက်လာရင် ကိုယ်မသိလည်း အသာနေကြရောပေါ့။အများကိုတော့ အယူမှားတွေ ဖြစ်အောင်၊ အယူမှားတွေထဲရောက်အောင် မတိုက်တွန်းသင့်ဘူး''ဟု ပြောရုံမှလွဲ၍ ဘာမျှမတတ်နိုင်ပြီ။ သာသနာတော်ကို ကိုးကွယ်ယုံကြည်မှုများ၌ တစ်ခုခုတော့ မှားနေပြီလို့ စဉ်းစားမိရင်း ခေါင်းကိုမသိမသာ ခါရမ်းမိတော့သည်။ မြတ်ဗုဒ္ဓ၏ သာသနာတော်ကြီး အတွင်းရန်၊ အပြင်ရန်စသော ဘေးအန္တရာယ်အပေါင်းမှ ကင်းဝေးနိုင်ပါစေဟု စိတ်ဆန္ဒတွေ ဖြစ်နေမိ၏။

ဤနေရာ၌ မေးစရာတစ်ခုရှိလာ၏။ လူတိုင်းလူတိုင်း ဘာသာတရားယုံကြည်ကိုးကွယ်မှုနှင့် ပတ်သက်၍ လွတ်လပ်စွာ ကိုးကွယ်ခွင့်ရှိသည်မဟုတ်ပါလားဟူသော မေးခွန်းမျိုးကို မေးနိုင်ပါ၏။ လွတ်လပ်စွာ ကိုးကွယ်ခွင့်မျိုးဆိုသည်မှာ သူတစ်ပါး၏ယုံကြည်မှုကို မိမိပယောဂကြောင့် မပျက်စီးစေဘဲ၊ ပြည်သူတို့အကြား ကိုးကွယ်မှုနှင့် စပ်လျဉ်း၍ ငြိမ်းချမ်းစွာ အသွင်ကူးပြောင်းစေမှသာလျှင် လွတ်လပ်စွာ ကိုးကွယ်ခွင့်၏အနှစ်သာရကို ပေါ်လွင်စေနိုင်သည်ဟု စာရေးသူ ယုံကြည်ထားသည်။ သာသနာတော်ကို ကြည်ညိုနေသူတို့အား ခြောက်လန့်ခြင်း၊ ဖျားယောင်းခြင်း၊ ငွေကြေးမနများဖြင့် သိမ်းသွင်းခြင်းမျိုးတို့သည် ယုံကြည်ကိုးကွယ်သူတို့၏ လူမှုရေးကျင့်ဝတ်များကို ချိုးဖောက်ဖျက်ဆီးနေသည်ဟု ယူဆမိသည်။ ထို့ကြောင့် ထိုအပြုအမူများကို ရှောင်ရှားနိုင်ရန် သတိပေးခြင်းသာဖြစ်သည်။ ဘယ်အရာမျိုးမဆို မျှတမှုမရှိလျှင် ငြိမ်းချမ်းမှုဆိုတာ ဘယ်သောအခါမှ ရလာနိုင်မည်မဟုတ်ပါ။ စည်းဖောက်ခြင်းသည် လူသားတို့၏ ကျင့်ဝတ်သိက္ခာကို အစွန်းထင်စေနိုင်ပြီး၊ စည်းစောင့်ခြင်းသည် လူသားတို့ နေထိုင်ရာကမ္ဘာကြီးကို ငြိမ်းချမ်းစေနိုင်သည်။ လူသားများ ငြိမ်းချမ်းစွာ နေထိုင်နိုင်ခြင်း၊ မနေထိုင်နိုင်ခြင်းသည် လူသားများကပင် ဖန်တီးနေသည် မဟုတ်ပါလား။

## ရှိတယ်ဆိုတိုင်း ရှိနိုင်သလား

ဘာသာတရားကို ယုံကြည်မှု၊ ဂိုဏ်းဂဏတစ်ခုခုကို ယုံကြည်မှုမျိုးဆိုတာ အလွန်သိမ်မွေ့လှသည်။ ဘာသာတရားက 'ရှိတယ်' ဆိုတိုင်းလည်း 'အရှိတရား'ဟု ယုံကြည်ရခက်သလို၊ 'မရှိဘူး'ဆိုတိုင်းလည်း 'မရှိတရား'ဟု ယုံကြည်ရခက်ပြန်သည်။ ထို့ကြောင့် ဘာသာရေးဆိုင်ရာ စာတမ်းတစ်ခု (သို့မဟုတ်) စာအုပ်တစ်အုပ်ကို ရေးသားတော့မည်ဆိုလျှင် အထူးသတိထားရပါသည်။ တစ်ခါက ဘာသာရေးဆိုင်ရာ စာတမ်းတစ်ခုကို ထုတ်ပြန်လိုက်မှုကြောင့် သမိုင်းတွင် လောက်အောင် အကြီးအကျယ်တုန်လှုပ်ခြောက်ခြားမှုကြီးတစ်ခု ဖြစ်ပွားခဲ့ဖူးသည်။ ထုတ်ပြန်ရေးသားသူက ဂျာမန်ဖီလိုဆိုဖာ ဖရက်ဒ်ရိချ်နိ(တ်)ချီ (Friedrich Nietzsche)ဖြစ်သည်။ ရေးသားချက်က 'ဘုရားရှင်သေပြီ (God is dead)' ဆိုတဲ့ရေးသားချက်ဖြစ်သည်။ သူ၏ယုံကြည်ချက်က 'လူအများစုဟာ 'ဘုရားရှင်သေသွားပြီ'ဆိုတဲ့ အမှန်တရားကို လက်မခံနိုင်ခြင်း၏ အခြေခံအကြောင်းတရားဟာ အကြောက်တရားနဲ့ စိုးရိမ်မှုတရားတွေက လွှမ်းမိုးထားခြင်းကြောင့် ဖြစ်သည်လို့'' ထုတ်ပြန်ရေးသားလိုက်ခြင်းကြောင့်ဖြစ်တယ်။[၃] ဘာပြောကောင်းမလဲ၊ ဖန်ဆင်းရှင်ကို ယုံကြည်ကိုးကွယ်နေတဲ့ အနောက်တိုင်းကမ္ဘာကြီးတစ်ခုလုံးနီးပါး တုန်လှုပ်ချောက်ခြားသွားခဲ့တယ်။ အခုလည်း အလားတူများ ဖြစ်နေမလားမသိ။'ဘိုးတော် ဝိဇ္ဇာကြီးများက သေပြီးပြီ၊ လုံးဝမရှိတော့ဘူး' ဟု တစ်စုံတစ်ယောက်က သတင်းထုတ်ပြန်ခဲ့မည်ဆိုလျှင် အကြောက်တရားကြောင့် အကြောက်အကန်ငြင်းဆိုကြမည်မှာ အထူးပြောဖွယ်မလိုပြီ။ အမှန်မှာ သေတတ်သည့် သဘောရှိသည့် ပုဂ္ဂိုလ်တစ်ဦး

[၃]Nietzche believed that the majority of people did not recognize this death out of the deepest-seated fear or angst. <www.en. wikipedia.org/wiki> *December 7,2009*.



တစ်ယောက် သေဆုံးသွားခြင်းသည် တရားသဘောအရ ဘယ်သူ့ကိုမှ နစ်နာသွားခြင်း မရှိပါ။ အယူမှားခြင်း၊ ကိုးကွယ်မှု မှားခြင်းမျိုးကသာ မှားယွင်းစွာ ယုံကြည်ကိုးကွယ်သူတို့အား နစ်နာသွားစေနိုင်ပါသည်။

ယုံကြည်မှုတရားမျိုးဆိုတာ အပယ်ခက်၊ အနုတ်ခက်သော တရားမျိုးဖြစ်၍ မိမိယုံကြည်ထားသော အကြောင်းအရာတစ်ခုကို အကယ်၍များ တစ်စုံတစ်ယောက်က ပြောဆိုလာခဲ့လျှင် (သို့မဟုတ်) ရေးသားလာခဲ့လျှင် သည်းခံနိုင်ဖို့ ခက်ခဲလှသည်။ သင့်တော်တာ မတော်တာ၊ အကျိုးရှိတာ မရှိတာ၊ မှန်တာ မမှန်တာကိုအသာထား မိမိယုံကြည်ထားတာကိုပဲ သူတစ်ပါးတို့အား ပြောစေချင်သည်၊ ရေးစေချင်သည်။ ဒါဟာလည်း လူ့သဘာဝပါပဲဟု နစ်လုံးသွင်းမိပါ၏။ ဗုဒ္ဓဘာသာဝင်များ အကြားမှာလည်း ဘုရားပရိနိဗ္ဗာန်စံမှု၊ မစံမှု (သေမှု၊ မသေမှု) နှင့်ပတ်သက်၍ ပြဿနာက မသေးလှပေ။ 'ဘုရားပရိနိဗ္ဗာန်စံသွားပြီ'ဆိုတဲ့ ရေးသားချက်ကို လက်မခံလိုတဲ့ မဟာယာနဂိုဏ်းဝင်တို့သည် ဘုရားရှင်ကို (၃)ကိုယ်ခွဲ၍ ယုံကြည်ကိုးကွယ်ထားကြသည်။ ထိုသုံးမျိုးမှာ (၁)ဓမ္မကာယ(ဓမ္မခန္ဓာကိုယ်) (၂) သမ္ဘောဂကာယ (အာရုံကို ခံစားနိုင်သောခန္ဓာကိုယ်) (၃) နိမ္မာနကာယ (ဖန်ဆင်းထားသော ပကတိခန္ဓာကိုယ်)ဟူ၍ ဘုရားရှင်၏ ခန္ဓာကိုယ်ကို သုံးမျိုးခွဲလိုက်သည်။ ဘုရားရှင်၏ ပကတိခန္ဓာကိုယ်သည် ဘုရားပရိနိဗ္ဗာန်စံသွားပြီဖြစ်သော်လည်း ဘုရားရှင်၏ သမ္ဘောဂကာယ(အာရုံကို ခံစားနိုင်သောခန္ဓာကိုယ်)သည် နတ်ပြည်၌ ဆက်လက်ထင်ရှားရှိနေသေးသည်ဟု ယုံကြည်လက်ခံထားကြသည်။[၂]ထို့ကြောင့် ထိုအယူဝါဒကို ကောင်းစွာလက်ခံထားသော ပုဂ္ဂိုလ်များသည် *The Journey to the West*

[၂]Takeuchi Yoshinori, ed., Buddhist Spirituality: Later China, Korea, Japan and the Mordern World. Vol.II (New York; Crossroad Press, 1999) 396.

တရုပ်ရုပ်ရှင်ကား၌ သူတို့၏ အယူဝါဒဖြစ်သော ဘုရားရှင်သည် နတ်ပြည်၌ သက်ရှိထင်ရှားရှိနေသေးသည်ဟူသော ယုံကြည်မှုကို ထည့်သွင်းရိုက်ကူးထားသည်ကို တွေ့ရသည်။ သုခဝတီဘုံဆိုတာ ဘုရား၊ ရဟန္တာများစံရာ နတ်ပြည်ဟု 'ပြုံးဝါးလင့်ဒ် ဗုဒ္ဓဘာသာ ဂိုဏ်းဝင်' (Pureland Buddhism)များက အဓိကအားဖြင့် လက်ခံ ယုံကြည်ထားကြသည်။ 'အမှားကြာယင် အမှန်ဖြစ်' ဆိုတဲ့ လောက ဓမ္မတာသဘောအတိုင်း မရှိတရားက အရှိတရားဖြစ်နေတတ်သည် မှာလည်း အံ့သြစရာပင်။

သင်္ခါရသဘောတရားများကို သဗ္ဗညုတရွှေဉာဏ်တော်ဖြင့် ကောင်းစွာနားလည်ထားပြီးဖြစ်သော မြတ်ဗုဒ္ဓသည် ရုပ်ခန္ဓာသည် လည်းမမြဲ၊ နာမ်ခန္ဓာသည်လည်းမမြဲ၊ တန်ခိုးအာနုဘော် ကြီးမားတော် မူကြသော ဘုရား၊ ရဟန္တာများ၏ ခန္ဓာသည်လည်းမမြဲဟု ချွင်းချက် မထားဘဲ ဟောကြားထားပြီးဖြစ်သည်။ ထိုသို့ဖြစ်လျက် ဘာသာတရား ကို ယုံကြည်နေသူအချို့သည် မြတ်ဗုဒ္ဓ၏ တရားတော်များကို ချွင်းချက် ထား၍ ယုံကြည်လက်ခံထားလိုကြသည်။ ဘိုးတော်ဝိဇ္ဇာများ (ဘိုးဘိုး အောင်၊ ဘိုးမင်းခေါင်စသော ပုဂ္ဂိုလ်ကြီးများ)သည် ထွက်ရပ်ပေါက် ပုဂ္ဂိုလ်ကြီးများဖြစ်၍ ယခုအချိန်ထိ အသက်ထင်ရှားရှိနေဆဲဖြစ်သည်ဟု ယုံကြည်ယူဆထားကြသည်။ မှားသည်ဖြစ်စေ၊ မှန်သည်ဖြစ်စေ အယူ ဝါဒတစ်ခုခုကို လက်ခံယုံကြည်ထားကြပြီဆိုလျှင် အနုတ်ခက်၊ အဖြုတ် ခက်လှသည်ကို နားလည်ထားရပေမည်။ တန်ခိုးအာနုဘော်ကြီးတော် မူကြသော ဘုရား၊ ရဟန္တာများသည်ပင် မလွန်ဆန်နိုင်သော သေခြင်း တရားကို ဉာဏ်ဖြင့်မသက်ဝင်နိုင်သေးသမျှ ကာလပတ်လုံး၊ အသိ တရားများဖြင့် နားမလည်နိုင်သေးသမျှကာလပတ်လုံး မှားယွင်းသော ယုံကြည်မှုများကို စွဲလမ်းနေတတ်သော ဥပါဒါန်အစွဲများကို ပယ်ဖျက်ဖို့ ဆိုတာ လွယ်တာမှမဟုတ်တာ။





သို့သော် ဖြစ်နိုင်ခြေတစ်ခုက အယူဝါဒတစ်ခုကို လက်ခံ ကျင့်သုံးမိပြီဆိုလျှင် သင့်မသင့်၊ အကျိုးရှိမရှိ ဉာဏ်ဖြင့် ဆင်ခြင် စဉ်းစားတတ်ခြင်းသည် ဓမ္မနည်းလမ်းကျသည်ဟု စာရေးသူ ယူဆ မိသည်။ အမှန်လမ်းပေါ်သို့ ပြန်လည်ရောက်ရှိနိုင်စေရန် တည့်မတ် ပေးနိုင်သောပုဂ္ဂိုလ်သည် တစ်နေ့နေ့တချိန်ချိန်တွင် ဉာဏ်လမ်းပေါ်သို့ ရောက်ရှိသွားနိုင်သည်။ ဉာဏ်လမ်းပေါ်သို့ ရောက်သောအခါမှ 'သစ္စာ မမြင်၊ မဂ္ဂင်မပါ၊ လေ့ကျင့်ခါဖြင့်၊ ချမ်းသာမြဲမည်၊ မယုံကြည်၊ ကုန်ပြီ သီလဗ္ဗတပရာမာသ'ဟု ဟောတော်မူခဲ့သည်ကို နားလည်သဘောပေါက် နိုင်ကြမည်ဖြစ်သည်။ ဆင်ခြင်တုံ၊ မြော်မြင်တုံတရားများဖြင့် အချိန်မီ သတိတရားများ ရနိုင်ကြပါစေ။

## သေခြင်းတရားရှိသလို ရှင်သန်ခြင်းတရား ရှိနိုင်သလား

ထွက်ရပ်ပေါက်သွားကြသည်ဟု ယုံကြည်ယူဆခံထားရသူ များသည် အသက်ထင်ရှားရှိလျက် တစ်နေရာရာ၌ တည်ရှိနေသည်ဟု ယူဆ၍ ကိုးကွယ်ပူဇော်ပသနေကြသည်မှာ ယုတ္တိလွန်အတွေး အခေါ်များဟု ယူဆမိသည်။ အသက်ရှည်ခြင်းတရားနှင့်ပတ်သက်၍ ဇာတ်အဋ္ဌကထာများ၌ ဝိဇ္ဇာဇော်ဂျီများ ရှိခဲ့ဖူးကြောင်း၊ ဝိဇ္ဇာဇော်ဂျီ များ၏သက်တမ်းသည် ထောင်သောင်းချီ၍ ရှိခဲ့ကြောင်းများကို အတိ အလင်းမှတ်တမ်းများတင်ထားခဲ့ကြသည်။ ထိုပါဠိစာပေများကို အကိုးအကားပြု၍ 'ဘိုးတော်၊ ဝိဇ္ဇာများ'ကို ယုံကြည်လက်ခံထား သူများသည် ဘိုးတော်ကြီးများ၏ သက်တမ်းများသည်လည်း ထောင် ချီ၍အသက်ရှည်နိုင်ကြောင်းကို မှန်းဆလျက် လက်ခံယုံကြည်ထားကြ သည်။ ကျမ်းဂန်သဘောနှင့် နီးနှောပြောရလျှင် ဖြစ်နိုင်ချေရှိသည်ဟု ဆိုကောင်းဆိုနိုင်ပါသည်။ သို့သော် လောကဓမ္မတာသဘောကို လွန်ဆန်နေသောကြောင့် ထွက်ရပေါက်သွားသည်ဟု ယူဆခံထား

ရတဲ့ ဘိုးဘိုးအောင်၊ ဘိုးမင်းခေါင်စသော ပုဂ္ဂိုလ်ကြီးများ အသက်ထင်ရှားရှိနေသေးသည်ဟူသော အယူအဆသည် အစွဲအလမ်းကို အခြေခံ၍ အကြောက်တရားနှင့် စွဲလမ်းယူဆထားသော အယူများသာဖြစ်ကြောင်း ကောက်ချက်ချမိသည်။

ကျမ်းဂန်များ၌ ဝိဇ္ဇာဇော်ဂျီများ၏ သက်တမ်းသည် တစ်သောင်းတမ်း၊ နှစ်သောင်းတမ်းရှိသည်ဆိုရာ၌ ထိုအဆိုကိုမူ လက်ခံနိုင်သည်။ အဘယ်ကြောင့်ဆိုသော် ထိုခေတ် ထိုအခါက လူတို့၏ သက်တမ်းသည်လည်း အလွန်ရှည်ကြာသည်။ ဤကမ္ဘာ၌ ဘုရားလေးဆူ ပွင့်တော်မူပြီးဖြစ်ရာ ကကုသန်မြတ်စွာဘုရားလက်ထက်၌ လူတို့၏ သက်တမ်းသည် လေးသောင်း၊ ကောဏာဂုံမြတ်စွာဘုရားလက်ထက်၌ လူတို့၏သက်တမ်းသည် သုံးသောင်း၊ ကဿပမြတ်စွာဘုရားလက်ထက်၌ လူတို့၏သက်တမ်းသည် နှစ်သောင်းတမ်းဖြစ်၍ ထိုခေတ်ထိုအခါက လူတို့၏ သက်တမ်းသည်လည်းကောင်း၊ ဝိဇ္ဇာဇော်ဂျီတို့၏ သက်တမ်းသည်လည်းကောင်း အနည်းဆုံး နှစ်သောင်းတန်းအထိ ရှိနိုင်ကြောင်းကို ကျမ်းဂန်သဘောနှင့် နှီးနှော၍ သိရှိနိုင်သည်။သို့သော် ဤခေတ် ဤအခါ၌ လူတို့သက်တမ်းသည် ဂေါတမမြတ်စွာဘုရားသက်တော်ထင်ရှား ပွင့်တော်မူစဉ်ကပင် သက်တမ်းသည် ရာတမ်းမျှသာရှိ၍ ဘိုးတော်ကြီးများ၏ သက်တမ်းသည် နှစ်ရာ၊ သုံးရာရှည်သည်ဟူသော ယုံကြည်မှုများသည် ယုတ္တိလွန် အယူဝါဒမျိုးဖြစ်၍ ထိုယုံကြည်မှုမျိုးကို လက်ခံနိုင်ဖို့ဆိုသည်မှာ 'ယုံချို၊ လိပ်မွေးရှိသည်' ဟူသော စကားကို လက်ခံရသည်နှင့် ပမာတူနေပေတော့သည်။

ဤကဲ့သို့ ကျမ်းဂန်စကားများကို ထောက်ရှု၍ ဘုရားရှင်နှင့် ရဟန္တာအရှင်မြတ်များ ပရိနိဗ္ဗာန်စံသွားပြီ(သေသွားပြီ)ဟူသော ပြောဆိုချက်များသည်လည်းကောင်း၊ ဘိုးတော်ကြီးများ ကွယ်လွန်သွားပြီ (သေသွားပြီ) ဟူသော ပြောဆိုချက်များသည်လည်းကောင်း ကျမ်းဂန်များနှင့် ညီညွတ်၍ လက်ခံသင့်သည်။ သို့သော် ယုံကြည်ထားလို့ အသက်ရှင်နေတာမျိုး၊ ထင်ရှားရှိနေတာမျိုးကတော့ ယုံကြည်မှုသက်သက်မျှသာဟု ဆိုရပေတော့သည်။ တကယ်ထင်ရှားမရှိသော်လည်း ယုံကြည်လက်ခံထားလျှင် ရှိနေတတ်သည့်သဘောကို မေ့ထား၍မရနိုင်ပါ။ သေတတ်တဲ့ သဘောရှိသည့် ပုဂ္ဂိုလ်သတ္တဝါများ သေဆုံးသွားခြင်းမျိုးဆိုတာ သဒ္ဓါရတရားသဘောအရ ဘာမျှထူးဆန်းလှသည်မဟုတ်ပါ။ ထို့ကြောင့် မြတ်စွာဘုရား တရားတော်တွင် မဂ္ဂင်ရှစ်ပါး၏ အနှစ်ချုပ်ကို ပြဆိုရာ၌ သမ္မာဒိဋ္ဌိ-မှန်ကန်သော အမြင်ကို ရရှိခြင်း (သို့မဟုတ်) သစ္စာတရားများကို မှန်မှန်ကန်ကန် သိမြင်ခြင်းဟု မြတ်ဗုဒ္ဓက အတိအလင်းဖွင့်ဟမိန့်ကြားတော်မူခဲ့သည်။ သတ္တဝါများ တရားရ၍ အေးချမ်းသာယာရှိကြပါစေ။

## ယုံကြည်မှုနှင့် သဒ္ဓေတည်

ဘာသာတရားတစ်ခုကို ယုံကြည်လက်ခံကြရာ၌ အဓိကအခြေခံ အကြောင်းရင်းမှာ (ဗုဒ္ဓဘာသာရှုထောင့်မှ ကြည့်လျှင်) သဒ္ဓါတရားဖြစ်သည်။ ထိုသဒ္ဓါတရားကို အခြေခံ၍ မှန်တာကိုလည်း ယုံကြည်တတ်သည်။ မှားတာကိုလည်း ယုံကြည်တတ်သည်။ ဉာဏ်နှင့်ယှဉ်၍ ယုံကြည်တတ်သူများက အမှန်းတရားကို လက်ခံယုံကြည်ပြီး၊ ဉာဏ်နှင့်မယှဉ်နိုင်ဘဲ ယုံကြည်တတ်သူများကမူ ယုံမိယုံရာကို လက်ခံယုံကြည်တတ်ကြသည်။ မှားသည်လည်းရှိမည်၊ မှန်သည်လည်းရှိမည်။ ထို့ကြောင့် ယုံကြည်ကိုးကွယ်ကြရာ၌ ကြောက်လန့်ခြင်း၊ မျှော်လင့်ခြင်း၊ လွှမ်းမိုးခြင်း၊ ရယူခြင်း၊ ပေးဆပ်ခြင်း၊ စောင့်ရှောက်ခြင်း၊ ကာကွယ်ခြင်း၊ အယူမှန်ခြင်း၊ အယူမှားခြင်းစသော အကြောင်းများစွာ ပါဝင်နိုင်သည်။ ဥပမာ၊ နတ်များကို နတ်ကတော်၊ နတ်ထိန်းများက ကိုးကွယ်ပူဇော်ပသခြင်းနှင့် ပူဇော်သူတို့က နတ်များကို ယုံကြည်ကိုးစား၍

ကိုးကွယ်ပူဇော်ပသခြင်း၊ ဤပူဇော်ခြင်းနှစ်ခုတို့အကြား၌ အမြင်ခြင်း၊ ယုံကြည်မှုခြင်း မတူနိုင်ပေ။ နတ်ကတော်တို့က ပူဇော်ပသသူတို့ထံမှ တစ်စုံတစ်ခုကို ရယူနိုင်ရန် နှလုံးသွင်း၍ ပူဇော်ပသကြသည်။ ပူဇော်ပသသူတို့က စောင့်ရှောက်ခြင်း၊ ကာကွယ်ခြင်းတို့ကို နတ်တို့ထံမှ ရယူနိုင်ရန် နှလုံးသွင်း၍ ပူဇော်ပသကြသည်။ ဘိုးတော်ဝိဇ္ဇာများကို ယုံကြည်ကိုးကွယ်ကြရာ၌လည်း ထိုနည်းတူစွာပင်။ ဘိုးတော်တု ဘိုးတော်ယောင်များက ဘိုးတော်ကြီးများကို ကိုးကွယ်ကြရာ၌ လွှမ်းမိုးခြင်း၊ ရယူခြင်းတို့ကို အလေးပြု၍၊ ယုံကြည်ကိုးကွယ်သူများက ဘိုးတော်ဝိဇ္ဇာများကို ကိုးကွယ်ကြရာ၌ မျှော်လင့်ခြင်း၊ စောင့်ရှောက်ခံလိုခြင်းတို့ကို အလေးပြု၍ ကိုးကွယ်လျက်ရှိကြောင်း သိနိုင်ပေသည်။ ဘာသာဝင်အများစုတို့၏ မိမိဆိုင်ရာ ကိုးကွယ်ပူဇော်ပသနည်းများသည်လည်း ဤနည်း၊ ဤစည်း၊ ဤဘောင်အတွင်း၌သာ ရှိပေလိမ့်မည်။ သို့သော် ယုံကြည်ကိုးကွယ်သူတို့၏ ဆန္ဒများသည် တစ်ဦးနှင့် တစ်ဦး တူညီနိုင်မည်တော့ မဟုတ်ပါ။

ဘာသာတရားများကို ယုံကြည်ကိုးကွယ်ကြရာ၌ ယုံကြည်ကိုးကွယ်သူတို့၏သဘောဆန္ဒအရ လွတ်လပ်စွာ ကိုးကွယ်ခွင့်များရခြင်းမျိုးက နည်းနေတတ်သည်။ ပတ်ဝန်းကျင်မှ တရားသဖြင့် လှုံ့ဆော်မှုများ၊ မတရားသဖြင့် လှုံ့ဆော်မှုများ၊ ဤအခြေခံအကြောင်း နှစ်ချက်ပေါ်တွင် အများအားဖြင့် မူတည်နေတတ်သည်။ ဥပမာ၊ ကလေးငယ်တစ်ယောက်သည် ဘာသာတရားကို ယုံကြည်ကိုးကွယ်ရာ၌ မိဘနှစ်ပါးကိုးကွယ်သော ဘာသာတရားကိုသာ အများအားဖြင့် ကိုးကွယ်တတ်ကြသည်။ မိဘများသည်လည်း မိမိတို့၏ သားသမီးများအား မိမိတို့ကိုးကွယ်ထားသော ဘာသာတရားကို သိရှိနားလည်အောင် ကြိုးစား၍ သင်ကြားပေးခြင်း (သို့မဟုတ်) သင်ကြားပေးစေခြင်း၌ များစွာမူတည်နေပါသည်။ သို့သော် ထိုကဲ့သို့သော လှုံ့ဆော်မှုမျိုးကိုမူ





တရားသဖြင့် လှုံ့ဆော်မှုမျိုးဟု ဆိုနိုင်သည်။

တချို့ဘာသာဝင်တို့သည် ယုံကြည်ကိုးကွယ်သူတို့၏ သဘောဆန္ဒမပါပဲ စီးပွားရေး အားနွဲ့သူတို့အား ငွေကြေးဓနများ ထောက်ပံ့၍လည်းကောင်း၊ ပညာရေးအားနည်းသူတို့အား ပညာဒါနများထောက်ပံ့၍လည်းကောင်း၊ ကျန်းမာရေးအားနည်းသူတို့အား ဆေးဝါးဒါနများ ထောက်ပံ့၍လည်းကောင်း၊ ဘဝ၌ အားနွဲ့နေသော မိန်းကလေးတို့အား ငွေကြေးဓနဖြင့် ဖျားယောင်းသိမ်းသွင်းလျက် ထိမ်းမြားလက်ထပ်၍လည်းကောင်း၊ လက်ထပ်လိုက်သူတို့ ယုံကြည်ကိုးကွယ်ထားသော ဘာသာတရားထဲသို့ ဇွတ်အတင်းသိမ်းသွင်း၍လည်းကောင်း ပြုမူခြင်းမျိုးကိုမူ မတရားသဖြင့် လှုံ့ဆော်မှုမျိုးဟုဆိုရပေသည်။ 'မှတစ်ပါး ကိုးကွယ်ရာမရှိ' ဟူသော အဝေစ္စပ္ပသာဒ (တုန်လှုပ်ခြင်းမရှိသော ယုံကြည်ခြင်းမျိုး)ဖြင့် ဘာသာ သာသနာကို ယုံကြည်လျက် အမျိုး ဘာသာ၊ သာသနာကို အသက်ကိုပင် နှင်းသင့်ကနှင်း၍ သာသနာတော်ကို အသက်နှင့်ထပ်တူ ကာကွယ်စောင့်ရှောက်ကြရမည့် အချိန်အခါကျရောက်နေပြီဟု ဆိုချင်ပါသည်။ သတိရှိသူတို့အား ဘာသာတရားဖြင့် သွေးဆောင်ဖျားယောင်းခံရမှုဘေးအပေါင်းမှ ကင်းဝေးနိုင်ကြပါစေ။ စစ်မှန်သော ဗုဒ္ဓတရားတော်များ ကမ္ဘာဖြန့်၍ ကမ္ဘာသူ၊ ကမ္ဘာသားများအားလုံး ငြိမ်းချမ်းသာယာရှိနိုင်ကြပါစေ။





## အခန်း(၂)

### ဝိဇ္ဇာများ၊ ဝိဇ္ဇာဓိုရ်များ၊ ဇော်ဂျီများ ရှိနိုင် မရှိနိုင်နှင့် 'ဘိုးတော် ဝိဇ္ဇာ' ယုံကြည်မှုကို ဗုဒ္ဓစာပေရှုထောင့်မှ လေ့လာသုံးသပ်ခြင်း

မြန်မာစာပေ၌ ဖော်ပြထားသော ဝိဇ္ဇာ၊ ဝိဇ္ဇာဓိုရ်များ၊ ဇော်ဂျီ၊ တပသီများ အမှန်တကယ် ထင်ရှားရှိနိုင်၊ မရှိနိုင်ဆိုသည့် မေးခွန်း၊ ယနေ့မျက်မှောက်ခေတ်၌ ပေါ်ပေါက်လာသော 'ဘိုးတော်၊ ဝိဇ္ဇာ'များ ဘာတွေလုပ်ဆောင်နေကြသနည်းဆိုသည့်မေးခွန်း၊ သူတို့၏ လုပ်ဆောင်ချက်များသည် လူသားများ စီးပွားချမ်းသာရေးအတွက် ဘယ်ပုံ၊ ဘယ်ပုံနည်းဖြင့် အကျိုးပြုပေးနိုင်သလဲဆိုသည့် မေးခွန်း၊ သူတို့ရဲ့ ဆောင်ရွက်မှုများသည် သာသနာတော်၏ အကျိုးစီးပွားနှင့် ဘယ်၍ ဘယ်မျှထိ ပတ်သက်ယှက်နွယ်၊ဆက်စပ်မှုရှိနေသလဲဆိုသည့် မေးခွန်း စသည်စသည်ဖြင့် ခေတ်သစ် 'ဘိုးတော်များ'နှင့် စပ်လျဉ်းနေသည့် မေးခွန်းပေါင်းထောင်းသောင်းမက ရှိနိုင်ပါသည်။ ထိုမေးခွန်းများကို အားလုံးကျေနပ်နိုင်သည်အထိ ဖြေကြားရန် စာရေးသူ မရည်ရွယ်ပါ။ စွမ်းလည်းမစွမ်းပါ။ သို့သော် ဤစာတမ်း၌ဖော်ပြထားသော အကြောင်းအရာ အချက်အလက်များထက် ပိုမို၍သိလိုလျှင် ဗုဒ္ဓ

စာပေကျွမ်းကျင်တော်မူကြသော ဆရာတော်သံဃာတော်များ (သို့မဟုတ်) စာပေပညာရှင်များထံသို့ ရိုသေစွာချဉ်းကပ်၍ မေးမြန်းကြပါရန် ရှေးဦးစွာ တိုက်တွန်းလိုပါသည်။ ဤစာတမ်း၌ သိသင့် သိထိုက်သော ဝိဇ္ဇာများ၊ ဝိဇ္ဇာမိုရ်များ၊ ဇော်ဂျီများနှင့် ခေတ်သစ် 'ဘိုးတော်များ'နှင့် စပ်လျဉ်းသည့် အကြောင်းအရာ အချက်အလက်များကို ဗုဒ္ဓစာပေရှုထောင့်မှ ဆွေးနွေးတင်ပြသွားမည်ဖြစ်သည်။

'ဘိုးတော်'များကို ယုံကြည်ကိုးကွယ်ထားသူများသည် 'ဘိုးတော်များ'နှင့် 'ဘိုးတော်၊ ဝိဇ္ဇာများ' မည်သို့ကွဲပြားခြားနားသည်ကို မသိကြသည်ကတစ်ကြောင်း၊ ထွက်ရပေါက်သွားသည်ဟု အဆိုပြုထားသော ပုဂ္ဂိုလ်များနှင့်စပ်လျဉ်း၍ ထွက်ရပ်ပေါက်ပုဂ္ဂိုလ်တို့၏ သမိုင်းဖြစ်စဉ်များသည် ဒဏ္ဍာရီဆန်ဆန်ဖြစ်ခဲ့သည်များကို လေ့လာမှုမရှိကြသည်ကတစ်ကြောင်း စသည်ဖြင့် အကြောင်းပေါင်းများစွာရှိနေ၍ ယုံကြည်ကိုးကွယ်သူတို့အား နားလည်ပေးနိုင်ပါသည်။ ၁၉-ရာစု၊ ၂၀-ရာစုနှစ်များ အတွင်း၌ ပေါ်ပေါက်လာသော ဘိုးဘိုးအောင်၊ ဘိုးမင်းခေါင်စသော သူတော်ကောင်းဘိုးတော်ကြီးများ (သမိုင်းကြောင်းအရ အသိအမှတ်ပြုသင့်သည်) သည် အင်းအတတ်၊ ဝိဇ္ဇာအတတ်များအပြင်၊ အဓိဋ္ဌာန်ဝင်ခြင်းစသော လောကီလမ်းစဉ်များကိုပါ စနစ်တကျလေ့လာ လိုက်စားခဲ့ကြ၍ အင်းတန်ခိုး၊ ဝိဇ္ဇာတန်ခိုး၊ အဓိဋ္ဌာန်တန်ခိုးများကို ရသင့်သလောက်ရခဲ့ကြသည်မှာ သံသယဖြစ်ဖွယ်မရှိပါ။ ထိုကြောင့် ဘိုးဘိုးအောင်၊ ဘိုးမင်းခေါင်စသော ဘိုးတော်ကြီးများ၏ ရတနာသုံးပါးနှင့်စပ်သော ကိုးကွယ်မှု၌ အစွန်းမထွက်ခဲ့ပေ။ သို့သော် ခေတ်သစ် ဘိုးတော်၊ ဘွားတော်တို့သည် တောရပ်ပျော် သူတော်ကောင်းကြီးများဖြစ်ကြသော ရသေ့၊ ဇော်ဂျီ၊ တပသီတို့၏ အကျင့်များ၊ သူတော်ကောင်းလမ်းစဉ်ကိုလိုက်ကြသော ဘိုးတော်ဝိဇ္ဇာကြီးများ၏ အကျင့်သိက္ခာများကို ကျင့်ကြံပွားများ





အားထုတ်မှုမရှိဘဲ ဘိုးတော်ယောင်ယောင်၊ ဝိဇ္ဇာယောင်ယောင် ဟန်ဆောင်ပြုလုပ်၍ မိမိ၏ကိုယ်ကျိုး အစီးအပွါးအတွက် အမြတ်ထုတ်ခဲ့ကြသည်။ ကိုယ်ပိုင်ဉာဏ်ဖြင့် ပိုင်းခြားသိနိုင်ကြပါစေ။

သူတော်ကောင်းကြီးများဖြစ်ကြသော ဘိုးတော်ဝိဇ္ဇာများ၏ အကျင့်သိက္ခာများကို 'ဘိုးတော်တု၊ ဘိုးတော်ယောင်'တို့သည် အတုပြု၍ ဟန်ဆောင်ကျင့်ပြနေခြင်းသည် ရိုးသားဖြူစင်ပြီး၊ ဉာဏ်ယှဉ်နိုင်ကြသောသူတို့အား သံသရာဆင်းရဲတွင်းသို့ တွန်းချနေသလိုဖြစ်နေသည်။ ယုံကြည်ကိုးကွယ်နေသူတို့အား နည်းနည်းအမျိုးမျိုးဖြင့် ခြောက်လန့်နေခြင်းသည် ဘာသာတရား၏ အနှစ်သာရကို ဖျက်ဆီးရာရောက်သည်။ ဘာသာတရား၏ အမြုတေသည် ယုံကြည်တတ်သူတို့အား မိမိတို့ကြိုက်နှစ်သက်ရာ ဘာသာတရားကို လွတ်လပ်စွာကိုးကွယ်ခွင့်ရခြင်းပင်ဖြစ်သည်။ ဤသဘောတရားကို နားမလည်နိုင်သောသူများရှိနေ၍ ဘာသာတရားကြောင့် လူအများ ဒုက္ခရောက်နေကြရခြင်းဖြစ်သည်။ လူသားတို့ နေထိုင်ရာ၌ ကိုးကွယ်မှု ဘာသာတရားကြောင့် စစ်မီးများ ငြိမ်းအေးသွားနိုင်သလို၊ ကိုးကွယ်မှု ဘာသာတရားကြောင့်လည်း စစ်မီးများ တဟုန်းဟုန်းတောက်လောင်နိုင်ကြောင်းကို သမိုင်းများက သက်သေထူလျက်ရှိသည်။

လူတစ်ယောက်၏ ယုံကြည်မှုကို ခြောက်၍တစ်ဖုံ၊ မြှောက်၍တစ်ခင်း ခြောက်လန့်ခြင်း နည်းဗျူဟာကို အသုံးပြုလျက် ကိုယ့်ဘက်ပါအောင် သိမ်းသွင်းခြင်းသည် ဘာသာတရား၏ အခွင့်အရေးများကို ချိုးဖောက်နေရာရောက်၍ ထိုသူများကို အမျိုးဘာသာ သာသနာကို မြတ်နိုးသူတိုင်းက ရှုတ်ချသင့်သည်။ သတိပေးသင့်သည်။ မဟာနာဒမင်းကြီးကဘုရားရှင်အား လျှောက်ထားခဲ့ဖူးသည်မှာ "ဘုန်းတော်ကြီးမားတော်မူသောမြတ်စွာဘုရား . . ၊ အကယ်၍များ တစ်စုံတစ်ခုသော အကြောင်းကြောင့် လောကထဲနေ ပရိသတ်လေးပါးနှင့် လူမင်း၊

နတ်မင်း၊ ပြဟ္မာမင်းများကတစ်ဖက် မြတ်စွာဘုရားကတစ်ဖက် ဖြစ်နေခဲ့လျှင် တပည့်တော်သည် ဘုရားဘက်ကပဲ ရှိနေမှာပါ'' ဟု လျှောက်ထားသောစကားကို အမြဲတမ်းအမှတ်ရသင့်သည်။[2]

စာရေးသူသည် ခေတ်သစ် 'ဘိုးတော်'များကို စိတ်ဝင်စားလာခဲ့၍ သမိုင်းများကို လေ့လာကြည့်ရှုလျက် 'ဘိုးတော်များ'အကြောင်း၊ 'ဝိဇ္ဇာများ'အကြောင်း၊'ထွက်ရပ်ပေါက် ပုဂ္ဂိုလ်များ'အကြောင်း၊'ဝိဇ္ဇာမိုရ်များ'အကြောင်း၊ 'ဇော်ဂျီများ'အကြောင်းကို လက်လှမ်းမီသမျှ အချိန်ရသောအခါများ၌ လေ့လာဖတ်ရှုခဲ့သည်။ သမိုင်းအကိုးအကားများ ရလိုရငြား ဦးကုလားရာဇဝင်၊ မှန်းနန်းရာဇဝင်စသော ရာဇဝင်ကြီးများ၌ ရှာဖွေဖတ်ရှုခဲ့သည်။ ထိုရာဇဝင်ကြီးများ၌ ဝိဇ္ဇာမိုရ်များအကြောင်း၊ ဇော်ဂျီများအကြောင်းကို အလျဉ်းသင့်သလို ရေးသားထားသည်ကို တွေ့ရသော်လည်း ဘိုးတော်ဝိဇ္ဇာများနှင့် ထွက်ရပ်ပေါက်ပုဂ္ဂိုလ်များ အကြောင်းကို ရေးသားဖော်ပြထားခြင်းမရှိ၍ အံ့အားသင့်မိတော့သည်။ ပါဠိစာပေကျမ်းစာများကိုလည်း တတ်အားသမျှ ရှာဖွေဖတ်ရှုသည်။ လောကီဝိဇ္ဇာများ၊ အရိယာဝိဇ္ဇာများနှင့် စပ်လျဉ်းသောအကြောင်းအရာများကို တွေ့ရှိရသော်လည်း 'ဘိုးတော်များ'၊ 'ထွက်ရပ်ပေါက်ပုဂ္ဂိုလ်များ' အကြောင်းကို ရေးသားဖော်ပြထားခြင်းမရှိသည်ကို လေ့လာသိရှိရပြန်သည်။ ပုဂံရာဇဝင်၌ ထင်ရှားကျော်ကြားလှသော ရွှေဖြစ်၊ ငွေဖြစ်၊ ပြဒါးဝိဇ္ဇာ၊ သံဝိဇ္ဇာဖြစ်သော ရှင်အဇ္ဇဂေါဏ မထေရ်အကြောင်းကို စိတ်ဝင်စား၍ ပုဂံရာဇဝင်၊ ပုဂံသမိုင်းများ၌ လေ့လာကြည့်ရှုပြန်ရာ ထိုမထေရ်၏ အကြောင်းကို ဖော်ပြထားခြင်း မရှိသည်ကို တွေ့ရပြန်သည်။ ပါးစပ်ရာဇဝင်အရ လူပြော သူပြောများလှသော ပုဂံဟိုရိုး ရှင်အဇ္ဇဂေါဏမထေရ်အကြောင်းကို သိလိုလှ၍ ပုဂံရောက်ခိုက် (ဖေဖော်ဝါရီလ ၆ရက်၊ ၂၀၁၀–ခု) ရာဇဝင်သမိုင်းနှင့်ပတ်သက်လာလျှင် သမိုင်းပညာရှင်များ လေးစားရသော မင်းဘူးဦးအောင်ကြိုင်ကို သွားရောက်၍ အရှင်အဇ္ဇဂေါဏမထေရ်၏ သမိုင်းကို ဘယ်ကျမ်းစာမှာ ပါဝင်သည်ကို မေးမြန်းကြည့်ရာ ခိုင်လုံသောရာဇဝင်ကျမ်းများ၊ သမိုင်းကျမ်းများ၌ ပါဝင်သည်ကို မတွေ့မိသေးကြောင်း၊သူပြောငါပြော ပါးစပ်ရာဇဝင်များသာရှိကြောင်း ဖြေကြားခဲ့သည်။ ထိုအဖြေကြောင့် စိတ်ဝင်စားစရာတစ်မျိုး ဖြစ်ရပြန်၏။

'ရှင်အဇ္ဇဂေါဏဘုရား'ဟု ပုဂံဘုရားသမိုင်းမှာ ထင်ရှားရှိနေ၍ အရှင်အဇ္ဇဂေါဏမထေရ်သည် တစ်ချိန်တစ်ခါက ထင်ရှားရှိခဲ့ပြီး၊ရွှေဖြစ်၊ ငွေဖြစ်၊ ပြဒါးဝိဇ္ဇာ၊ သံဝိဇ္ဇာ ထွက်ရပ်ပေါက်ဖြစ်သွားသည်ဟု ယုံကြည်နိုင်ဖွယ်ရှိသည် မဟုတ်ပါလားဟူသော မေးခွန်းကို မင်းဘူးဦးအောင်ကြိုင် ဖြေကြားရာ၌ 'ရှင်အဇ္ဇဂေါဏဘုရား'ဟု အမည်တွင်နေသော ရှင်အဇ္ဇဂေါဏဘုရားကို ၁၃–ရာစု (သက္ကရာဇ် ၅၉၉–ခုနှစ်) ကျစွာမင်းကြီးလက်ထက် မဟာသမာန်းကြီး တည်ထားကိုးကွယ်ခဲ့ကြောင်းနှင့် ၁၉၀၁–ခုနှစ်တွင် ကျောက်စာဝန်တော်စိန်ခိုနှင့် အဖွဲ့များသည် ဘုရားများကို မွန်းမံပြုပြင်မှုများ ပြုလုပ်ကြရာ ဘုရားအတွင်း လုံကွဲများတွေ့ရှိခဲ့၍ ဤကျောင်းဆောင်၌ ရှင်အဇ္ဇဂေါဏမထေရ် နေသွားပြီး၊ ဖိုထိုးခဲ့သောအထင်ဖြင့် အမည်ပေးမှည့်ခေါ်ရာမှ 'အဇ္ဇဂေါဏဘုရား'ဟုအမည်တွင်ခဲ့ကြောင်း အဆိုရှိသည်ဟု ဖြေကြားသည်။ ဤအဆိုကို ရေနံသာဝင်းမောင်ရေးသားထားသော 'လျှပ်တစ်ပြက်မဟာပုဂံ' စာအုပ်၌ ဤအကြောင်းအရာကို ရေးသားထားသည်ကို တွေ့ရသည်။ 'အဇ္ဇဂေါဏ ဟူသောအမည်မှာ မူလအမည် မဟုတ်ဘဲ ကျောက်စာဝန်တော်စိန်ခိုနှင့် ဖွားစောရွာသူကြီး ဦးထွန်းဦးတို့က ဘုရားအတွင်း လုံကွဲများတွေ့ရှိရာ ပုဂံခေတ်က ရွှေမိုးငွေမိုးရွာချပေးခဲ့သော ထွက်ရပ်ပေါက်ဆရာတော် ရှင်အဇ္ဇဂေါဏ နေသွားပြီး၊

---

[2]သံ၃ပြန်၊ နှာ၃၂၈၊

သိဒ္ဓပေါက်ဖိုထိုးခဲ့လေသလောအထင်ဖြင့် အမည်ပေးမှည့် ခေါ်ခဲ့ရာမှ ယခုတိုင် 'အဇ္ဇဂေါဏဘုရား'ဟု အမည်တွင်နေသည်။''၆

အရှင်အဇ္ဇဂေါဏသမိုင်းကို ရာဇဝင်များ၊ သမိုင်းစာပေများ၌ မတွေ့ရသော်လည်း နှစ်ဆယ်ရာစုနှောင်းပိုင်း၌ ပေါ်ထွက်လာသော မောင်ထင်အောင်ရေးသော "Folk Elements in Burmese Buddhism" စာအုပ်၌လည်းကောင်း၊ ဆရာတော်ဦးဉာဏရေးသော 'ရှင်မထီးသမိုင်း'၌ လည်းကောင်း တွေ့ရှိရသည်။ ဤအရှင်အဇ္ဇဂေါဏ မထေရ်၏ အတ္ထုပ္ပတ္တိသည် ပါးစပ်ရာဇဝင်ကို မှီငြမ်းပြု၍ ရေးသားထားသည်ဟု ယုံကြည်မိသည်။မည်သို့ပင်ရှိစေ ပါးစပ်ရာဇဝင်အရ သူပြော၊ ငါပြော ပြောနေကြသော အရှင်အဇ္ဇဂေါဏမထေရ်၏ သမိုင်းကြောင်းကား ဤသို့တည်း။

## အရှင်အဇ္ဇဂေါဏ မထေရ်၏ သမိုင်းအကျဉ်း

တစ်ခါတုန်းက(သမိုင်းကြောင်းမသေချာ၍ ဤကဲ့သို့ နိဒါန်းပျိုးထားသည်) အေဒီ ၇-ရာစု၊ သေလည်ကြောင် မင်းလက်ထက်(ခန့်မှန်းပြောဆိုထားကြသည်)၊အင်္ဂါယပညာကို လိုက်စားသော ရဟန်းတစ်ပါးရှိခဲ့ဖူးသည်။ ထိုရဟန်းသည် သူ၏ဓာတ်လုံး အောင်မြင်ပေါက်ရောက်သော အဆင့်သို့ ရောက်ရှိနိုင်ရန် နေစဉ်ဖိုးထိုးနေခဲ့သည်။ ဓာတ်လုံးကို ဓာတ်စာများ ကျွေးလျက် နှစ်ရှည်လများစွာ ဖိုထိုးလာခဲ့ရာ သူ့အား ကိုးကွယ်နေသော ဒါယကာ၏ ဥစ္စာပစ္စည်းများသည် ကုန်ခန်းသွားခဲ့သည်။ ထို့နောက် ရှင်ဘုရင်မှ လိုအပ်သော ပစ္စည်းများကို ဆက်လက်၍ထောက်ပံ့ရာ ဓာတ်လုံး၌ ဓာတ်စာများ ကျွေးရလွန်း၍ နောက်ဆုံးတွင် မင်းဘဏ္ဍာတော်များလည်း ကုန်ခန်းသွားခဲ့သည်။ တိုင်းသူပြည်သားများသည် ရွှေငွေ စသော မင်းဘဏ္ဍာတော်များကို ထိုရဟန်းအား အဆက်မပြတ် လှူဒါန်းနေမှုကို ဆက်လက်၍ သည်းမခံနိုင်ကြသောကြောင့် ရှင်ဘုရင်အား အခွန်ဘဏ္ဍာများ ဆက်လက်ပေးဆောင်မှုကို ငြင်းဆိုခဲ့ကြသည်။ ထိုအခါ ထိုရဟန်းသည် သူ၏ဓာတ်လုံးသည် နောက်ဆုံးအဆင့်သို့ ရောက်နေပြီဖြစ်၍ နောက်ဆုံးအကြိမ်အဖြစ် သူ့ဓာတ်လုံးအား ဓာတ်စာများ ကျွေးနိုင်ဖို့ ဆက်လက်ထောက်ပံ့ကြရန် ရှင်ဘုရင်နှင့် တိုင်းသူပြည်သားများအား မေတ္တာရပ်ခံခဲ့သည်။

နောက်ဆုံးအဆင့်သို့ ရောက်နေပြီဖြစ်၍ ဒီတစ်ခါ ဓာတ်စာတစ်ခါကျွေးပြီးလျှင် သူ၏ဓာတ်လုံးသည် ကိစ္စများ ပြီးမြောက်တော့မည်ဖြစ်၍ နောက်ထပ်မင်းဘဏ္ဍာများကို အလှူမခံတော့ကြောင်း ကတိထားပြီး၊ဓာတ်လုံးကို ဆက်လက်၍ ဖို၌ထည့်ကာ ဓာတ်စာများကို ကျွေးခဲ့ရာ ဓာတ်လုံးသည် မအောင်မမြင်ဖြစ်ခဲ့သည်။ ထိုကြောင့် ထိုရဟန်းသည် နောက်ဆုံးအဆင့်သို့ ရောက်နေသော သူ့ဓာတ်လုံးအတွက် ရှင်ဘုရင်ထံသို့သွား၍ သူ့ဓာတ်လုံး မအောင်မမြင် ဖြစ်ခဲ့ကြောင်းကို ပြောကြားခဲ့သည်။ အောင်လုနီးပါးအဆင့်သို့ ရောက်နေသော သူ့ဓာတ်လုံးအား ဓာတ်စာကျွေးရန် နောက်ထပ်ရွှေအနည်းငယ်ကို ရှင်ဘုရင်ထံ၌ အလှူခံပြန်ရာ တိုင်းသူပြည်သားများသိသွား၍ ရှင်ဘုရင်ထံသို့ ချဉ်းကပ်ပြီး 'လိမ်ညာ၊ လည့်စားတတ်သော ဒီရဟန်းတု၊ ရဟန်းယောင်အား သူ၏ လိမ်ညာမှုအတွက် ထိုက်တန်သော အပြစ်ကိုပေးရန်'

၆ ဝင်းမောင်၊ ရေနံ့သာ၊ လျှပ်တစ်ပြက်မဟာပုဂံ၊ မြင်းခြံပုံနှိပ်တိုက်၊ ရန်ကုန်။ နှာ ၁၃၀၊

တောင်းဆိုကြသည်။ ရှင်ဘုရင်သည် မလိမ်ညာမလှည့်ဖျားတတ်သော ထိုရဟန်း၏ ဂုဏ်သိက္ခာကို သိထားပြီးဖြစ်သော်လည်း ပြည်သူ၏ သဘောဆန္ဒကိုလည်း မဆန့်ကျင်ချင်၊ ပြည်သူနှင့် ရဟန်းတော်အကြား ငြိမ်းအေးအောင်လည်း ပြုလုပ်ပေးချင်၊ ဘာလုပ်ရမှန်းဖြစ်နေချိန်တွင် ထိုရဟန်းတော်သည် သူကိုယ်သူ အပြစ်ဒဏ်ခတ်သည့်အနေဖြင့် သူကိုယ်တိုင် သူရဲ့မျက်စိနှစ်လုံးကို လက်ဖြင့်နှိုက်ဖောက်လျက်အပြင်သို့ ထုတ်ပယ်ပစ်လိုက်သည်။ ထိုနောက် ပြည်သူများ၏ရှေ့တွင် ရပ်လျက် ''ဘုန်းကြီး ကိုယ့်ကိုယ်ကို အပြစ်ဒဏ်ခတ်ပြီးပြီ။ သင်တို့ ကျေနပ်နိုင်ကြပြီလား''ဟု မေးမြန်းခဲ့ရာ ပြည်သူများက ကျေနပ်ပါကြောင်း ပြန်လည်လျှောက်ထားကြလျက် ထိုရဟန်းတော်အတွက် အကြီးအကျယ်စိတ်မကောင်းဖြစ်ခဲ့ကြသည်။

ရဟန်းတော်သည် သူ၏ဓာတ်စခန်း မအောင်မြင်မှုအတွက် စိတ်ဓာတ်အကြီးအကျယ်ကျခဲ့သည်။ ထိုကြောင့် သူအသုံးပြုခဲ့သော ဖားဖိုများ၊ လုံများနှင့် ဖိုထိုးရာ၌အသုံးပြုခဲ့သော ပစ္စည်းအားလုံးကို ရိုက်ခွဲပစ်ခဲ့သည်။ ထို့နောက် သူ့ကို အလုပ်အကျွေးပြုနေသော သာမဏေငယ်အား ''ကိုရင်၊ ဒီအသုံးမကျတဲ့ဓာတ်လုံးကို အိမ်သာကျင်းထဲ ပစ်ချလိုက်စမ်း'' ဟု စိတ်ပျက်ပျက်နဲ့ စေခိုင်းခဲ့သည်။ ကိုရင်ငယ်သည် ဆရာခိုင်းသည့်အတိုင်း ဓာတ်လုံးကို အိမ်သာကျင်းထဲပစ်ချခဲ့သည်။ ထိုနေ့ညတွင် အိမ်သာကျင်းထဲ၌ အရောင်များဝင်းထိန်နေသည်ကို ကိုရင်ငယ် တွေ့ရ၍ သူ့ဆရာအား ထိတ်ထိတ်ပျာပျာဖြင့် ''ဆရာတော်ဘုရား၊ ဆရာတော်ဘုရား အိမ်သာကျင်းထဲမှာ မီးတွေတောက်သလို အရောက်တွေ

လက်နေတယ်။ ချေးစားစုန်းများ တောက်နေသလားမသိ။ တပည့်တော် ကြောက်တယ်ဘုရား'' ဟု လျှောက်ထားရာ ထိုရဟန်းတော်က ''ဟဲ့–ကိုရင်. . ငါ့မှာ မျက်စိမှ မမြင်တာ။ ငါ့ကို အကျိုးအကြောင်းလျှောက်ပြစမ်းပါဦး'' ဟု ပြောကြားရာ ကိုရင်က ဖြစ်ကြောင်းကုန်စင်ကို သူ့ဆရာအား ရှင်းလင်းလျှောက်ထားပြလိုက်၏။ ရဟန်းတော်သည် သူ့ဓာတ်လုံးအခုမှ အောင်ပြီဟု ချက်ချင်းသိလိုက်ပြီး ကိုရင်အား ထိုဓာတ်လုံးကို ပြန်လည်ကောက်ယူခိုင်းခဲ့သည်။

ဖြစ်ပျက်ပုံက ပေစာပေါ်၌ ရေးထားခဲ့သော ညွှန်ကြားချက်မှာ နောက်ဆုံးအဆင့်၌ ထိုဓာတ်လုံးကို 'ချီးရေစိမ်ရမည်'ဟု ရေးရမည့်အစား 'ချဉ်ရေစိမ်ရမည်' ဟု မှားယွင်းစွာ ရေးမှတ်ထားခဲ့၍ ထိုဓာတ်လုံးကို ချီးရေမစိမ်၊ ချဉ်ရေပဲစိမ်နေခဲ့၍ ထိုဓာတ်လုံး မအောင်မမြင်ဖြစ်နေရာမှ လိုအပ်သော ဓာတ်နဲ့တွေ့ပြီး ထိုရဟန်းတော်၏ ဓာတ်လုံးသည် ပေါက်မြောက်အောင်မြင်ခဲ့သည်ဟု အဆိုရှိသည်။

ထိုအခါ ထိုရဟန်းတော်သည် ကိုရင်ငယ်အား ဈေးသို့သွား၍ နွားမျက်စိနှစ်လုံး (သို့မဟုတ်) ဆိတ်မျက်စိနှစ်လုံးကို ဝယ်ယူရန် ခိုင်းစေခဲ့သည်။အချိန်အခါက နှောင်းနေပြီဖြစ်၍ လိုအပ်သော မျက်စိအစုံကို မရရှိဘဲ ကံအားလျော်စွာ နွားမျက်စိတစ်လုံးနှင့် ဆိတ်မျက်စိတစ်လုံးစီသာ ရရှိခဲ့သည်။ ထိုမျက်စိနှစ်လုံးကို ဆရာဖြစ်သူအား ပေးအပ်ခဲ့သည်။ ဆရာရဟန်းသည် မျက်စိနှစ်လုံးကို မျက်လုံးအိမ်အတွင်းသို့ ထည့်သွင်းပြီး သူ့ဓာတ်လုံးဖြင့် တို့ထိပေးလိုက်ရာ သူ၏ မျက်စိနှလုံးသည် ပြန်လည်၍ မျက်စိအလင်းကို ရလာခဲ့သည်။ ထိုအချိန်မှစ၍ သူ၏နာမည်သည် 'ရှင်အဇ္ဇဂေါဏ' ဟု အမည်တွင်ခဲ့သည်။

ထိုနောက် နန်းတော်သို့ကြွ၍ ရှင်ဘုရင်အား ပြောကြားသည်မှာ 'မနက်ဖြန်နံနက်ဝယ် ပြည်သူများအား ပြောကြားပါ။ ခဲများ၊ ကြေးများကို ရသမျှစုဆောင်း၍ အိုးထဲ၌ ထည့်ထားကြရန်' အမိန့်ရှိခဲ့သည်။ ရှင်အဇ္ဇဂေါဏသည် နောက်နေ့နံနက်၌ နန်းတော်သို့ ရှေးဦးစွာကြွပြီး အိုးထဲ၌ ထည့်ထားသော ခဲနှင့် ကြေးများကို သူ၏ဓာတ်လုံးနှင့် တို့ထိရာ ခဲများအားလုံးသည် ငွေတွေဖြစ်ခဲ့၍၊ ကြေးများအားလုံးသည် ရွှေတွေ ဖြစ်ကုန်ခဲ့သည်။ ထို့နောက် ပြည်သူ၊ ပြည်သားတို့၏ အိမ်ရှေ့အသီးသီး၌ ချထားသော အိုးများထဲရှိ ခဲများ၊ ကြေးများကို သူ၏ ဓာတ်လုံးနှင့် တို့ထိရာ အလားတူပင် အားလုံးငွေတွေ၊ ရွှေတွေ ဖြစ်သွားခဲ့သည်။ ထိုအခါမှစ၍ ပုဂံပြည်သူတို့သည် ချမ်းသာကြွယ်ဝလာခဲ့ပြီး၊ ထောင်ပေါင်းများစွာသော ဘုရားပုထိုးများကို တည်ခဲ့ကြသည်ဟု အဆိုရှိသည်။[9]

အထက်ပါ ဖြစ်ရပ်များသည် ထူးခြား၍ အံ့ဖွယ်ရှိလှသော်လည်း မှန်နန်းရာဇဝင်၊ ဦးကုလားရာဇဝင်တို့၌ ထည့်သွင်းဖော်ပြထားခြင်းမရှိသည်ကတစ်ကြောင်း၊ စံထားလောက်သော ရှေးကျသော မြန်မာစာပေကျမ်း၌ မပါဝင်သည်ကတစ်ကြောင်း၊ ပါးစပ်ရာဇဝင် အနေနဲ့သာ မှတ်သားနေရ၍ လည်းကောင်း တကယ့်ဖြစ်ရပ်ဟု ယုံကြည်ရန်ခက်ခဲလှပေသည်။ထို့နောက် ရှင်အဇ္ဇဂေါဏ မထေရ်သည် ထွက်ရပ်လမ်းသို့ ဝင်သွားသည်ဟူသော နောက်ဆက်တွဲ ဖြစ်ရပ်များမှာလည်း ပို၍ပင် သံသယများ ပွားစရာဖြစ်ခဲ့ရသည်။ ဤသို့သာ

[9] Htin Aung, Maung. *Folk Elements in Burmese Buddhism*. Religious Affairs Dept, Press. 1959. P.51-53.





ပြောသည့်အတိုင်းမှန်နေမည်ဆိုလျှင် မင်းအဆက်ဆက်၊ ပြည်သူအဆက်ဆက် သာသနာတော်အပေါ်၌ ထားရှိခဲ့သော အဆက်ဆက်သော ပုဂံပြည်သူတို့၏ သဒ္ဓါတရား၊ စေတနာတရားနှင့် လုံ့လဝီရိယ စွမ်းပကားတို့ကို နှောင်းခေတ်လူများက အသိအမှတ်ပြုရာမရောက်ဘဲ တန်ခိုးရှင်ကြီး ရှင်အဇ္ဇဂေါဏ၏ ဓာတ်လုံးအစွမ်းအောက်၌သာ ကျရောက်ရတော့မလို ဖြစ်နေတော့သည်။ လုံ့လဝီရိယ စွမ်းအားနည်းသူတို့သည် လူတို့၏ ကြီးမားသောစွမ်းပကားကို ယုံနိုင်ခဲ၏။ နားလည်နိုင်ခဲ၏။ ထိုကြောင့် ပုဂံပြည်၌ ဘုရားပုထိုး စေတီများ သန်းပေါင်းများစွာရှိနေခြင်းသည် ဘယ်တန်ခိုးရှင်တို့၏ အစွမ်းကြောင့်မှမဟုတ်ဘဲ ပုဂံပြည်သူတို့၏ သဒ္ဓါစွမ်း၊ စေတနာစွမ်းပကားများဖြင့် တည်ထားကိုးကွယ်ခဲ့သော ဘုရားပုထိုး စေတီများသာဖြစ်ကြောင်း ယုံမှားသံသယဖြစ်ဖွယ်မရှိပြီ။ ဉာဏ်နှင့်ယှဉ်သော ယုံကြည်မှုမျိုးရှိသူတို့၌လည်းကောင်း (သို့မဟုတ်) ဓမ္မဝိနယနှင့်ညီသော ယုံကြည်မှုမျိုးရှိသူတို့၌လည်းကောင်း အမှန်တရားကို အမှန်တရားအတိုင်း နားလည်နိုင်မည်ဖြစ်၏။ ဒီလိုမှ မဟုတ်ခဲ့လျှင်. . .။ ကိုယ်ပိုင်ဉာဏ်ဖြင့် ဆင်ခြင်သုံးသပ်ပါလေ။

## တကယ်ရှိခဲ့သော ဝိဇ္ဇာဓိုရ် ဇော်ဂျီများ

ဝိဇ္ဇာဓိုရ်များ၊ ဇော်ဂျီများ၊ လောကီဝိဇ္ဇာများ တစ်ချိန်တစ်ခါက ရှိခဲ့ဖူးကြောင်းကို ပါဠိ၊ အဋ္ဌကထာ ကျမ်းဂန်အထောက်အထားများအရ သိရှိရသည်။ သို့သော် 'ဘိုးတော်၊ ဘွားတော်'ဆိုသော အသုံးအနှုန်း ဝေါဟာရများကိုမူ ပါဠိ၊ အဋ္ဌကထာ၊ ဋီကာများ၌လည်းကောင်း၊ ရှေးကျသော ပျို့၊ ကဗျာ၊ လင်္ကာကျမ်းများ၌လည်းကောင်း၊ ဝေါဟာရ အဘိဓာန်များ၌လည်းကောင်း မတွေ့ရသည်မှာ တအံ့တသြ ဖြစ်ရသည်။ သို့သော် ဖြစ်နိုင်ခြေရှိသည်ကို ဆင်ခြင်သုံးသပ်ကြည့်ရ

မည်ဆိုလျှင် ဝိဇ္ဇာများ၊ ဝိဇ္ဇာဓိုရ်များ၊ ဇော်ဂျီများပြုနိုင်သော အံ့ဖွယ်အတတ်ပညာများကို ဘိုးဘိုးအောင်၊ ဘိုးမင်းခေါင်စသော ပုဂ္ဂိုလ်ထူးများက ပြုနိုင်သည်ဟု အနုမာနနည်းအားဖြင့် မှန်းဆ၍ 'ဘိုးတော်၊ ဝိဇ္ဇာ' ဟူသော အမည်နာမထူးများကို နှစ်ဆယ်ရာစု ရှေးဦးပိုင်း၌ စတင်၍ သုံးစွဲလာဟန်ရှိသည်။

ဝိဇ္ဇာ၊ ဇော်ဂျီများသည် အသက်သွင်းသော အတတ်များ၊ မန္တာန်အတတ်များ၊ ဂန္ဓာရီအတတ်များ၊ မြေလျှိုး၊ မိုးပျံနိုင်သော အတတ်များ၊ သူတစ်ပါးစိတ်အကြံအစည်များကို သိနိုင်သော မဏိစိန္တာအတတ်များ၊ သူတစ်ပါး၏ စိတ်အလိုဆန္ဒကို ဖြည့်ဆည်းပေးနိုင်သော ဝိဇ္ဇာအတတ်များကို တတ်မြောက်ထားကြသည်ဟု ပါဠိ၊ အဋ္ဌကထာ၊ ပျို့၊ ကဗျာ၊ လင်္ကာကျမ်းများ၌ ဖော်ပြထားသည်။ ထိုကျမ်းဂန်စကားများကို အမှီသဟဲပြု၍ ခေတ်သစ်ဘိုးတော်များသည် အားကျမခံ ထိုကဲ့သို့ပင် အလားတူအတတ်ပညာများကို 'ဘိုးတော်'များ တတ်မြောက်ထားကြသည်ဟု ယုံကြည်ထားကြသည်။ အရာအားလုံးကို ရစေလိုက ရစေနိုင်ပြီး၊ ပြီးစေလိုက ပြီးစေနိုင်သော တန်ခိုးရှင်ကြီးများအဖြစ် စိတ်ကူးအာရုံဖြင့် ပုံဖော်ထားခဲ့ကြသည်။ ထို့မှစ၍ 'ဘိုးတော်' များ၏ တန်ခိုးများသည်လည်း အံ့မခန်းဖြစ်ခဲ့ရသည်။ ဘိုးဘိုးအောင်၊ ဘိုးမင်းခေါင်စသော ဘိုးတော်ကြီးများသည် သူတော်ကောင်း ဘိုးတော်ကြီးများဖြစ်ကြသည်ဟု သမိုင်းမှတ်တမ်းများအရ စာရေးသူ ယုံကြည်သည်။ သို့သော် ယုံကြည်ကိုးကွယ်သူများ လက်ခံထားသလို 'စေ' တစ်လုံးပိုင်ရှင်များ ဖြစ်နိုင်ကြောင်းကိုမူ ကျမ်းဂန်အထောက်အထားများအရ လက်ခံ၍ မရနိုင်ပေ။





ဝိဇ္ဇာဓိုရ်များ တကယ်ရှိ မရှိပြဿနာ

ဝိဇ္ဇာဓိုရ်များ တကယ်ရှိ မရှိ မေးခွန်းနှင့်စပ်လျဉ်း၍ ပဋိသမ္ဘိဒါမဂ်ပါဠိတော်၌ ဝိဇ္ဇာဓိုရ်များ ရှိခဲ့ဖူးကြောင်း အတိအလင်းဖော်ပြထားသည်ကို တွေ့ရသည်။ 'ဝိဇ္ဇာဓိုရ်တို့၊ ထိုထိုမန္တန်၊ ဆေးစွမ်းအင်ဖြင့် မိုးပျံနိုင်ခြင်း၊ ဆင်မြင်းရုပ်ပုံ၊ စစ်တက်ပုံပြ၊ ဝိဇ္ဇာများတည်း'ဟု ပရမတ္ထသရုပကျမ်း၌ ဖွင့်ပြထားသည်ကိုလည်း တွေ့ရှိရသည်။ယနေ့မျက်မှောက်ခေတ်၌ ဝိဇ္ဇာဓိုရ်များတတ်အပ်သည့် ပညာရပ်များ၊ အလေ့အကျင့်များ ပျောက်လုနီးနီးရှိသွားပြီဟု ခန့်မှန်းသိရှိနိုင်သည်။ ထို့ကြောင့် ဝိဇ္ဇာဓိုရ်အစဉ်အလာများလည်း ပျောက်ကွယ်သွားလေပြီလားဟုသာ စဉ်းစားမိတော့သည်။ ဝိဇ္ဇာဓိုရ်များ ကျင့်စဉ်နှင့်စပ်၍ ပဋိသမ္ဘိဒါမဂ်ပါဠိတော်၌ အောက်ပါအတိုင်း ဖွင့်ပြထားသည်။

ပါဠိ။ ။ ဝိဇ္ဇာဓရာ ဝိဇ္ဇာဓရာ ဝိဇ္ဇံ ပရိဇပ္ပေတွာ အာကာသေ အန္တလိက္ခေ ဟတ္ထိမ္ပိ ဒဿေန္တိ၊ အဿမ္ပိ ဒဿေန္တိ၊ ရထမ္ပိ ဒဿေန္တိ၊ပတ္တိမ္ပိ ဒဿေန္တိ၊ ဝိဝိဓမ္ပိ သေနာဗျူဟံ ဒဿေန္တိ၊ အယံ ဝိဇ္ဇာမယာ ဣဒ္ဓိ။[၆]

အနက်။ ။ ဝိဇ္ဇာဓရာ၊ ဝိဇ္ဇာဓိုရ်တို့သည်။ ဝိဇ္ဇံ၊ အတတ်ပညာကို။ ပရိဇပ္ပေတွာ၊စိပ်၍ ဝါ နှုတ်၍။ အန္တလိက္ခေ၊ ရေးခြစ်မထင်သော။ အာကာသေ၊ မိုးကောင်းကင်၌။ ဟတ္ထိမ္ပိ၊ ဆင်တပ်ကိုလည်း။ ဒဿေန္တိ၊ ဖန်ဆင်း၍ ပြနိုင်ကုန်၏။ အဿမ္ပိ၊ မြင်းတပ်ကိုလည်း။ ဒဿေန္တိ၊ ဖန်ဆင်း၍ ပြနိုင်ကုန်၏။ ရထမ္ပိ၊ ရထားတပ်ကိုလည်း။ ဒဿေန္တိ၊ ဖန်ဆင်း၍ ပြနိုင်

[၆] ပဋိသမ္ဘိဒါမဂ် ပါဠိတော်၊ နာ - ၃၉၁

ကုန်၏။ ပတ္တမှိ၊ လက်နက်ကိုင်ခြေသည် သူရဲတပ်ကို လည်း။ ဒဿေန္တိ၊ ဖန်ဆင်း၍ ပြနိုင်ကုန်၏။ ဝိဓံ၊ အထူးထူး အပြားပြားသော။ သေနာဗျူဟာမ္ပိ၊ စစ်သည်ဗိုလ်ထု အစု အရုံး အလုံးအရင်းကိုလည်း။ ဒဿေန္တိ၊ ဖန်ဆင်း၍ ပြနိုင် ကုန်၏။အယံ၊ ဤသည်ပင်လျှင်။ စိန္တာမယာကာရွှိ၊ ကြံစည် တိုင်းပြီးစေနိုင်သော စိန္တာမယတန်ခိုးမည်၏။

အထက်ဖော်ပြပါ ပါဠိတော်ကို အထောက်အထားပြု၍ ဝိဇ္ဇာဓိုရ်ရှိတို့သည် စိတ်ကြံစည်တိုင်းကို ပြီးစေနိုင်သော စိန္တာမယသိဒ္ဓိ တန်ခိုးများ ရရှိထားကြောင်း သိနိုင်ပေသည်။ ထိုပါဠိတော်စကားကို လယ်တီဆရာတော်ဘုရားကြီးက ဝိဇ္ဇာမဂ္ဂဒီပနီကျမ်း၌ အောက်ပါ အတိုင်း ကောက်ချက်ချပြထားသည်ကို တွေ့ရသည်။ "ဤပါဠိတော်၌ စိန္တာမယဒ္ဓိကို ပြတော်မူသဖြင့် အောက်ဖြစ်သော အာယုသိဒ္ဓိ၊ အာကာသသိဒ္ဓိ၊ ဥဒကသိဒ္ဓိ၊ ပထဝီသိဒ္ဓိ၊ နသိဒ္ဓိ အစရှိသော သိဒ္ဓိမျိုးစု သည် ထိုပါဠိတော်တွင် အတွင်းဝင်၍ ပါလေ၏ဟု သိအပ်၏-ဟု ဝိဇ္ဇာမဂ္ဂဒီပနီ၌ ဖွင့်ပြထားသည်။"[1]

အရှင်မဟာဗုဒ္ဓဃောသရေးသော ဇာတကအဋ္ဌကထာ၌လည်း ဝိဇ္ဇာဓိုရ်များရှိကြောင်း၊ ထိုဝိဇ္ဇာဓိုရ်များ၏ အမူအကျင့်များကိုပါ အတိ အလင်းရေးသားဖော်ပြထားသည်။ ဤသာဓကများကို ထောက်ထား ပြောဆိုရလျှင် ဝိဇ္ဇာဓိုရ်ပုဂ္ဂိုလ်များသည် ဝိဇ္ဇာအတတ်၊ မန္တာန်အတတ် များကို တတ်မြောက်ကြသော ပုထုဇဉ်များဖြစ်ကြ၍ ပုထုဇဉ်တို့၏ အမူအကျင့်များနှင့် လောကီလူသားများ၌ ဖြစ်လေ့ဖြစ်ထရှိသော လူမှု

[1] လယ်တီဆရာတော်အရှင်ဉာဏ၊ ဝိဇ္ဇာမဂ္ဂဒီပနီ - လယ်တီဒီပနီပေါင်းချုပ်(ဒုတိယတွဲ)၊ သာသနာရေးဦးစီးဌာန ပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ ၁၉၈၅၊ နှာ - ၂၉၂





ရေးဖောက်ပြန်မှုများ ရှိနေသေးကြောင်းကို သိရပေသည်။ ထိုဝိဇ္ဇာဓိုရ် များသည်ပင် ကာမေသုမိစ္ဆာစာကို ကျူးလွန်နေကြသေး၍ ယခုခေတ် ဘိုးတော်တု၊ ဘိုးတော်ယောင်၊ ဝိဇ္ဇာတု၊ ဝိဇ္ဇာယောင်များသည် သာမန် ပုထုဇဉ်လူများသာ ဖြစ်ကြ၍ ထိုကံကို ပြစ်မှားကျူးလွန်တတ်ကြသည်မှာ ဆိုဖွယ်ရာ၊ ပြောဖွယ်ရာပင် မရှိပြီ။ သတိရှိသူ၊ ဉာဏ်ရှိသူများသည် သတိထား၍ ဉာဏ်အားနှင့် ဝေးဝေးမှ ရှောင်နိုင်ကြဖို့ပင်ဖြစ်၏။ ထို ဝိဇ္ဇာဓိုရ်များ၏ အမူအကျင့်များနှင့်ပတ်သက်၍ ဇာတ်အဋ္ဌကထာ၌ အောက်ပါအတိုင်းဖော်ပြထားသည်။

ပါဠိ။ ။ အတီတေ ဗာရာဏသိယံ ဗြဟ္မဒတ္တေ ရဇ္ဇံ ကာရေန္တေ ဗောဓိသတ္တော သက္ကော အဟောသိ။ တဒါ ဧကော ဝိဇ္ဇာဓရော ဝိဇ္ဇံ ပရိဝတ္တေတွာ အမုရတ္တသမယေ အာဂန္တွာ ဗာရာဏသိရညော အဂ္ဂမဟေသိယာ သဒ္ဓိံ အတိစရတိ၊ တဿာ ပရိစာရိကာယော သဉ္ဇာနိံသု။[1]

အနက်။ ။ အတီတေ၊ ရှေးလွန်လေပြီးသောအခါ၌။ ဗာရာဏသိယံ၊ ဗာရာဏသီပြည်၌။ ဗြဟ္မဒတ္တေ၊ ဗြဟ္မဒတ်မင်းသည်။ ရဇ္ဇံ ကာရေန္တေ၊ ထီးနန်းအုပ်ချုပ် မင်းလုပ်နေစဉ်။ ဗောဓိသတ္တော၊ ဘုရားအလောင်းသည်။ သက္ကောအဟောသိ၊ သိကြားမင်း ဖြစ်နေ၏။ တဒါ၊ ထိုအခါ၌။ ဧကော ဝိဇ္ဇာဓရော၊ ဝိဇ္ဇာဓိုရ် တစ်ယောက်သည်။ ဝိဇ္ဇံ၊ ဝိဇ္ဇာအတတ် (မန္တာန်အတတ်)ကို။ ပရိဝတ္တေတွာ၊ အဖန်ဖန်ဖြစ်စေ(သရဇ္ဈာယ်)၍။ အမုရတ္တ

[1] ဇာတကအဋ္ဌကထာ (တတိယတွဲ)၊ ဆတ္တနိပါတ၊ သာသနာရေးဦးစီးဌာနပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ ၁၉၅၉၊ တမျက်နှာ - ၃၉၁

သမယေ၊ ညသံခေါင်ယံအချိန်၌။ အာဂန္တွာ၊ နန်းတော်သို့
ရောက်လာ၍။ ဗာရာဏသီရည္သော၊ ဗာရဏသီမင်း၏။ အဂ္ဂ
မဟေသီယာ၊ မိဖုရားခေါင်ကြီးနှင့်။ သိဒ္ဓိံ၊ အတူတကွ။
အတိစရတိ၊ မွေ့လျော်၏(လွန်ကျူးဖေါက်ပြား၏)။ တဿာ၊
ထိုမိဖုရား၏။ ပရိစာရိကာယော၊ အလုပ်အကျွေးတို့သည်။
သဉ္ဇာနိံသု၊ သိကုန်၏။

ဤဇာတ်အဋ္ဌကထာစကားကိုကြည့်၍ တစ်ချိန်တစ်ခါက ဝိဇ္ဇာဓိုရ်များ လူလောကတွင် အမှန်တကယ်ပင် ရှိခဲ့ကြောင်းသိနိုင်သည်။ မြန်မာရာဇဝင်နှင့် သမိုင်းမှတ်တမ်းများ၌လည်း ဝိဇ္ဇာဓိုရ်တို့အကြောင်းကို ဖော်ပြထားသည်။ သရေခေတ္တရာပြည်တွင် ဒွတ္တပေါင်မင်းကြီးထံ၌ ဝိဇ္ဇာဓိုရ်နှစ်ယောက် ခစားဖူးခဲ့သည့်မှတ်တမ်း၊ သထုံပြည်တွင် ဝိဇ္ဇာဓိုရ်အသေကောင်ကို ဆရာတော်တစ်ပါး တောထဲမှ ရခဲ့ဖူးသည့် မှတ်တမ်း၊ ရခိုင်ပြည် တောင်ကြီးတစ်ခုတွင် ဝိဇ္ဇာဓိုရ်တစ်ဦးသည် ရေးဘူးတစ်ဘူးကို မြစ်သို့အလိုလိုသွားစေ၍ ရေကို ခတ်ယူစေဖူးသည့်မှတ်တမ်း၊ အင်းဝဘုရင်တရဖျားမင်းသည် ဝိဇ္ဇာဓိုရ် လုလင်ကို မြင်ခဲ့ဖူးသည့်မှတ်တမ်း၊ ဘုရင့်နောင်မင်းတရားကြီးလက်ထက် ဟံသာဝတီကျုံးတူးသောကာလ မြေထဲ၌ အောင်းနေသော ဝိဇ္ဇာဓိုရ်ကိုတွေ့ခဲ့ဖူးသည့်မှတ်တမ်း၊ ဤမှတ်တမ်း မှတ်ရာများအရ တစ်ချိန်တစ်ခါက ဝိဇ္ဇာဓိုရ်များ ရှိခဲ့ဖူးကြောင်း သိရပေသည်။ သို့သော် ယခုမျက်မှောက်ခေတ်၌ အထက်၌ ဖော်ပြထားခဲ့သော တန်ခိုးအစွမ်းများနှင့် ပြည့်စုံကြသော ဝိဇ္ဇာဓိုရ်များမတွေ့နိုင်တော့သည်ကတစ်ကြောင်း၊ မည်သူတစ်ဦး တစ်ယောက်မျှ မတွေ့ဖူး၊ မမြင်ဖူး၊ မကြားဖူးတော့သည်က တစ်ကြောင်း၊ ဤအကြောင်းကြောင်းများကြောင့် ဝိဇ္ဇာဓိုရ်များနှင့် စပ်လျဉ်းသော အဖြစ်အပျက်များသည် တရံရောအခါက ဖြစ်ပျက်သွားခဲ့သော





အဖြစ်အပျက်များဟုသာ သုံးသပ်ဆင်ခြင်မိတော့သည်။ အသိ၊ အလိမ္မာ၊ဉာဏ်ပညာတို့နှင့် သုံးသပ်ဆင်ခြင်၍ ဝိဇ္ဇာဓိုရ်များ ယခုခေတ်၌ ရှိနိုင်၊ မရှိနိုင် နားလည်နိုင်ကြပါစေ။

## ဇော်ဂျီများ တကယ်ရှိသလား

ဇော်ဂျီများ ထင်ရှားရှိခဲ့ဘူးသည်ကို ရှေးဟောင်းစာပေများအရ သိရှိနိုင်သည်။ ဇော်ဂျီကို ရှေးစာဟောင်း၊ ပေဟောင်းများ၌ ဇော်ဂီဟု ရေးသားထားသည်ကို တွေ့ရှိသည်။ ပါဠိသက္ကတ နွယ်ထားသော ဟိန္ဒီစကားလုံးဖြစ်ပြီး။ ဇော်ဂီ (ယောဂီ)မှ အဆင့်အဆင့် ဆင်းသက်လာသော စကားဖြစ်သည်။ ရှေးဟောင်းစာပေများဖြစ်ကြသော ဓမ္မပါလပျို့ (ပိုဒ်ရေ–၉) ၌ 'ဗြဟ္မာနွယ်ရိုး၊ ဇောဂီမျိုးတို့၊ လက်ညှိုးဦးလွန်၊ တည့်တည့်ညွှန်၍' ဟူ၍လည်ကောင်း၊ သံဝရပျို့ (ပိုဒ်ရေ–၁၆၉)၌ ''ရပ်ပြစ်ရှစ်ပါး၊ ပုဏ္ဏားဇော်ဂီ၊ နိမိရှေးက၊ နေကုန်ကြသည်'' ဟူ၍လည်းကောင်း၊ ရွှေဟသ်ာမင်းပျို့ (ပိုဒ်ရေ–၉၄) ၌ 'ပုဏ္ဏားဇောဂီ၊ တပဿီနိုက်၊ စရိုက်ကျင့်တမ်း၊ ဓမ္မလမ်းကို' ဟူ၍လည်ကောင်း ဖွဲ့ဆိုထားသည်တို့ကို ထောက်ရှု၍ ဇော်ဂီသည် ပုဏ္ဏားဗြာဟ္မဏကိုဏ်းဝင် ဖြစ်ကြောင်းထင်ရှားသည်။ ဇော်ဂီတို့သည် အလျှုံခံတစ်ကျိပ်လေးပါးတို့တွင် ပါဝင်ကြပြီး၊ မြို့ရွာဇနပုဒ်များ၌ ရဟန်း၊ ပုဏ္ဏားတို့နည်းတူ နေထိုင်ကြကြောင်း 'ဘိက္ခုသင်္ဃာ၊ အရိယာနှင့်၊ ဆရာပုဏ္ဏား၊ ဇော်ဂီအားလည်း၊ စွန့်စားလှူဒါ၊ မိုးသို့ရွာ၏' ဟူသော ဓမ္မပါလာလပျို့ (ပိုဒ်ရေ–၄၄) ကိုမှီး၍ သိရပေသည်။

ဇော်ဂီ (သို့မဟုတ်) ဇော်ဂျီတို့၏ လုပ်ငန်းများသည် အများအားဖြင့် ပုဏ္ဏားတို့ အလေ့အကျင့်ပြုသော လုပ်ငန်းများနှင့်လည်း တူနေသည်ကို လေ့လာသိရှိရသည်။ ဇော်ဂျီတို့သည် ဗေဒင်ဟောခြင်းအတတ်၊ လက္ခဏာဖတ်ခြင်း အတတ်၊ မြေကြွန်အတတ်များကို

နားလည်ကြသည်။ နေသွား၊ လသွား၊ နေကြတ်၊ လကြတ်၊ ဂြိုဟ်နေ ဂြိုဟ်ရပ်၊ အတိတ်နိမိတ်၊ တဘောင် စံနည်း တို့ကိုလည်း ကျွမ်းကျင်ကြသည်။ သုဝဏ္ဏသျှံသစ္စာခန်းပျို့ (ပိုဒ်ရေ–၁၃၇)၌ 'ဇော်ဂျီအတတ်၊ နတ်မန္တရား၊ နတ်ဆေးဝါးဖြင့်၊ ယောက်ျားအိပ်ပျော်၊ နှိုးဘိသော်သို့'ဟု စပ်ဆိုထားသည်ကို ထောက်ထား၍ ဇော်ဂျီတို့သည် အသက်သွင်းသော အတတ်မျိုးကိုပါ လေ့လာတတ်ကျွမ်းသည်ဟု သိရပေသည်။ ဇော်ဂျီတို့၏ အဆင်းသဏ္ဌာန်ကို ပန်းချီ၊ ပန်းပုလက်ရာတို့တွင် လည်းကောင်း၊ ဇာတ်စင်၊ ရုပ်သေးစင်တို့တွင်လည်းကောင်း ဖော်ပြထားကြသည်။ ကြက်သွေးရောင်အင်္ကျီ ဇော်ဂျီဦးထုပ်၊ ဇော်ဂျီမုတ်ဆိပ်နှင့် တောင်ဝှေးကိုင်ဆောင်လျက်၊ (တစ်ခါတစ်ရံ) အသွားသုံးခွရှိသော လှံတံကို ကိုင်စွဲလျှက် ဇော်ဂျီတို့၏ ပုံသဏ္ဌာန်ကို ဖော်ပြကြသည်။

ရှေးဟောင်းစာပေတို့တွင် ဇော်ဂျီနှင့် ဝိဇ္ဇာဓိုရ်ကို မကွဲမပြား ရေးသားထားသည်ကို တွေ့ရပြန်သည်။ သုဝဏ္ဏဘူမိ သထုံပြည်တွင် သူရဲကောင်းကုလားညီနောင်နှစ်ယောက် မီးမြှိုက်ဖုတ်ကင်၍ စားသောက်ခဲ့ကြသော အသားမှာ 'ဝိဇ္ဇာဓိုရ်ဇော်ဂျီကောင်' ဖြစ်သည်ဟု ဦးကုလားရာဇဝင်၌ ရေးသားဖော်ပြထားသည်။ ကျမ်းဂန်စာပေများအရ ထိုဇော်ဂျီတို့သည် ယောရမည်သောမန္တာန်၊ ဂန္ဓာရီမည်သောမန္တာန်၊ ထိုနှင့်လျော်သော ဂုဠိကာမည်သောဆေး၊ ဤမန္တာန်နှင့်ဆေးနှစ်ပါးစုံပြည့်စုံသောအခါ၌ ဝိဇ္ဇာဓိုရ်အဖြစ်သို့ ရောက်ရှိသွားသည်ဟု အဆိုရှိ၏။ ဝိဇ္ဇာဓိုရ်ဖြစ်သွားလျှင် များစွာသော တန်ခိုးဖန်ဆင်းခြင်းအမှုကို ဖြစ်စေနိုင်သည်ဟု ရှေးဟောင်းစာပေများ၌ ဖော်ပြထားသည်။ တစ်ယောက်တည်းဖြစ်လျက် များစွာသောခန္ဓာကိုယ်၊အများဖြစ်လျက် တစ်ယောက်တည်းသော ခန္ဓာကိုယ်ဖြစ်အောင် ဖန်ဆင်းနိုင်ခြင်း၊ ကိုယ်ဖျောက်နိုင်ခြင်း၊ ကိုယ်ထင်ရှားဖြစ်စေခြင်း၊ တံတိုင်းများ၊ တောင်များကို အဆီးအတားမရှိ ဖြတ်ကျော်သွားလာနိုင်ခြင်း၊ ကောင်းကင်၌ အတောင်ရှိ





သောငှက်များကဲ့သို့ ပျံသန်းနိုင်ခြင်း၊ ရေ၌လည်း ငါးများကဲ့သို့ ငုတ်ခြင်း၊ပေါ်ခြင်းကို ပြုနိုင်ခြင်း၊ လဝန်း နေဝန်းတို့ကို လက်ဖြင့်ကိုင်တွယ်သုံးသပ်နိုင်ခြင်းစသော ဝိဇ္ဇာဓိုရ်တို့၏ တန်ခိုးအာနုဘော်တို့ကို သမန္တစက္ခုဒီပနီကျမ်း၌ ဖော်ပြထားသည်။[၁၀] သို့သော် ဇော်ဂျီနှင့် ဝိဇ္ဇာဓိုရ် မတူကြောင်း ကျမ်းဂန်စာပေများကိုမှီး၍ ခွဲခြားသိနိုင်လောက်ပြီ။

ဇော်ဂျီများအကြောင်းကို ကုန်းဘောင်ခေတ်ပြ ဇာတ်ဆရာ ဦးကြင်ဥက ကျမ်းဂန်စာပေများနှင့်နှီးနှော၍ ဇော်ဂျီတို့၏ သရုပ်သကန်ပေါ်အောင် ဖွဲ့နွဲ့ထားသည်မှာ စိတ်ဝင်စားဖွယ်ကောင်းသည်။ ဦးကြင်ဥ ရေးသားဖွဲ့နွဲ့ထားပုံက–

> ငါဖေဂျီသနစ်ကို၊ ဋီကာဖြစ် လောင်းတော့မည်၊ သက်ပြောင်းသက်ခွာ၊ ဂါထာမန္တန်၊ မှော်ပြန်စုန်းနတ်၊ ဆယ့်နှစ်ရပ်ကို၊ ပတ်ပတ်နှောက်မွှေ၊ အရှင့်ဖုန်းနှင့်၊ ထုံးလိုချေ၊ ကဝေသာရ၊ လက္ခဏာဒီပ၊ဘေသဇ္ဇပါရဂူ၊သရုပ္ပပိဋ္ဌော၊ ဥဏှာနှင့်တေဇော၊ ဝါယောဓာတု၊ဓာတ်ဆေးကုမှာလည်း၊သုထက်ဆယ်ဆ၊ ကျူးလို့ပဲကျသေး၊ သုတလောဟာ၊ ဘင်နာခဲချိုး၊ သံလေလည်းထိုး၊ တန်ခိုးစွမ်းအင်၊ စိန်သေနတ်အမြောက်နှင့်၊ လေးသစ်ပေါက်အဝင်၊ အရှင်သိရဲစာမြီ၊ ငါနန်းပေါက်ဇော်ဂျီ။[၁၁]

ဇော်ဂျီတို့၏ သရုပ်သကန်ကို ထင်သာမြင်သာအောင် ဖွဲ့နွဲ့နိုင်စွမ်းရှိပါပေသည်။ သို့သော် ယဉ်ကျေးမှု အမွေအနှစ်အရ ဇာတ်ပွဲများ၊ အငြိမ့်ပွဲများ၊ ရုပ်သေးပွဲများ၌ ဇော်ဂျီများကို ဇော်က ကရာ၌

---

[၁၀] မြန်မာ့စွယ်စုံကျမ်း (အတွဲ–၄)၊ နှာ ၃၄၀။

[၁၁] မြန်မာ့စွယ်စုံကျမ်း (အတွဲ–၄)၊ နှာ ၃၄၀–၃၄၁။

တွေ့ရမြင်ရသေးသော်လည်း ယခုခေတ်၌အခါ အထက်၌ ဖော်ပြခဲ့ပြီး ဖြစ်သော ရှေးဟောင်းစာပေများ၌ ဖော်ပြထားသော တန်ခိုးအစွမ်း များနှင့်ပြည့်စုံကုန်သော ဇော်ဂျီမျိုးကို မတွေ့ရတော့ပေ။ ဇော်ဂျီတို့ ပုံပန်းသဏ္ဌာန်များကို တွေ့လိုလျှင် ဇာတ်ပွဲ၊ အငြိမ့်ပွဲများ၊ ရုပ်သေးပွဲ များ၌သာ သွားရောက်၍ ကြည့်ရှုနိုင်ကြောင်း တိုက်တွန်းရပေတော့ မည်။ ရှေးဟောင်းစာပေများ၌ ''ဝိဇ္ဇာဇော်ဂျီ၊ တပသီနှင့်'' စသည်ဖြင့် ရေးသားချက်များ တခါတရံ၌ တွေ့ရတတ်သည်။တပသီတို့မှာ ဇော်ဂျီ အဝင်အပါဖြစ်ကြောင်း မြန်မာစွယ်စုံကျမ်း၊ အတွဲ(၄)၊ စာမျက်နှာ ၃၄၀–၌ ဖေါ်ပြထားသည်။

တန်ခိုးဣဒ္ဓိအစွမ်းများနှင့် ပြည့်စုံကြသော လောကီဝိဇ္ဇာများကို ဇာတ်နိပါတ်တော်များ၌ များသောအားဖြင့် တွေ့ရသည်။ ထိုကဲ့သို့သော လောကီဝိဇ္ဇာများသည် သမထကျင့်စဉ်များကို အခြေခံ၍ မြေးလျှိုးမိုးပျံ ခြင်းစသော လောကီဈာန်တန်ခိုးအမျိုးမျိုးကိုလည်းကောင်း၊ နိမိတ် ကျမ်း၊ နက္ခတ်ကျမ်း၊ မန္တန်ကျမ်း၊ ဆေးကျမ်း၊ ဓာတ်ကျမ်း အစရှိသော လောကီအတတ်ပညာအမျိုးမျိုးကိုလည်းကောင်း၊ ဆေးဝိဇ္ဇာ၊ အင်း ဝိဇ္ဇာ၊ပြဒါးဝိဇ္ဇာ၊သံဝိဇ္ဇာစသော လောကီဝိဇ္ဇာတို့တတ်အပ်သော အတတ် အမျိုးမျိုးကိုလည်းကောင်း၊ စိန္တာမဏိဝိဇ္ဇာ (စိတ်အလိုအတိုင်း ပြီးစေနိုင် သောအတတ်)စသော အတတ်မျိုးတို့ကိုလည်းကောင်း ပေါက်ပေါက်ရောက် ရောက် တတ်မြောက်ထားကြသဖြင့် နတ်သိကြားတို့၏တန်ခိုး၊ အဘိ ညာဉ်တန်ခိုးတို့နှင့် အလားတူသော တန်ခိုးမျိုးကို ရရှိထားကြသော လောကီဝိဇ္ဇာမျိုးကို ကျမ်းဂန်စာပေများ၌ ဖော်ပြထားကြသည်။ သို့သော် ထိုလောကီဝိဇ္ဇာတို့သည် လောကလူသားတို့၏ သဘော သဘာဝများကိုလည်းကောင်း၊ အမူအကျင့်များကိုလည်းကောင်း ဆောင်လျက် လောက၌ သွားလာ၊နေထိုင်တတ်ကြ၍ ကိလေသာတို့မှ ကင်းဝေးစင်ကြယ်ပြီးသော ပူဇော်ခံထိုက်သော မြတ်ဘုရားနှင့် တန်းတူ





ရည်တူထား၍ ဘုရားစဉ်ပေါ်၌ ကိုးကွယ်ပူဇော်ပသနေကြခြင်းမျိုးသည် မပြုသင့်ရာကို ပြုရာရောက်၍ လောကီ၊ လောကုတ္တရာမင်္ဂလာများ မတိုးပွားနိုင်သည့်အပြင်၊ လောကီ၊ လောကုတ္တရာမင်္ဂလာများပင် ပို၍ ဆုတ်ယုတ် သွားနိုင်ဖွယ်ရှိပါသည်။ ဘာသာတရားကိုးကွယ်မှု၌ ဉာဏ် ယှဉ်၍ သတိပြုနိုင်ကြပါစေ။

ဗုဒ္ဓဘာသာဝင်များ ယုံယုံကြည်ကြည်ကိုးကွယ်သင့်သော ပုဂ္ဂိုလ်မျိုးသည် အရိယာဝိဇ္ဇာ ပုဂ္ဂိုလ်မျိုးနှင့် အရိယာဝိဇ္ဇာအဆင့်သို့ ရောက်ရှိနိုင်အောင် သိက္ခာသုံးပါးကို ကျင့်ကြံအားထုတ်နေကြသော ပုဂ္ဂိုလ်မျိုးသာ ဖြစ်သင့်သည်။ အရိယာဝိဇ္ဇာပုဂ္ဂိုလ်မျိုးဆိုတာ ရုပ်နာမ် ခန္ဓာ၊ဓာတ်၊ သစ္စာတို့ကို ယထာဘူတ ကျနမှန်စွာ သိမြင်တော်မူပြီးကြ သော မဂ္ဂဉာန် လေးယောက်၊ ဖလဉာန် လေးယောက်–အဆင့်သို့ ရောက်ရှိသွားကြသော ရှစ်ယောက်သော ပုဂ္ဂိုလ်တို့ကို အရိယာဝိဇ္ဇာဟု ရည်ညွှန်းပြောဆိုခြင်းဖြစ်သည်။ ဘုရား၊ ပစ္စေကဗုဒ္ဓါ၊ ရဟန္တာအရှင် မြတ်များသည် သံသရာ ဘေးဒုက္ခတို့မှ လွတ်မြောက်သွားကြသော အရိယာဝိဇ္ဇာအစစ်များ ဖြစ်သည်။ ဗုဒ္ဓဘာသာဝင်များသည် ထို အရိယာဝိဇ္ဇာများကိုသာ ဉာဏ်နှင့်ယှဉ်၍ ကိုးကွယ်သင့်ကြပေသည်။ အရိယာဝိဇ္ဇာတို့တွင် သဗ္ဗညုတဘုရားရှင်သည် လူတွင်လည်းကောင်း၊ နတ်ဗြဟ္မာတို့တွင်လည်းကောင်း အတုမရှိ အသာဆုံး၊ အမြတ်ဆုံးဖြစ် တော်မူ၍ ဗုဒ္ဓဘာသာဝင် သူတော်စင်တို့သည် ဘုရားရှင်ကိုယ်တော် မြတ်ကြီးကို ဖြူစင်သောနှလုံးသားဖြင့် မြတ်မြတ်နိုးနိုးပူဇော်သင့်သည်။ ဘုရားစင်မှာ ဘုရားရုပ်ပွားကို ခန့်ခန့်ငြားငြား ထည်ထည်ဝါဝါ တစ်ဆူ တည်းထားလျက် အခြားခြားသော ဘိုးတော် စသည်တို့၏ ရုပ်ပွား (သို့မဟုတ်) ရုပ်ပုံများနှင့် ရောနှောထားခြင်းမရှိပဲ ဘုရားရှင်ကိုသာ အတူမရှိ၊ အတုမရှိ၊ အနှိုင်းမရှိ ယုံကြည်ကိုးကွယ်ခြင်းမျိုးသည်သာ ဗုဒ္ဓဘာသာဝင်တစ်ယောက်၏ ဓမ္မအမြုတေကို သက်သေထူရာ

ရောက်ပေလိမ့်မည်။

## ဘိုးတော်ဆိုတာ ဘယ်သူတွေလဲ

'ဘိုးတော်၊ ဝိဇ္ဇာ'များ တကယ်ရှိ၊ မရှိ မေးခွန်းနှင့်စပ်၍ ဆွေးနွေးတင်ပြစရာတွေ များစွာရှိနေပါသည်။သို့သော်'ရှိခြင်း၊မရှိခြင်း' ဆိုသည့် သီအိုရီကို ဦးစွာဆွေးနွေးတင်ပြလိုပါသည်။ 'ရှိခြင်း၊မရှိခြင်း'ဆိုသည်မှာ တစ်ခါတစ်ရံ၌ မိမိတို့၏ ယုံကြည်မှု၌သာ တည်မှီနေသည်ကို တွေ့ရှိရသည်။ အဝိဇ္ဇာမာနပညတ္တိ (တကယ်ထင်ရှားမရှိဘဲ အရှိတရားအနေနှင့်သိစေခြင်း)သဘောအရ တကယ်ထင်ရှားမရှိသော အရာများသည် လောကလူသားများက ထင်ရှားရှိသယောင်ယောင် အသိအမှတ်ပြုထားကြလျှင် တကယ်ပင် ထင်ရှားရှိနေသယောင်ယောင် အထင်မှား၊ အမြင်မှားများကို ဖြစ်လာစေနိုင်သည်။ ဥပမာ– 'ယုံချို၊ လိပ်မွေး'စသောအရာများ၊ 'ရေသူမများ ရှိသည်' ဟူသော အယူအဆများသည် လောက၌ ထင်ရှားမရှိသော်လည်း လူတို့အသိတရား၌ 'ယုံချို၊ လိပ်မွေး'၏ သဘောသဘာဝကိုလည်းကောင်း၊ 'ရေသူမ'၏ ပုံပန်းသဏ္ဌာန်ကိုလည်းကောင်း သိနိုင်ပေသည်။ လောကကြီးကို ဖန်ဆင်းရှင် ဖန်ဆင်းထားသည်ဟု ယုံကြည်ထားသော ဖန်ဆင်းရှင်ကို ယုံကြည်ကိုးကွယ်ရာ၌လည်း အလားတူပင်ဖြစ်သည်။ ယနေ့မျက်မှောက်ခေတ်၌ ဘိုးတော်ယောင်ယောင်၊ ဝိဇ္ဇာယောင်ယောင်ပုဂ္ဂိုလ်များသည် သမ္မုတိသစ္စာသဘောအရ လောက၌ ထင်ရှားရှိနေသည်။ သို့သော် ဘိုးတော်ဂိုဏ်းဝင်များ ယုံကြည်ထားကြသလို ရွှေဖြစ်၊ ငွေဖြစ်အတတ်ဖြင့် ကြေးကို ရွှေဖြစ်အောင်၊ ခဲကိုလည်းကောင်း၊ ဘော်ကိုလည်းကောင်း ငွေဖြစ်အောင်ပြုနိုင်သောအတတ်မှာ ယခုခေတ် ဘိုးတော်၊ ဝိဇ္ဇာများ၌ မရှိသည်မှာ သေချာသည်။ အဘယ်ကြောင့်ဆိုသော် ရွှေဖြစ်၊ ငွေဖြစ်အတတ်ပညာများကို ဆုံးခန်းတိုင်အောင် အောင်မြင်တတ်မြောက်ထားသော ပုဂ္ဂိုလ်များ မရှိနိုင်သောကြောင့်ဖြစ်သည်။ ဤအဆိုကို အင်္ဂလိသမားတစ်ယောက်အနေနဲ့ ပြုံးကောင်းပြုံးနေပေလိမ့်မည်။ လောက၌ စာရေးသူမသိသော အရာများ အများကြီးရှိနေပါသေးသည်ဟု ပြောဆိုကောင်း ပြောဆိုပေလိမ့်မည်။ လက်ခံပါသည်။ ရွှေဖြစ်အောင်လုပ်နိုင်ပါသည်ဆိုသော အင်္ဂလိသမားများကို ဒီလိုဆို ရွှေဖြစ်အောင်လုပ်ပြပါလားဆိုတော့ ရွှေဖြစ်အောင်တော့ လုပ်ပြမည်။ ဒါပေမဲ့ ရွှေဖြစ်အောင် ထည့်ဝင်ရသော ဓာတ်သတ္တုများ၏ တန်ဖိုးသည် ရွှေတန်ဖိုးထက် ဈေးကြီးနေသည်ဟု ဆိုလာသည်။ လောဘရှိသူများ၊ ယုံကြည်လွယ်သူများ သတိမူစရာပင်။

မန္တန်အတတ်၊ မန္တရားအတတ်၊ ဆေးဝါးအတတ်များဖြင့် လူတွေရဲ့ အသက်တွေကို ထောင်သောင်းမကရှည်အောင် ပြုလုပ်ပေးနိုင်သော ထွက်ရပေါက် ဘိုးတော်၊ ဝိဇ္ဇာမျိုးဆိုတာလည်း ယခုခေတ်၌ ထင်ရှားမရှိနိုင်တော့ပြီ။ 'စေ' တစ်လုံးပိုင်၍ 'တ'တိုင်းကို ရစေနိုင်သော ဘိုးတော်၊ဝိဇ္ဇာများဆိုတာလည်း ဒဏ္ဍာရီဆန်သော သမိုင်းမျိုးထဲမှာသာ ရှိနိုင်၍ ယခုခေတ်၌ လုံးဝမရှိနိုင်တော့ပြီဟု ကောက်ချက်ချနိုင်သည်။ အကယ်၍ တစ်ဦးတစ်ယောက်မှ ဘိုးတော်ဝိဇ္ဇာများ တကယ်ရှိပါသေးကြောင်း ငြင်းခုံပြောဆိုလာခဲ့မည်ဆိုလျှင် လက်ခံလိုက်ပါ။ အဘယ့်ကြောင့်ဆိုသော် ထိုဘိုးတော်၊ဝိဇ္ဇာမျိုးသည် ယုံကြည်ကိုးကွယ်သူတို့၏ စိတ်ကူးအာရုံထဲမှာသာ ထင်ရှားရှိနေသောကြောင့်ဖြစ်သည်။ ယုံကြည်မှုထဲမှာသာ ရှိသော မရှိတရားဟု စာရေးသူအနေနှင့်လက်ခံထားပါသည်။ အရှိတရား အနေတော့ တကယ်ပင် ထင်ရှားမရှိနိုင်ပြီ။ သိပ္ပံခေတ်၌ တစ်ဦး တစ်ယောက်၏ယုံကြည်မှုသည် လက်တွေ့ဖြစ်သင့်သည်။သို့မဟုတ် ယုံကြည်မှုကို ခိုင်မြဲစေရန် လက်တွေ့ပြသင့်သည်။ အသိမှား၊ အယူမှား၊ အမြင်မှားဖြစ်အောင် လှည့်စားမှုဖြင့် အခြေတည်ထားသော ဘိုးတော်၊ ဝိဇ္ဇာများ၏ ရွှေဖြစ်နည်း၊

ငွေဖြစ်နည်းများသည် ယနေ့ မျက်မှောက်သိပ္ပံခေတ်၌ ယုတ္တိလွန်ဝါဒမျိုးဖြစ်နေ၍ တန်ဖိုးရှိသောအချိန်များကို မလိုအပ်သောအရာမျိုး၌ အလဟဿမကုန်သင့်ပြီ။ ထို့ကြောင့် ရွှေဖြစ်၊ ငွေဖြစ် 'ဘိုးတော်၊ ဝိဇ္ဇာ'များ ယခုခေတ်၌ ထင်ရှားမရှိတော့ပြီ။ သို့သော် ခေတ်သစ် 'ဘိုးတော်' များကား ထင်ရှားရှိနေဆဲ၊ အောင်ပွဲခံနေဆဲ။ ဤမျှ လောက်သတိပေးလျှက် ဆက်လက်မျှော်လင့်နေကြဦးမည်ဆိုလျှင် စီမံကိန်းချ၍ စနစ်တကျပြုလုပ်ထားသော လိမ်ညာမှုများကို ပါဝင်ပတ်သက်ခွင့် ပေးထားသလို ဖြစ်နေတဲ့အတွက် လူမှုပြဿနာ အထွေထွေကို ပိုမိုရှုပ်ထွေးလာစေနိုင်၍ အသိတရား၊ သတိတရားများဖြင့် သုံးသပ်ဆင်ခြင်လျက် ဤယုံကြည်မှုမျိုးကို ဝေးစွာရှောင်ရှားနိုင်ကြပါစေ။

နှစ်ဆယ်ရာစုအစဦးပိုင်းမှ ပေါ်ပေါက်လာဟန်ရှိသော 'ဘိုးတော်'ဆိုသည့်ဝေါဟာရ အသုံးအနှုန်းသည် မန်လည်ဆရာတော်တို့ခေတ်၌ အတွင်ကျယ်ကြီး မတွင်ကျယ်လှသေးသော်လည်း သူတို့၏ အမူအကျင့်များကမူ အတော်အသင့်ပင် နေရာရောက်နေပြီဟု ခန့်မှန်းသိရှိရသည်။ အဘယ်ကြောင့်ဆိုသော် မန်လည်ဆရာတော်ဘုရားကြီး (၁၈၄၁–၁၉၁၉)သည် သူ့ခေတ်၊ သူ့အခါက ဘိုးတော်ယောင်ယောင်၊ ဝိဇ္ဇာယောင်ယောင်တို့အပြင်၊ မှော်ဆရာများ၊ အောက်လမ်းဆရာများကို ကိုးကွယ်နေကြသူတို့အား ယုံကြည်ကိုကွယ်မှုများ မလွဲမှားကြစေရန် မေတ္တာ၊ စေတနာဖြင့် မဃဒေဝလင်္ကာသစ်၌ အောက်ပါအတိုင်း ရေးသားဆုံးမထားသည်ကို ထောက်ထား၍ ထိုပုဂ္ဂိုလ်များ ထိုခေတ်၊ ထိုအခါက ရှိနေခဲ့ပြီဟု ကောက်ချက်ချမိသည်။

> မိစ္ဆာမောဟ၊ မှောင့်နယ်ကျလျက်၊ ချို့ကတထူး၊ ကံစုန်းပြူးနှင့်၊ ဉာဏ်ရူးမွဲတေ၊ လူရှုပ်တွေလည်း၊ ကဝေနတ်မော်၊ ရူးဆေးဘော်၍၊ အကြော်တငြာ၊ ငါဆရာဟု၊ ပညာယောင်ဝါး၊ မြင်းမိုရ်ဖျားက၊ သိကြားကိုမျှ၊ မနေရအောင်၊ ခေါ်ချနိုင်ကြောင်း၊ ဟူတုံရှောင်း၏၊ ဆေးကောင်းစွမ်းအန်၊ မန္တန်သတ္တိ၊ သိဒ္ဓိပြီးယောင်၊ ဟန်ဆောင်ဝါကြွား၊ ထောင်ပလွှားလျှက်၊ စိတ်ကားကုလ္လာ၊ နှုတ်ဝိဇ္ဇာတည်း၊ ကိုယ်မှာဖွတ်လား၊ ခေါင်းစုတ်ဘွားနှင့်၊ ခေါင်းပါးမွဲပြာ၊ ဆင်းရဲစွာ၏၊ သမ္မာဝါယမ၊ သမ္မာသက်ပ်၊ မစပ်တရား၊ ကောင်းကြံယှားတိုင်း၊ ကြိုးစားပမ်းစား၊ လူပိုးဝါးတို့၊ မပွားပညာ၊ ချီးနီးသာတည်း၊ ထင်ရာမှန်းလျှက်၊ မျက်ကန်းလမ်းသွား၊ ပြုတုံငြားလည်း၊ မှန်များမသိ၊ ကျိုးမယှိရှင့်၊ ဝိစိကိစ္ဆာ၊ များရုံသာဖြင့်၊ အဝိဇ္ဇာတုံး၊ မြင်းမိုရ်ဖုံးသို့၊ လုံးလုံးမသိ၊ မောဟဘိ၏။ (ပိုဒ်ရေ ၂၆၀)[၃၂]

ဆရာတော်ဘုရားကြီး၏ သာသနာတော်အရေးကို စာပေဖြင့်ဆောင်ရွက်ပုံ၊ စောင့်ရှောက်ခဲ့ပုံတို့သည် နောင်းခေတ်ရဟန်းရှင်လူပြည်သူအားလုံးတို့အတွက် မှတ်သားအတုယူဖွယ်ကောင်းလှသည်။ ဗုဒ္ဓစာပေ၊ မြန်မာစာပေများ ဆက်လက်အသက်ရှင်သန်နေ၍ စာပေများမှတစ်ဆင့် ဆရာတော်ကြီးများ၏ အဆုံးအမများကို ဖတ်ရှုခွင့်၊ လေ့လာခွင့်၊ ကြားနာခွင့် များရရှိ၍ စာပေကျေးဇူးတရားကို ဘယ်သောအခါမှ မမေ့မထားသင့်ပေ။ မြန်မာလူမျိုးများ၏ သီလစသော အကျင့်သိက္ခာများကို မြင့်မားသည်ထက်မြင့်မားအောင်၊ တိုးပွားသည်ထက် တိုးပွားအောင် စုပေါင်းလုပ်ဆောင်နိုင်ကြမည်ဆိုလျှင် စာပေ၏ ဂုဏ်သိက္ခာများသည်လည်း ပို၍ပို၍ပင် တိုးပွားနိုင်ဖွယ်ရှိကြောင်း

---

[၃၂] မန်လည်ဆရာတော်၊ မဟာသုကကာရီမဃဒေဝလင်္ကာသစ်၊ သာသနာ့ရေးပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ ၁၉၉၈၊ နှာ ၁၉၂။

ယုံကြည်ယူဆမိပါသည်။

သို့သော် အများနှင့်စုပေါင်း၍ ပြုလုပ်ရသောအရာမျိုး၌ 'စုပေါင်းညီညာ အောင်ကြောင်းဖြာ' ဟု မြန်မာစကား၌ အဆိုရှိထားသော်လည်း တကယ့်လက်တွေ့ဘဝ၌ မြန်မာအချင်းချင်း စုပေါင်းအလုပ်လုပ်ကြရာ၌ မအောင်မြင်နိုင်ဘဲ ရှိနေတတ်သည်။ ဘာကြောင့်ဤကဲ့သို့ဖြစ်နေရသလဲဆိုလျှင် မြန်မာလူမျိုးများ၌ အားနည်းချက်အချို့ရှိနေသောကြောင့်ဟု ထင်မြင်ယူဆမိပါသည်။ မြန်မာလူမျိုးများသည် မရှိမာန၊ ရှိမာနနှစ်မျိုးရှိသည့်တွင် မရှိမာနကို ရှေ့တန်းတင်ထားလွန်းခြင်း၊ အတ္တဟိတနှင့် ပရဟိတအကျိုးနှစ်ပါး ယှဉ်ပြိုင်လာလျှင်လည်း အတ္တဟိတဘက်ကို အလေးပေးလွန်းခြင်း၊ အချင်းချင်းတစ်ယောက်ကိုတစ်ယောက် နားလည်ပေးရမည့်ကိစ္စမျိုး၌ ကိုယ့်ဘက်ကိုသာ တစ်ဖက်သားအား နားလည်ပေးစေလိုပြီး၊ ကိုယ့်ဘက်ကမူ နားလည်မှုပေးနိုင်ခြင်း၊ 'ဘုတ်ကိုကျီးရှိသေ၊ ကျီးကို ဘုတ်ရှိသေ' ဆိုရိုးစကားကို ပမာမမှီးဘဲ အပြန်အလှန်လေးစားမှုများ အားနည်းနေခြင်း၊တစ်ယောက်သောသူ၏ စေတနာပါသောလုပ်ရပ်ကို အခြားသူတစ်ယောက်က ဝမ်းပမ်းတသာ ကြိုဆိုလက်ခံမှုများ မပြုတတ်ခြင်းနှင့် အချင်းချင်းအပေါ် ကတိသစ္စာတရားများ ပျက်ကွက်ခြင်းတို့သည် မြန်မာလူမျိုးတို့၏ ဂုဏ်သိက္ခာကို ကျဆင်းစေသော အကြောင်းများဟု လေ့လာသုံးသပ်မိသည်။ စိစစ်သုံးသပ်နိုင်ကြပါစေ။

ပုထုဇဉ်တို့၏သဘော၊ ပုထုဇဉ်တို့၏ သဘာဝသည် တစ်စုံတစ်ခုကို လက်ခံယုံကြည်မိထားပြီဆိုလျှင် အပြင်ခက်၊ အပြုခက်၊ အပြောခက်ဖြစ်နေတတ်ကြသည်။ အကျိုးအပြစ်ကိုမြင်၍ ထိုအစွဲအလမ်းကို ပြင်ဖို့၊ ပယ်ဖို့၊ စွန့်ဖို့အတွက် တစ်စုံတစ်ယောက်က တိုက်တွန်းလာလျှင် အပြင်ခက်၊ အပယ်ခက်၊ အနုတ်ခက်၊ အစွန့်ခက်သည်ဟု အကြောင်းပြကာ ဆင်ခြေဆင်လက်များနေတတ်သည်။





ထိုသဘောသဘာဝများကို သိမြင်တော်မူသော မြတ်ဗုဒ္ဓသည် ထိုအယူစွဲ၊ ဝါဒစွဲ၊ ဆရာစွဲများကို ပယ်ဖျက်နိုင်ရန် ဝေနေယျတို့အား ကရုဏာနှလုံးသားဖြင့် တရားဓမ္မများကို ဟောကြားတော်မူခဲ့သည်။ ဉာဏ်အလင်းတည်းဟူသောဝိဇ္ဇာဉာဏ်ကို ရရှိပြီဆိုလျှင် ပုထုဇဉ်တစ်ယောက်အနေနှင့် အသိတရား၊ သတိတရား၊ ဆင်ခြင်တုံ၊ မြော်မြင်တုံတရားတို့ဖြင့် တရားတော်၏ အနှစ်သာရများကို ရိုရိုသေသေ လေးလေးစားစား ယုံကြည်လက်ခံလာနိုင်မည်ဖြစ်သည်။ ယုံကြည်လက်ခံလာပြီဆိုလျှင် ဓမ္မဝိနယနှင့်အညီ ဗုဒ္ဓ၏ အဆုံးအမများကို ရိုရိုသေသေ လိုက်နာလျက် အယူစွဲများကို ဉာဏ်မီသမျှပယ်စွန့်ပြီး၊ ပစ္စုပ္ပန်၊ သံသရာအကျိုးရှိနိုင်သည့်အရာများကိုသာ လိုက်နာဆောင်ရွက်၍၊ အကျိုးမရှိသည်များကို လိုက်နာဆောင်ရွက်ခြင်းရှိတော့မည်မဟုတ်ပေ။ ဤကျမ်းစာရေးရခြင်း၏ ရည်ရွယ်ချက်မှာ ပစ္စုပ္ပန်၊သံသရာအကျိုးစီးပွားများအတွက် အသိတရား၊ သတိတရားများဖြင့် ကိုယ့်ကိုယ်ကိုကာကွယ်စောင့်ရှောက်နိုင်ရေးပင်ဖြစ်ကြောင်း သတိတရားရှိသူတိုင်း သတိမူမိလိမ့်မည်ဟု ယုံကြည်ယူဆမိပါသည်။ကြားလည်းကြား၊ ကြည့်လည်းကြည့်၊ သိလည်းသိ၍ ဓမ္မဝိနယနှင့်အညီ ကျင့်လည်း ကျင့်နိုင်ကြပါစေ။





## အခန်း(၃)

## ဘိုးတော် ဝိဇ္ဇာနှင့်စပ်သော ဝေါဟာရအသုံးအနှုန်းများကို လေ့လာသုံးသပ်ခြင်း

'ဘိုးတော်ဝိဇ္ဇာ'ဟူသော ဝေါဟာရအသုံးအနှုန်းများနှင့် ပတ်သက်၍ ပါဠိစာပေကျမ်းဂန်များ၌ တိုက်ရိုက်မပါရှိကြောင်း အထက်၌ ဖော်ပြပြီးဖြစ်သည်။သို့သော် တွဲဖက်စကားလုံးဖြစ်သည့် 'ဝိဇ္ဇာ' ဟူသော ဝေါဟာရမျိုးကိုမူ ပါဠိစာပေများ၌ အထင်အရှားရှိနေသည်ကို တွေ့ရသည်။ နှစ်ဆယ်ရာစုရှေ့ပိုင်း မြန်မာစာပေသမိုင်းများ၌ မတွေ့နိုင်သေးသော 'ဘိုးတော်၊ ဝိဇ္ဇာ'ဟူသော ဝေါဟာရအသုံးအနှုန်းမှ 'ဘိုးတော်'ဟူသော စကားလုံးဝေါဟာရကို မြန်မာစာပေ၌ နှစ်ဆယ်ရာစုနှောင်းပိုင်းကျမှ မဂ္ဂဇင်း၊ ဝတ္ထု၊ ဆောင်းပါးစသည်တို့၌ အတွေ့များလာသည်။ သို့သော် 'ဝိဇ္ဇာရေ–ဝိဇ္ဇာမိုရ်'ဟူသော ဝေါဟာရအသုံးအနှုန်းများကိုမူ ဇာတကပါဠိ၊ဇာတကအဋ္ဌကထာ စသောပါဠိစာပေများ၌ ပါဝင်နေသည်ဟုရှေး၌ ဖော်ပြပြီးဖြစ်သည်၊၊ အလားတူစွာပင် 'ဝိဇ္ဇာဇော်ဂျီ'ဟူသော ဝေါဟာရ အသုံးအနှုန်းများ၊ 'အရိယာဝိဇ္ဇာ' ဟူသော ဝေါဟာရအသုံးအနှုန်းများကိုလည်း ပါဠိစာပေနှင့် ရှေးဟောင်း မြန်မာစာပေများ၌ တွေ့ရသည်။ ထိုကြောင့် ထို 'ဘိုးတော်ဝိဇ္ဇာ' ဟူသော

ဝေါဟာရ၏ အစိတ်အပိုင်းဖြစ်သော 'ဝိဇ္ဇာ' ဟူသောပုဒ်၏ ဝေါဟာရနှင့် အမျိုးအစားကို ပါဠိစာပေများ၌ ဖွင့်ပြထားသည့်အတိုင်း ရှေးဦးစွာ ဖော်ပြပါမည်။

ဝိဇ္ဇာဟူသည် ပါဠိ-မြန်မာ အဘိဓာန်ကျမ်း၌ ဖွင့်ဆိုထားသည်မှာ – 'အတတ်ပညာအဘိညာဉ်၊ ဝေဒကျမ်း၊ မန္တန်၊ အရိယာဉာဏ်၊ သစ္စာလေးပါးမဂ်ဖိုလ်တရားကိုသိသောဉာဏ်''ဟု အဓိပ္ပါယ်ဖွင့်ဆိုထားသည်။[၃၄] ထိုဝိဇ္ဇာသည်– (၁)ဝေဒဝိဇ္ဇာ၊ (၂)မန္တဝိဇ္ဇာ၊ (၃) ဂန္ဓာရီဝိဇ္ဇာ၊ (၄) လောကီယဝိဇ္ဇာ၊ (၅) အရိယာဝိဇ္ဇာ ဟူ၍ ငါးမျိုးရှိသည်။[၃၅] ထို(၅)မျိုးတို့တွင် သာမဗေဒင်၊ ယဇုဗေဒင်၊ ဣရုဗေဒင်၊ အထဗ္ဗနဗေဒင်ဟူသော ဗေဒင်လေးပုံ ကျမ်းအစုံကို အာဂုံမိမိ တစ်ဖက်ကမ်းရောက် ပေါက်မြောက်သူကို ဝေဒဝိဇ္ဇာ (ဗေဒဝိဇ္ဇာ) ဟုခေါ်သည်။ ထိုဝေဒဝိဇ္ဇာအတတ်များဖြင့် ပုဏ္ဏားများသည်လည်းကောင်း၊ပုဏ္ဏားများ၏ တပည့်သာဝကများသည်လည်းကောင်း ဗေဒင်ဟောခြင်း၊ ယဇ်ပူဇော်ခြင်း စသောအတတ်တို့ကို အဓိကထား၍ အားထုတ်ကြသည်။ ပုဏ္ဏားများ ဗေဒင်ဟောခြင်း၊ အခါပေးခြင်း၊ ယဇ်ပူဇော်ခြင်းစသော အတတ်ပညာများကို ပြုလုပ်အားထုတ်မှုများသည် ရှေးကျသော ဇာတ်ဝတ္ထုများ၌ပင် ဖော်ပြထားသည်ကိုတွေ့ရသည်။

နိမိတ်ကျမ်း၊ နက္ခတ်ကျမ်း၊ မန္တန်ကျမ်း၊ ဆေးကျမ်း၊ ဓာတ်ကျမ်းအစရှိသော လောကီအတတ်ပညာတို့ကို တစ်ဖက်ကမ်းရောက် တတ်မြောက်သူကို မန္တဝိဇ္ဇာဟုခေါ်သည်။ ဤအတတ်ပညာကို

[၃၄] ဦးဟုတ်စိန်၊ ပါဠိ - မြန်မာအဘိဓာန်၊ ချမ်းသာရောင်စုံပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ ၁၉၉၉၊ နှာ ၈၇၇။

[၃၅] လယ်တီဆရာတော်၊ ဝိဇ္ဇာမဂ္ဂဒီပနီ - လယ်တီဒီပနီပေါင်းချုပ် (ဒုတိယတွဲ)၊ သာသနာရေးဦးစီးဌာန ပုံနှိပ်တိုက်၊ ရန်ကုန်မြို့။





အချို့သောရသေ့ရဟန်းများ၊ အချို့သောပုဏ္ဏားများနှင့် အချို့သော လူပုဂ္ဂိုလ်များသည် တစိုက်မတ်မတ် လေ့လာဆည်းပူး၊ အားထုတ်ကြသည်ကို တွေ့ရှိရသည်။ နက္ခတ်ကျမ်း၊ ဆေးကျမ်းများကိုမူ ယခုခေတ် သိပ္ပံပညာရှင်များလည်း၊ လေ့လာဆည်းပူးအားထုတ်ကြသည်ကို တွေ့ရှိနိုင်သည်။

ဆေးဝိဇ္ဇာ၊ အင်းဝိဇ္ဇာ၊ ပြဒါးဝိဇ္ဇာ၊ သံဝိဇ္ဇာဟူသော ဝိဇ္ဇာအတတ်များကို အောင်မြင်ပေါက်ရောက်ကြ၍ ဝိဇ္ဇာဓရကျမ်းများ၌လာသော ဓနသိဒ္ဓိ(ရွှေဖြစ်၊ ငွေဖြစ်စေသော အတတ်)။ ပီယသိဒ္ဓိ (လူနှစ်ချစ်ခင်စေသောအတတ်)၊ ပထဝီသိဒ္ဓိ (မြေကြန်အတတ်)၊ ဥဒကသိဒ္ဓိ (ရေကြန်အတတ်)၊ အာကာသသိဒ္ဓိ (ကောင်းကင်၌ သွားလာနိုင်ခြင်းအတတ်)၊ အာယုသိဒ္ဓိ (အသက်ရှည်စေခြင်းအတတ်)၊ စိန္တာမယသိဒ္ဓိ (စိတ်အလိုအတိုင်း ပြီးစေနိုင်သောအတတ်) စသော အတတ်မျိုးကို ပေါက်ရောက်သဖြင့် နတ်၊ သိကြားတို့၏တန်ခိုး၊ အဘိညာဏ် တန်ခိုးတို့နှင့် အလားတူတတ်နိုင်စွမ်းသော ဝိဇ္ဇာမျိုးဟူသမျှကို ဂန္ဓာရီဝိဇ္ဇာ ဟုခေါ်သည်။ ဝိဇ္ဇာဓိုရ်များ လေ့ကျင့်တတ်မြောက်ထားသော စိန္တာမယသိဒ္ဓိ (ကြံစည်တိုင်းပြီးစေနိုင်သော တန်ခိုးအမျိုးမျိုး)သည် ဂန္ဓာရီဝိဇ္ဇာ အတတ်များပင်ဖြစ်သည်။[၃၆]

ဂန္ဓာရီဝိဇ္ဇာသည် (၁) စူဠဂန္ဓာရီဝိဇ္ဇာ (၂) မဟာဂန္ဓာရီဝိဇ္ဇာဟူ၍ နှစ်မျိုးနှစ်စားရှိသည်။ ထိုနှစ်မျိုးတွင် စူဠဂန္ဓာရီဝိဇ္ဇာသည် သူတို့ တတ်မြောက်ထားသော အတတ်ပညာဖြင့် သူတစ်ပါးအား နှိပ်စက်ညှဉ်းပန်း၍ အနိုင်အထက်ကျင့်ခြင်း၊ သူတစ်ပါး၏ သားမယားများကို ပြစ်မှားကျူးလွန်ခြင်း စသော မကောင်းမှုဒုစရိုက်များကို ပြုလုပ်အားထုတ်တတ်ကြသည်။ဝိဇ္ဇာဓရဇာတ်၌လာသော ဗာရဏာသီဘုရင်၏

[၃၆] ဝိဇ္ဇာမဂ္ဂဒီပနီ၊ နှာ ၂၉၁-၂၉၂။

မိဖုရားကြီးထံသို့ ညဥ့်သန်းခေါင်ယံအချိန်၌လာ၍ ပြစ်မှားလွန်ကျူးသော ဝါယုပုတ္တဝိဇ္ဇာမျိုး၊ တာနောယက္ခဘီးလူး၏ ကြင်ယာတော်မင်းသမီးအား ကြုတ်အတွင်းသို့ ဖွတ်အတင်းဝင်ကာ လွန်ကျူးသော ဝိဇ္ဇာမျိုးသည် ရှုဥ္ဂန္ဓာရီဝိဇ္ဇာမျိုးဖြစ်သည်။ ဤဝိဇ္ဇာမျိုးကိုပင် မကောင်းမှုဒုစရိုက်တို့ကို ကျင့်ကြံ၍ သူတစ်ပါးတို့အား နှိပ်စက်ညှဥ်းပန်းတတ်သော သဘော သဘာဝရှိသောကြောင့် 'ဟီနကဝိဇ္ဇာ' ဟုလည်း ခေါ်ဆိုကြသည်။ စုံးအတတ်၊ ကဝေအတတ်၊ ဇော်ဂနီ အတတ်စသော အောက်လမ်းအတတ်ပညာများသည် ဤရှုဥ္ဂန္ဓာရီဝိဇ္ဇာအတတ်မျိုး၌ ပါဝင်သည်။ စုန်းကဝေအတတ်များကိုလည်းကောင်း၊ အောက်လမ်းအတတ်ပညာများကိုလည်းကောင်း အသုံးပြု၍ မတရားစီးပွားရှာနေသော ခေတ်သစ်ဘိုးတော်တို့၏ အမူအကျင့်များသည်လည်း ရှုဥ္ဂန္ဓာရီဝိဇ္ဇာအတတ်မျိုး၌ပင် အကျုံးဝင်နိုင်သည်။

မဟာဂန္ဓာရီဝိဇ္ဇာများသည် သူတို့ရရှိထားသော အတတ်ပညာများဖြင့် လူတို့အသက်ကို ရှည်ကြာအောင်ထား၍ သူတော်ကောင်းတရားများကို အားထုတ်ခြင်း၊ သူတစ်ပါးတို့အားလည်း အသက်ရှည်ရာရှည်ကြောင်း နည်းလမ်းကောင်းများကို ညွှန်ပြလျက် နိဗ္ဗာန်ရောက်ကြောင်း သူတော်ကောင်းတရားများကို အားထုတ်အောင် တိုက်တွန်းခြင်း၊ ဒုက္ခိတသတ္တဝါများအား ကယ်တင်ခြင်းစသော ကောင်းသောသုစရိုက်တရားများကို ကျင့်သုံးကြသောကြောင့် ဂန္ဓာရီဝိဇ္ဇာမျိုး၌ပါဝင်သည်ဟု'(အောင်မင်းခေါင်ကြီး) ဝိဇ္ဇာသမိုင်းနှင့် ချမ်းသာရေးလမ်းစဉ်' စာအုပ်ကို ရေးသားသော အသျှင်ဇောတိပါလက ရေးသားတင်ပြထားသည်။[၃၇]

ဤဂန္ဓာရီဝိဇ္ဇာလမ်းကို လိုက်စားလိုသောသူသည် ရတနာ

---

[၃၇] အသျှင်ဇောတိပါ၊ (အောင်မင်းခေါင်ကြီး) ဝိဇ္ဇာသမိုင်းနှင့် ချမ်းသာရေးလမ်းစဉ်၊ နှာ ၇-၈။





သုံးပါးဂုဏ်တော်တို့ကို ကိုယ်၌အမြဲထုံစေ၍ တန်ခိုးကြီးသော တောစောင့်နတ်၊ တောင်စောင့်နတ်၊ သစ်ပင်စောင့်နတ်၊ မြေစောင့်နတ် (ဘုမ္မစိုး) တို့ကိုလည်းကောင်း၊ မန္တရား၊ အင်းအိုင်ကို အုပ်စိုးသော ဝိဇ္ဇာဒေဝနတ်တို့ကို လည်းကောင်း၊ သိုက်သမိုင်းဝင် ဆေးပင်မျိုး၊ ကျောက်ဓာတ်မျိုးတို့ကို အုပ်စိုးသော ဩသဓိဒေဝနတ်တို့ကိုလည်းကောင်း ဤအလုံးစုံသော နတ်တို့ကို ရင်ဝယ်သားကဲ့သို့ သနားချစ်ခင် ကျွမ်းကျင်လာအောင် ရှေးဦးစွာ မိတ်သဟာယ (ရင်းနှီးကျွမ်းဝင်မှုဖြစ်အောင်) ပြုလုပ်ကြရမည်။ သို့မှသာ ထိုဂန္ဓာရီအတတ်ကို အောင်မြင်ပေါက်မြောက်နိုင်သည်ဟု ဝိဇ္ဇာမဂ္ဂဒီပနီ၌ လယ်တီဆရာတော် ဘုရားကြီးက အတိအလင်းရေးသားခဲ့သည်။ ဤဂန္ဓာရီဝိဇ္ဇာ အတတ်ကို ပေါက်ပေါက်မြောက်မြောက် တတ်မြောက်သူသည် နတ်တို့၏ ကမ္မဇိဒ္ဓိတန်ခိုးကိုပင် လွှမ်းမိုးနိုင်သော ဝိဇ္ဇာမယိဒ္ဓိ တန်ခိုးမျိုးဖြစ်၍ အထူးသတိထားလျက် မိမိ၏ အတတ်ပညာကို ကာကွယ်စောင့်ရှောက်ရပေမည်။ အဘယ်ကြောင့်ဆိုသော် ဤဂန္ဓာရီဝိဇ္ဇာအတတ်ကို ကျွမ်းကျင်တတ်မြောက်ထားသူအား နတ်တို့ မနာလိုမှုများ ရှိတတ်သောကြောင့် အသက်အန္တရာယ်နှင့် ဆေးဝါး၏အန္တရာယ်များကို ဖြစ်စေတတ်သည်ဟု ဝိဇ္ဇာမဂ္ဂဒီပနီကျမ်း၌ ဖွင့်ပြထားသည်။[၃၈]

သာသနာပအခါ၌ သရဘင်္ဂ၊ သုနေတ္တ၊ အရက အစရှိသော ရသေ့ဆရာကြီးတို့သည် ကသိဏ်းစျာန်တို့ကို ရရှိပြီး၊ နိုင်နင်းပြီးနောက် အားထုတ်၍ရအပ်သော ဣဒ္ဓိဝိဓအဘိညာဉ် (တန်ခိုးအမျိုးကိုဖန်ဆင်းနိုင်ခြင်း) ဒိဗ္ဗစက္ခုအဘိညာဉ် (နတ်မျက်စိကဲ့သို့မြင်နိုင်ခြင်း) ဒိဗ္ဗသောတအဘိညာဉ် (နတ်နားကဲ့သို့ကြားနိုင်ခြင်း) စေတောပရိယ

---

[၃၈] ဝိဇ္ဇာမဂ္ဂဒီပနီ၊ နှာ ၂၉၂-၂၉၃။

အဘိညာဉ် (သူတပါးတို့၏ စိတ်ကိုသိနိုင်ခြင်း) ပုဗ္ဗေနိဝါသအဘိညာဉ် (ရှေးရှေးဘဝများ၏ ဘဝဖြစ်စဉ်များကိုမြင်နိုင်ခြင်း) ယထာကမ္မုပဂ အဘိညာဉ် (သတ္တဝါတို့၏ လားရာဂတိများကို သိနိုင်ခြင်း) အနာဂတံသအဘိညာဉ် (အနာဂတ်ဖြစ်စဉ်များကို တင်ကြိုသိခြင်း)ဟူသော အဘိညာဉ်ဝိဇ္ဇာမျိုးကို လောကီဝိဇ္ဇာဟုဆိုသည်။ ကသိုဏ်းစျာန်များကို ရစေနိုင်သော သမထကျင့်စဉ်များကို ရိုးရိုးသားသား တစိုက်မတ်မတ် ကျင့်ကြံအားထုတ်၍ ကသိုဏ်းစျာန်များကို ရရှိသွားသော ရသေ့ကြီးများ၊ ဘိုးတော်ကြီးများ၏ ဝိဇ္ဇာအကျင့်များသည်လည်း လောကီဝိဇ္ဇာများပင်ဖြစ်ကြသည်။[19]

ထိုကဲ့သို့သော တန်ခိုးအစွမ်းများနှင့် ပြည့်စုံကြသော လောကီဝိဇ္ဇာများကို ဇာတ်နိပါတ်တော်များ၌ များသောအားဖြင့် တွေ့ရသည်။ ထိုကဲ့သို့သော သမထကျင့်စဉ်များကို အခြေခံ၍ ရရှိလာသော လောကီစျာန်တန်ခိုးအမျိုးမျိုးသည် အရိယာဝိဇ္ဇာတို့ရရှိသော စျာန်တန်ခိုးများနှင့် ခြားနားတူသည်ဟု ဆိုနိုင်သည်။သို့သော် ဘုရား၊ ပစ္စေကဗုဒ္ဓါ၊ အရိယာသာဝကတို့ကိုမူ လောကီဝိဇ္ဇာများဟု မဆိုနိုင်။ လောကီဝိဇ္ဇာ (သို့မဟုတ်) ထွက်ရပ်ပေါက်ဝိဇ္ဇာစာရင်း၌ မထည့်နိုင်။ အဘယ့်ကြောင့် ဆိုသော် ဘုရား၊ ပစ္စေကဗုဒ္ဓါ၊ အရိယာသာဝကတို့ ရရှိသော စျာန်တန်ခိုးများသည် လောကုတ္တရာစျာန်စိတ်များနှင့် ယှဉ်သော စျာန်တန်ခိုးများ ဖြစ်ကြသောကြောင့်ဖြစ်သည်။ ဤ၌ အကြောင်းတိုက်ဆိုင်လာ၍ တင်ပြရသော် ပုပ္ပါးတောင်ကလပ်သို့ လေ့လာရေးခရီး (၆-၂-၂၀၁၀) ရောက်စဉ်က ပုပ္ပါးတောင်ကလပ်ရှိ တောင်တော်ဦး ဆုတောင်းပြည့် ဓာတ်နန်းဓမ္မာရုံအတွင်း၌ ထွက်ရပ်ပေါက် ဝိဇ္ဇာများစာရင်းတွင် ရဟန်းတော် (၂၅)ပါး၊ လူပုဂ္ဂိုလ် (၂၅)ဦးစီကို ဖော်ပြထားရာ ဝေဘူ

[19] ဝိဇ္ဇာမဂ္ဂဒီပနီ၊ နှာ ၂၉၃။





ဆရာတော် စသောပုဂ္ဂိုလ်မျိုးကိုလည်း ထွက်ရပ်ပေါက် ပုဂ္ဂိုလ်များစာရင်း၌ ထည့်သွင်းထားကြသည်မှာ လုံးဝမသင့်လျော်ပေ။ အသိဉာဏ်အားနည်းသူတို့အတွက် ဘာသာတရားနှင့် ပတ်သက်၍ များစွာ ရှုပ်ထွေးသွားစေနိုင်ပါသည်။

အရိယာဝိဇ္ဇာမျိုးဆိုတာ ရုပ်နာမ်ခန္ဓာ၊ဓာတ်၊ သစ္စာနှင့် ပဋိစ္စ-သမုပ္ပါဒ်တရားတို့ကို ယထာဘူတကျကျ မှန်ကန်စွာသိမြင်ပေါက်ရောက်၍ မဂ္ဂဋ္ဌာန်လေးယောက်၊ ဖလဋ္ဌာန်လေးယောက် အဆင့်သို့ ရောက်ရှိသွားကြသော ရှစ်ယောက်သောပုဂ္ဂိုလ်တို့အား အရိယာဝိဇ္ဇာဟု ခေါ်သည်။[20] ဘုရား၊ ပစ္စေကဗုဒ္ဓါ၊ ရဟန္တာအရှင်မြတ်များသည် သံသရာဘေးဒုက္ခတို့မှ လွတ်မြောက်သွားကြသော အရိယာဝိဇ္ဇာများ ဖြစ်သည်။ (ဘုရား၊ ပစ္စေကဗုဒ္ဓါ၊ ရဟန္တာများသည် ထွက်ရပ်ပေါက်ပုဂ္ဂိုလ်များ မဟုတ်ကြောင်း စာပေသဘောသက်ဝင်နိုင်သူများ သိသာနိုင်ပြီ)။ ဗုဒ္ဓဘာသာဝင်များသည် ထိုအရိယာဝိဇ္ဇာမျိုးကိုသာ ဉာဏ်နှင့်ယှဉ်၍ ကိုးကွယ်သင့်သည်။ အရိယာဝိဇ္ဇာတို့တွင် သဗ္ဗညုတဘုရားရှင်သည် လူတွင်လည်းကောင်း၊ နတ်ဗြဟ္မာတို့တွင်လည်းကောင်း အတုမရှိ၊ အတူမရှိ၊ အသာဆုံး၊ အမြတ်ဆုံးဖြစ်တော်မူသည်။ ထို့ကြောင့် ဗုဒ္ဓဘာသာဝင် သူတော်စင်တို့သည် ဘုရားရှင်ကိုယ်တော်မြတ်ကြီးကို မြတ်မြတ်နိုးနိုး၊ ယုံယုံကြည်ကြည်၊ လေးလေးစားစားဖြင့် နှလုံးသားထဲ၌ တည်ထားကိုးကွယ်ပူဇော်လိုလျှင် ဘုရားစင်မှာ ဘုရားရုပ်ပွားကို ခန့်ခန့်ညားညား တစ်ဆူတည်းထားလျက် ကိုးကွယ် ပူဇော်သင့်သည်။ ဘိုးတော်စသော ရုပ်ပုံများ (သို့မဟုတ်) ရုပ်ပွားများကို ဘုရားစင်မှာ ဘုရားနှင့်အတူမထားပဲ ယုံကြည်ကိုးကွယ်ခြင်းမျိုးသည်သာ ဗုဒ္ဓဘာသာဝင်တစ်ယောက်၏ ဓမ္မအမြုတေကို သက်သေထူရာ ရောက်

[20] ဝိဇ္ဇာမဂ္ဂဒီပနီ၊ နှာ ၂၉၃။

ပေလိမ့်မည်။

အရိယာဝိဇ္ဇာအဖြစ်သို့ ရောက်ရှိနိုင်သော သစ္စာဉာဏ်လေးပါးကို သာသနာခေတ်အတွင်း၌သာ ရရှိနိုင်သည်ကိုမူ သတိမူထားသင့်သည်။ ထိုသစ္စာဉာဏ်လေးပါးကို ရရှိနိုင်ရန် မဂ္ဂင်ရှစ်ပါးကို ပွားများအားထုတ်ရမည်။ မဂ္ဂင်ရှစ်ပါးကို ပွားများအားထုတ်ပါမှ သစ္စာဉာဏ်လေးပါးကို မျက်မှောက်ပြု သိနိုင်သည်။ သစ္စာဉာဏ်လေးပါးကို မျက်မှောက်ပြု သိပါမှ စစ်မှန်သော အရိယာဝိဇ္ဇာအဖြစ်သို့ ရောက်ရှိနိုင်သည်။ ထို့ကြောင့် အရိယာဝိဇ္ဇာအဖြစ်သို့ ရောက်လိုသော ပုဂ္ဂိုလ်သည် မဂ္ဂင်ရှစ်ပါး အကျင့်တရားကို ရိုရိုသားသား၊ ကြိုးကြိုးစားစားနှင့် ပွားများအားထုတ်ခြင်းဖြင့် သာသနာတွင်းကာလဝယ် လောကီဝိဇ္ဇာမှသည် အရိယာဝိဇ္ဇာအဖြစ်သို့ ကူးပြောင်းနိုင်ကြပေလိမ့်မည်။ သာသနာပအခါမျိုး၌ကား ပစ္စေကဗုဒ္ဓါ အရှင်မြတ်တို့မှတစ်ပါး လူနတ်ဗြဟ္မာသတ္တဝါအပေါင်းတို့သည် အရိယာဝိဇ္ဇာအဖြစ်မျိုးသို့ ရောက်နိုင်ရိုးမရှိနိုင်ကြောင်းကို ပါဠိကျမ်းဂန် စာပေများကိုမှီး၍ သိရပါသည်။ ယခုအခါ မြတ်ဗုဒ္ဓ၏ သာသနာတော်ကြီး တည်ရှိနေဆဲခေတ်အခါဖြစ်သည်။ ထို့ကြောင့် အရိယဝိဇ္ဇာခေတ်ဟု ဆိုနိုင်သည်။ စစ်မှန်သော ချမ်းသာကို လိုလားသူများသည် သတိတရားကို အထွတ်တင်ကာ သတိပဋ္ဌာန်ကျင့်စဉ်မြတ်ဖြင့် အရိယာဝိဇ္ဇာအဖြစ်သို့ ပေါက်မြောက်သည်အထိ ကြိုးစားအားထုတ်နိုင်ကြပါစေ။

## အရိယာဝိဇ္ဇာဖြစ်ထိုက်သူ

လယ်တီဆရာတော်ဘုရားကြီးသည် ဘာသာတရားကို ယုံကြည်ကိုးကွယ်မှုများနှင့် စပ်လျဉ်း၍ ဘုရားရှင်ကို တကယ်ပင်ဖူးတွေ့ရသူ၊ မဖူးမတွေ့ရသူတို့ကို ခွဲခြားသိနားလည်နိုင်ရန် ရေးသားခဲ့သည်။





အရိယာဖြစ်ထိုက်သူ၊ မဖြစ်ထိုက်သူတို့ကိုလည်း ခွဲခြားသိနားလည်စေခဲ့သည်။ ယေဘုယျအားဖြင့် ဗုဒ္ဓဘာသာဝင်တို့သည် ဘုရားရုပ်ပွားများကို ဖူးတွေ့ရရုံမျှဖြင့် သဗ္ဗညုဘုရားရှင်ကို ဖူးတွေ့ရပြီဟု အမြင်ရှိနေတတ်ကြသည်။ 'ဘုရားကို ရုပ်ပွားကွယ်သည်' ဟူသော ရှေးဆရာတော်ကြီးများ၏ အဆိုအမိန့်ကို ဗုဒ္ဓဘာသာဝင်များ သဘောပေါက်ချင်မှ ပေါက်မည်။ တရားအသိဉာဏ်မရှိဘဲနှင့် ဘုရားရုပ်ပွားများကို ဖူးမြင်နေကြရခြင်းသည် ဘုရားရှင်ကို အမှန်တကယ်မတွေ့ရသေးကြောင်း လယ်တီဆရာတော်ဘုရားကြီးက အထူးမိန့်ကြားလိုဟန်ရှိသည်။ ဥပမာ၊ ဘုရားရှင်၏ယောက်ဖတော် ရှင်ဒေဝဒတ်လိုပုဂ္ဂိုလ်မျိုး၊ ဘုရားရှင်၏ယောက္ခမတော် သုပ္ပဗုဒ္ဓမင်းကဲ့သို့သော ပုဂ္ဂိုလ်မျိုးတို့သည် သက်တော်ထင်ရှား ဘုရားရှင်ကိုယ်တော်မြတ်ကြီးကို ကိုယ်တိုင်ကိုယ်ကျ မြင်တွေ့နေရသော်လည်း ဘုရားရှင်၏ ဂုဏ်ကျေးဇူးတော်တို့ကို ဉာဏ်ဖြင့်မသက်ဝင်နိုင်ကြ၍ ယုံယုံကြည်ကြည်ဖြင့် ကိုးကွယ်ဖို့ နေနေသာသာ အတိုက်အခံပင် ပြုလုပ်ခဲ့ကြ၍ ဘဝဇာတ်သိမ်းများ မလှမပဖြစ်ခဲ့ကြရသည်။ ထို့ကြောင့် ဗုဒ္ဓဘာသာဝင် သူတော်စင်တို့သည် အရိယာလမ်းစဉ်ဖြင့် အရိယာဝိဇ္ဇာအဖြစ်သို့ ရောက်အောင် ကြိုးစား၍ အားမထုတ်နိုင်သမျှကာလပတ်လုံး ဘုရားရှင်ကို အမှန်တကယ်ဖူးတွေ့ရသူ၊ ဘုရားသာသနာတော်ကို အမှန်တကယ် ကြုံတွေ့ရသူဟူ၍ ပြောဆိုရန် မသင့်လျော်နိုင်သေးပေ။

ဗုဒ္ဓဘာသာဝင်ကောင်းတစ်ယောက်အတွက် မိမိယုံကြည်မှုကို ဓမ္မမှတ်ကျောက်ပေါ်မှာတင်၍ ခိုင်မြဲသောသဒ္ဓါတရား ရှိ၊ မရှိ စစ်ဆေးသုံးသပ်ဆင်ခြင်သင့်သည်။ ဘာသာတရားကို ယုံကြည်ကိုးကွယ်မှုနှင့်စပ်၍ အစစ်ဆေးခံနိုင်သော နည်းဥပဒေသများကို ဘုရားရှင်ဟောကြားတော်မူခဲ့သည်။ ဗုဒ္ဓဘာသာဝင်တစ်ယောက်သည် ယုံကြည်ကိုးကွယ်မှုနှင့်စပ်၍ အဝေစ္စပ္ပသာဒ(မတုန်လှုပ်သော ယုံကြည်ခြင်းမျိုး

နှင့် ရတနာသုံးပါးကို ယုံကြည်ခြင်း) အရည်အသွေးမျိုး ရှိ၊ မရှိ စစ်ဆေးကြည့်ရပေမည်။ အဝေစ္စပသာဒဂုဏ် (သို့မဟုတ်)အဝေစ္စပ္ပသာဒ အရည်အသွေးမျိုးကို ရရှိအောင် သီလ၊ သမာဓိ၊ ပညာ သိက္ခာသုံးပါး အကျင့်တရားတို့ကို ဆရာကောင်းတို့ထံ နည်းခံ၍ ရိုးရိုးသားသား ကြိုးစားအားထုတ်သင့်သည်။ ထိုသို့အားထုတ်ခြင်းဖြင့် အဝေစ္စပ္ပသာဒ ဂုဏ် အရည်အသွေးများကို ရရှိလာနိုင်ပြီး၊ သစ္စာသိမြင် ဘုရားရှင်ကို လည်း ကိုယ်တိုင်ဖူးတွေ့နိုင်မည်ဖြစ်သည်။

ပါဠိ။ ။ ဓမ္မံ ဟိ သော ဘိက္ခဝေ ဘိက္ခု န ပဿတိ၊
ဓမ္မံ အပဿန္တော မံ န ပဿတိ။
ဓမ္မံ ဟိ သော ဘိက္ခဝေ ဘိက္ခု ပဿတိ၊
ဓမ္မံ ပဿန္တော မံ ပဿတိ။[၂၁]

အနက်။ ။ ဟိ၊ ထိုငါဘုရား၏ သင်္ကန်းစွန်းကို စွဲကိုင်၍ ဖဝါးခြေ ထပ်လိုက်ပါလျက် ငါဘုရားနှင့် ဝေးကွာလှ၏ဟု ဆိုသော စကားသည် မှန်၏။ ဘိက္ခဝေ၊ ရဟန်းတို့။ သောဘိက္ခု၊ ထိုငါဘုရား၏ သင်္ကန်းစွန်းကို ဆွဲကိုင်လျက် ဖဝါးခြေ ထပ်လိုက်သော ရဟန်းသည်။ ဓမ္မံ၊ သစ္စာလေးပါး တရားကို။ န ပဿတိ၊ မသိမြင်။ ဓမ္မံ၊ သစ္စာလေးပါးတရားကို။ အပဿန္တော၊ မသိမြင်ရသောရဟန်းသည်။ မံ၊ ငါဘုရားကို။ န ပဿတိ၊ မဖူး မမြင်ရ။
ဟိ၊ ထိုငါဘုရားနှင့် ယူဇနာတစ်ရာ ကွာခြား၍ နေငြား သော်လည်း၊ ငါဘုရားနှင့် နီးလှ၏ဟု ဆိုသောစကား

[၂၁] ဝိဇ္ဇာမဂ္ဂဒီပနီ၊ နှာ ၂၉၃၊





သည် မှန်၏။ ဘိက္ခဝေ၊ ရဟန်းတို့။ သောဘိက္ခု၊ ထို ငါဘုရားနှင့် ယူဇနာတစ်ရာ ကွာခြားသော အရပ်၌နေ သော ရဟန်းသည်။ ဓမ္မံ၊ သစ္စာလေးပါးတရားကို။ ပဿတိ၊ သိမြင်၏။ ဓမ္မံ၊ သစ္စာလေးပါးတရားကို။ ပဿန္တော၊ သိမြင်ရသော ရဟန်းသည်။ မံ၊ ငါဘုရားကို။ ပဿတိ၊ ဖူးမြင်ရ၏။

ဘုရား၊ တရား၊ သံဃာကိုနှစ်ပါးကို ဉာဏ်ဖြင့်မတွေ့ရ၊ မမြင်ရသေးသမျှကာလပတ်လုံး သံဃာဆိုသည့် သရဏဂုံကို တွေ့ဖို့ မြင်နိုင်ဖို့ဆိုသည်မှာ ခက်ခဲသောအနေထားမျိုးမှာ ရှိနေတတ်ပါသည်။ ဗုဒ္ဓဘာသာဝင် သူတော်စင်တို့သည် ရတနာသုံးပါးအပေါ်၌ ဉာဏ် သဘောများ သက်ရောက်လာသည်အထိ အသိတရား၊ သတိတရား များတိုးပွားအောင် အားထုတ်ကြရမည်။ ကိုယ်တိုင်သိသော အသိ သည်သာ ကိုယ့်ပိုင်အသိ၊ ကိုယ်တိုင်ကျင့်သော အကျင့်သည်သာ ကိုယ်တွေ့ဓမ္မ၊ ကိုယ်တိုင်ရသော တရားသည်သာ ကိုယ်ပိုင်ဉာဏ်များ ဖြစ်၍ ကိုယ်ပိုင်နှလုံးသား၌ ကိုယ်တိုင်စေတီတည်ထားလိုသော ဗုဒ္ဓ ဘာသာဝင်တို့သည် ထိုအသိ၊ ထိုအကျင့်၊ ထိုဉာဏ်တို့ကို ရရှိနိုင်အောင် ကြိုးစားအားထုတ်သင့်သည်။

## အရိယာဝိဇ္ဇာဖြစ်နိုင်သည့် အရည်အချင်း ၅-မျိုး

သာသနာတော်အတွင်း၌ အရိယဝိဇ္ဇာအဖြစ်သို့ရောက်အောင် အဘယ်သို့သောပုဂ္ဂိုလ်မျိုးသည် ဆောင်ရွက်နိုင်စွမ်းရှိသနည်း။ ဤ မေးခွန်းနှင့်စပ်လျဉ်း၍ လယ်တီဆရာတော်ဘုရားကြီးသည် ပါဠိတော်၌ ဖော်ပြထားသည့်အတိုင်း ပဓာနိယင်္ဂ ၅-ပါးကို ညွှန်ပြထားသည်။ အရိယာဝိဇ္ဇာဖြစ်နိုင်သည့် ပဓာနိယင်္ဂ ၅-ပါးဆိုသည်မှာ–

၁။ ဘုရား၌ ယုံကြည်ခြင်း။
၂။ ကိုယ်လက်အင်္ဂါ ကျန်းမာခိုင်ခံ့ခြင်း။
၃။ ဝမ်းတွင်းနုလုံးဖြောင့်စင်းခြင်း။
၄။ ဝီရိယတ်ထက်သန်ခြင်း။
၅။ ရုပ်နာမ်ခန္ဓာတို့၏ ဖြစ်ပွားမှု၊ ချုပ်ကွယ်မှုတို့၌ ဉာဏ်၏ ရှုနိုင်ခြင်း။[၂၂]

ဤအင်္ဂါငါးပါးနှင့်ပြည့်စုံသော ဗုဒ္ဓ၏ တပည့်သာဝကသည် အရိယာဝိဇ္ဇာလမ်းကို ယခုမျက်မှောက်ဘဝ၌ပင် ရရှိနိုင်သည်။ ဘာသာတရား၌ ယုံကြည်မှုရှိခြင်းသည် မရှိတာနှင့်နှိုင်းစာလျှင် ကောင်းပါသည်။ သို့သော် အသိဉာဏ်ယှဉ်သော ယုံကြည်မှုရှိမှ ပို၍ကောင်းသည်။ ဘေးကင်းသည်။ လုံခြုံသည်။ ထိုသို့သော စစ်မှန်သော ယုံကြည်မှုမျိုးသည်သာ မိမိအတွက်လည်း အကျိုးများ၊ သူတစ်ပါးအတွက်လည်း အကျိုးများစေနိုင်သည်။ ဗုဒ္ဓဘာသာဝင်တို့သည် မှားယွင်းသော အကြောက်တရားများကို အသိတရား၊ သတိတရားတို့ဖြင့် ဖယ်ရှားသင့်သည်။ အတုအယောင်ဖြစ်သော 'ဘိုးတော်' နှင့်စပ်သော ယုံကြည်ကိုးကွယ်မှုများသည် အမှားသံသရာထဲမှ မလွတ်မြောက်နိုင်၍ မမှားခင် သတိတရားများ၊ သံဝေဂတရားများ ရယူထားသင့်သည်။ တရားစောင့်သူကို တရားက ပြန်၍စောင့်ရှောက်သည် ဟူသော ဓမ္မနိယာမသဘောကို နားလည်ထားသင့်သည်။

ခေတ်သစ် 'ဘိုးတော်'များကို ယုံကြည်ကိုးကွယ်၍ ဘိုးတော်တို့၏ ကျင့်စဉ်များကို လိုက်စားနေသူများ သတိထားရန်

[၂၂] အင်္ဂုတ္တိုရ်ပါဠိ၊ သာသနာရေးဦးစီးဌာန ပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ ၁၉၈၆၊ နှာ ၅၇။





အချက်မှာ 'စေတိုင်းရ'၊ 'တတိုင်းရ'၊ 'တောင်းတရ' 'ဘိုးတော်ဝိဇ္ဇာ'မျိုးဆိုတာ ယနေ့မျက်မှောက်ခေတ်၌ အမှန်တကယ်ပင် မရှိနိုင်ကြောင်းကို ကျမ်းဂန်များ၊ စာပေသမိုင်းများအရ သိနိုင်လောက်ပြီ။ ပါဠိစာပေ အထောက်အထားအရ 'ဝိဇ္ဇာဓိုရ်များ' တစ်ချိန်တစ်ခါက ထင်ရှားရှိခဲ့ဖူးကြောင်း ဖော်ပြထားပြီးဖြစ်သည်။ သို့သော် ထိုဝိဇ္ဇာဓိုရ်များ၏ အလေ့ကျင့်များဖြစ်သော ဝိဇ္ဇာမယိဒ္ဓိ သိဒ္ဓိတန်ခိုးများကို နိုင်နင်းသောပုဂ္ဂိုလ်များ၊ စိန္တာမယိဒ္ဓိ သိဒ္ဓိတန်ခိုးများကို နိုင်နင်းသော ပုဂ္ဂိုလ်များ ဤမျက်မှောက်ခေတ်၌ စာပေအထောက်အထားများအရ မရှိနိုင်ကြောင်း ဉာဏ်သက်ဝင်နိုင်သူများ နားလည်သဘောပေါက်နိုင်လိမ့်မည်ဟု မျှော်လင့်ပါသည်။ စိန္တာမယိဒ္ဓိ၊ ဝိဇ္ဇာမယိဒ္ဓိ သိဒ္ဓိတန်ခိုးများကို အလွဲသုံးစားပြု၍ ခေတ်သစ် 'ဘိုးတော်ဝိဇ္ဇာ'တို့သည် သူတို့ကိုယ်သူတို့ ဝိဇ္ဇာမယိဒ္ဓိ သိဒ္ဓိပေါက်သော 'ဘိုးတော်၊ ဝိဇ္ဇာကြီးများ' အသွင်သို့ အထင်မှား၊ အမြင်မှားဖြစ်အောင် ဖန်ဆင်းနိုင်ခဲ့ကြသည်။ ကြီးကျယ်ခမ်းနားသော ပူဇော်သက္ကာရများကို ခံယူ၍ ခမ်းခမ်းနားနားဖြင့် အပူဇော်ခံနိုင်ခဲ့ကြသည်။ ဤနည်းဖြင့် ခေတ်သစ် 'ဘိုးတော်'တို့၏ အခန်းကဏ္ဍသည် ဘိုးတော်ဝါဒီတို့အလယ်၌ အတင့်တယ်ကြီး တင့်တယ်လာခဲ့သည်။ 'တစ်ခါသာအလိမ်ခံရလျှင် လိမ်သူ၏အပြစ်၊ နှစ်ခါ အလိမ်ခံရလျှင် ခံရသူ၏အပြစ်' ဆိုသည့် ဆိုရိုးစကားလေးက ဉာဏ်သက်ဝင်နိုင်သူတို့အတွက် တန်ဖိုးကြီးလှပါသည်။

နည်းပရိယာယ်များ ကြွယ်ဝလှသော 'ဖိုးတော်' တို့သည် ကိုးကွယ်ယုံကြည်သူများသည် 'စေ'တိုင်းဖြစ်၊ 'လို'တိုင်းရစေနိုင်သော ဒဏ္ဍာရီထဲက 'ဘိုးတော်ဝိဇ္ဇာကြီးများ'ကို အရှင်သခင်အရာမှာထား၍ အရှင်တို့၏အလို၊ သခင်တို့၏ ဆန္ဒအတိုင်း လုပ်နေရသည်ဟုပြ၍ ကိုးကွယ်သူတို့အား အထင်မှားစေခဲ့သည်။ ထိုအခြေအနေအားလုံးကို ဉာဏ်ဖြင့်သုံးသပ်နိုင်သော မန်လည်ဆရာတော်ကြီးသည် အခြေ

အမြစ်မရှိ ယုံမိယုံရာ၊ စွဲမိစွဲရာ စွဲလမ်းယုံကြည်နေကြသော ပုဂ္ဂိုလ်များအား သတိတရားထားနိုင်ရန် လင်္ကာရေး၍ သတိပေးဆုံးမတော်မူခဲ့သည်။

ဘုန်းနည်းကံမွဲ၊ လူဖြင့်ပြအား၊ ဆင်းရဲဘို့ရာ၊ ဖြစ်သည်သာတည်း၊ မှန်စွာမှတ်ယူ၊ စင်စစ်ဟူသော်၊ ရေးသူကားသေ၊ လုပ်သူကြေ၍၊ ရွှေငွေဝိဇ္ဇာ၊ ဖြစ်ခဲ့စွာ၏၊ ဝါရုံ နီရုံ၊ ဖြစ်ပြီးယုံလျက်၊ အာရုံမက်ကာ၊ သေကြစွာခဲ့၊ ကြမ္မာမကောင်း၊ အကြောင်းမလှ၊ ထိုလူကြွတို့၊ တကွရှင်ဝမ်း၊ ဓာတ်ချင်းပြွမ်း၍၊ ခြိမ်းမွမ်းတုံ့ပယ်၊ ကုန်ရောင်းဝယ်သို့၊ ဖလယ်မြှောက်ကြွ၊ စိတ်တူကြ၏၊ အန္တမည်ငြား၊ ငှက်နှင့်သားတွင်၊ ယုတ်ဆုံးထင်လျက်၊ အသွင်ညစ်ဆိုး၊ အမျိုးနုပ်သေး၊ အကျင့်ဝေးသား၊ မြေခွေးကျီးနက်၊ မိုက်ခေါင်ပျက်တို့ ၊ ရောရှက်ကြည်ဖြူ၊ နှုတ်အမူဖြင့်၊ လိုတူဆန္ဒ၊ မြှောက်ဆိုကြသို့၊ ဗာလချင်းချင်း၊ ခြိမ်းမွမ်းခြင်းလည်း၊ ကြားပျင်းစရာ၊ နှလုံးနာ၍၊ ပညာယိုနား၊ အလွန်းခါးသည်၊ တရားမကြိုက် နှုတ်လျှာတည်း၊ (ပိုဒ်ရေ ၂၆၀)။[၂၃]

မန်လည်ဆရာတော်ကြီး၏ စေတနာက သန့်ရှင်းသည်။ ခေတ်သစ် 'ဘိုးတော်' များက ဘယ်လိုပင်ပြောပြော ရွှေဖြစ်နည်း၊ ငွေဖြစ်နည်းများကို ပြောတိုင်းမယုံသင့်ကြောင်း အတိအလင်း ထုတ်ဖော် ရေးသားခဲ့သည်။ တရားနှင့်မလျော်ညီသော လူ့ဗာလတို့၏

[၂၃] မန်လည်ဆရာတော်၊ မဟာသုတကာရီ မဃဒေဝလင်္ကာသစ်၊ နှာ ၁၉၂။





အချင်းချင်း ခြိမ်းမွမ်းပြောဆိုမှုများကို သတိတရားနှင့် ရှောင်ရှားကြရန် ဖြစ်သည်။ သည်ထက်ပို၍ပြောရလျှင် ပြောသူသာ လွန်ရာကြ ပေတော့မည်။ ပြောတိုင်းလည်းမယုံ၊ ယုံတိုင်းလည်း မပြောကြဖို့ သတိပေးလိုက်ပါ၏။ သုံးသပ်ဆင်ခြင်၍ ယုံကြည်လက်ခံနိုင်ပါက ပစ္စုပ္ပန်၊ သံသရာအတွက် ကောင်းကျိုးချမ်းသာကို ဖြစ်စေနိုင်ပါသည်။

ယနေ့မျက်မှောက်ခေတ်၌ 'ဘိုးတော်ဝိဇ္ဇာ' အမည်ခံလိုသူများသည် ဖြူစင်သန့်ရှင်းသော သူတော်စင်တို့၏ စစ်မှန်သော ကျင့်စဉ်များကို အမှန်တကယ်ကျင့်သုံးသင့်သည်။ 'အတုဘယ်လောက်ကောင်းကောင်း အစစ်ကိုတော့ မယှဉ်နိုင်ပါ' ဟူသော နီတိစကားကို အမှတ်ရသင့်ပါသည်။အမှန်စင်စစ် အမှားများစွာကို ပြုတတ်သော လောကီဝိဇ္ဇာဘဝမျိုးနှင့် နေရသည်မှာ သံသရာထဲ၌ အန္တရာယ်များလှပါသည်။ 'ပေါ့စေလို၍ ကြောင်ရုပ်ထိုး' ရသည့် ဘဝမျိုးမှ ကင်းဝေးနိုင်ကြပါစေ။

ဤစာတမ်းသည် ဘိုးတော်ဝိဇ္ဇာများကို ကိုးကွယ်ယုံကြည်သူတို့အား ယုံကြည်မှုသဒ္ဓါတရားများကို နောက်ကျသွားအောင် ရည်ရွယ်၍ ရေးသားခြင်းမဟုတ်ပါ။ ယုံကြည်မှုသဒ္ဓါတရားများ ကြည်လင်သန့်ရှင်သွားစေရန်ရည်ရွယ်၍ ရေးသားခြင်းဖြစ်သည်။ သာသနာတော်၌ 'အုတ်အရောရော၊ ကျောက်အရောရော' ဖြစ်နေသော 'ရတနာသုံးပါး'ကိုးကွယ်မှုနှင့် 'ဘိုးတော်' ကိုးကွယ်မှု နှစ်ခုအကြား သဲသဲကွဲကွဲ ဖြစ်စေလိုသည့်စေတနာ၊ဗုဒ္ဓဘာသာဝင်တို့အား ဓမ္မဝိနယနှင့်အညီ သာသနာတော်ကို ကိုးကွယ်ဆည်းကပ်တတ်စေလိုသောမေတ္တာ၊ အနာဂတ်၌ ဖြစ်ပေါ်လာနိုင်သည့် သာသနာ့ဘေးရန်တို့ကို အသိတရား၊ သတိတရားတို့ဖြင့် ကာကွယ်စောင့်ရှောက်စေလိုသောဆန္ဒဖြင့် ဤစာတမ်းကို ရေးသားပြုစုခြင်းဖြစ်သည်။သာသနာတော်၏ အကျိုးစီးပွားကို လိုလားသူတိုင်း ဤစာတမ်း၌ ဖော်ပြထားသော အကြောင်းအရာ

တို့ကို လေးလေးနက်နက် စဉ်းစားသင့်ပါသည်။ စဉ်းစားဆင်ခြင် သုံးသပ်လျက် သာသနာတော် အကျိုးစီးပွား၊ ကိုးကွယ်သူတို့၏ အကျိုးစီးပွားကို လိုလားလျက် အကြံဉာဏ်ကောင်းများကို ဖြန့်ဖြူးဝေငှပေးနိုင်ကြပါစေ။ ကံကောင်းလိုသူများအတွက် ကောင်းကံများကို ပြုနိုင်ကြစေရန် ဓမ္မအလင်းကိုလည်း ထွန်းညှိပေးပေးနိုင်ကြပါစေ။





## အခန်း(၄)

## အင်္ဂလိပ်ရက်လမ်းသည် တန်ခိုးအစွမ်းအတွက် ဖြစ်လေသလော

ပုထုဇဉ်တို့၏ သဘာဝသည် များသောအားဖြင့် လောကလွန်ဖြစ်ရပ်ဆန်းများနှင့် စိတ်တန်ခိုးအစွမ်းများကို အားကျလွယ်တတ်သည်။ ကလေးဘဝအရွယ်၌ မျက်လှည့်သည်တို့၏ ထူးဆန်းအံ့ဩဖွယ်ရာပြကွက်များကို အားကျတတ်ပြီး၊ အရွယ်ရောက်လာသူများကမူ ထူးထူးဆန်းဆန်း အံ့ဖွယ်တန်းခိုးအစွမ်းများ၊ အာဏာအရှိန်အဝါများကို အားကျ အထင်ကြီးတတ်ကြသည်။ အာရုံကို ခံစားချင်စိတ်၊ စံစားချင်စိတ်၊ လွှမ်းမိုးချင်စိတ်များကြောင့် တန်ခိုးပါဝါကို အလွန်အမင်း ခုံမင်မြတ်နိုးလာတတ်ကြသည်။ ထိုစိတ်များကို အခြေခံ၍ ထူးဆန်းအံ့ဩဖွယ်ရာဖြစ်သော အင်္ဂရတ်ပညာ၊ ထွက်ရပ်ပေါက်ပညာ၊ ဝိဇ္ဇာဓိုရ်ပညာ၊ ရွှေဖြစ်နည်း၊ ငွေဖြစ်နည်း၊ အသက်ရှည်နည်းစသော နည်းလမ်းများကို ဉာဏ်မယှဉ်နိုင်ကြ၍ အလွယ်တကူ ယုံကြည်တတ်ကြသည်။ စူးစမ်းမှုမပြုဘဲ လိုက်စားမိတတ်ကြသည်။

မြန်မာနိုင်ငံ၌ အင်္ဂရတ်သမားများ ယုံကြည်ထားသော အင်္ဂယ

ပညာကို ထွက်ရပ်ပေါက်လမ်း၊ ဝိဇ္ဇာမိုရ်ဖြစ်လမ်း၊ ရွှေဖြစ်၊ ငွေဖြစ်လမ်း၊ အသက်ရှည်နည်းလမ်း၊ ရောဂါပျောက်နည်းလမ်းများသို့ စိတ်ညွှတ်လျက် အင်္ဂါယပညာ၌ တစိုက်စိုက်မတ်မတ် လေ့လာလိုက်စားနေသူက များသည်။ အင်္ဂါယပညာကို အိန္ဒိယပြည်မှ စတင်ခဲ့သည်ဟု သမိုင်းပညာရှင်များက ခန့်မှန်းပြောဆိုထားသည်။ အိန္ဒိယမှတစ်ဆင့် အာရပ်၊ အီဂျစ်၊ ဂရိနှင့် ဥရောပအလယ်ပိုင်းထိ ပျံ့နှံ့သွားခဲ့သည်။ အရှေ့ဖျားသို့မူ အေဒီ ၅–ရာစုခန့်၌ မြန်မာနိုင်ငံမှ တရုတ်ပြည်အထိ ပျံ့နှံ့ခဲ့သည်။ မြန်မာနိုင်ငံ၌ အေဒီ ၅–ရာစုမှ ၁၁–ရာစုနှစ်များအတွင်း ဘာသာရေးအသွင်အထိ ကူးပြောင်းကာ အကြီးအကျယ် လေ့လာလိုက်စားခဲ့ကြသည်။ အင်္ဂါရတ်ပညာ(ဓာတ်လုံးအစွမ်း)ဖြင့် ရောဂါကုစားခြင်း၊ ရွှေဖြစ်၊ ငွေဖြစ်စေခြင်း၊ အသက်ရှည်စေခြင်း၊ ထွက်ရပ်ပေါက်ခြင်းစသော အတတ်ပညာများကို ရရှိလိမ့်မည်ဟု မျှော်လင့်ခဲ့ကြသည်။ ထိုမျှော်လင့်ချက်များဖြင့် ဖိုခန်းသို့ဝင်လျက် တစိုက်မတ်မတ် ဖိုးထိုးခဲ့ကြ၍ အများစုမှာ ရွှေငွေ၊ ဥစ္စာများ မတိုးပွားသည့်အပြင် ရှိသမျှပစ္စည်းဥစ္စာများပင် ကုန်ခန်းသွားရသောဘဝမျိုးသို့ ရောက်ရှိသွားခဲ့ကြသည်။

အင်္ဂါရတ်လုပ်ငန်းအတွက် အပင်ပန်းကြီး ပင်ပန်းနေကြသော အင်္ဂါရတ်သမားများအား မေတ္တာ၊ ကရုဏာများဖြင့် သတိပေးစကားပြောကြားလိုသော မစိုးရိမ်တိုက်သစ်ဆရာတော် (ဘဒ္ဒန္တရာဇဓမ္မာဘိဝံသ) သည် မစိုးရိမ်ဆရာတော်ဘုရားကြီး 'ဘဒ္ဒန္တသူရိယာဘိဝံသ၏ ထေရုပ္ပတ္တိကထာ' ၌ အင်္ဂါရတ်လုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း ကောက်ချက်ချပြထားသည်။ အင်္ဂါရတ်လမ်းသည် ရွှေဖြစ်၊ ငွေဖြစ်လမ်းဟု အင်္ဂါရတ်သမားတို့ ယုံကြည်ထားကြသော်လည်း မည်သူမျှ ဟန်ကျပန်ကျ မဖြစ်သေးကြောင်းနှင့် ယခုခေတ်၌ ဟန်ကျပန်ကျဖြစ်သည်ဟုလည်း မကြားဖူးသေးကြောင်းကို အောက်ပါအတိုင်း ရေးသားတင်ပြထားသည်။





အင်္ဂါရတ်စာ၊ ဖတ်ကြားရာ၊ ဝိဇ္ဇာဖြစ်နိုးနိုး။
အင်္ဂါရတ်စာ၊ ဖတ်ကြားရာ၊ ရွှေပြာကျနိုးနိုး။
အင်္ဂါရတ်စာ၊ ဖတ်ကြားရာ၊ မသာပျောက်နိုးနိုး။
အင်္ဂါရတ်စာ၊ ဖတ်ကြားရာ၊ ရောဂါပျောက်နိုးနိုး။
အင်္ဂါရတ်သမား၊ စကားကြား၊ ပြဒါး ရွှေဖြစ်နိုး။[၂၄]

ဆရာတော်က ဖတ်ကြားအဆင့်၊ ပြောကြားအဆင့်၌သာ ရပ်တန့်နေသော အင်္ဂါရတ်ပညာများကို စွဲစွဲလမ်းလမ်း မယုံမှားကြရန် တိုက်တွန်းထားသည်။ သတိမူစရာပင်။ သို့သော် အင်္ဂါရတ်သမားတို့သည် 'ပြဒါးသေ တစ်ဆွေ၀၊ သံသေတစ်ပြည်၀' ဟူသော ရှေးဟောင်းထုံးကို အခိုင်အမာ လက်ဆုတ်လက်ကိုင်ပြုလျက် အင်္ဂါရတ်ထိုးခြင်းအလုပ်များကို ဆက်လက်လုပ်ကိုင်ဆောင်ရွက်လျက်ရှိကြသည်။ ပုဂံရာဇဝင်၌ အရှင်အဖွဲ့ဂေါဏသည် ရွှေဖြစ်နည်းလမ်းကို ရရှိခဲ့၍ ပုဂံပြည်သူတို့အား ချမ်းသာစေခဲ့သည်ဟူသော အဆိုကို အရိုးစွဲမှတ်ယူလျက် ရွှေဖြစ်၊ ငွေဖြစ်နည်းကို တစိုက်မတ်မတ် လုံ့လတစ်လုံးဖြင့် သုတေသနပြုနေကြဆဲဖြစ်သည်။ အရှင်အဖွဲ့ဂေါဏ၏ ဓာတ်လုံးအောင်မြင်မှုကြောင့် ပုဂံတွင် မုဆိုးမများသည်ပင် ဘုရားတည်နိုင်ကြောင်းကို မမောမပမ်း ပြောဆိုကြလျက် 'လေ့ခွက်ချည်းကျန်၊ အလံမလှဲ'လိုသော စိတ်ထားများဖြင့် ရှေ့သို့ပင် ချီတက်ဆဲဖြစ်သည်။ 'ဘဝဆိုတာ ယုံကြည်မှုနှင့် အသက်ရှင်နေရသည်' ဆိုသည့် သီအိုရီသည် သူတို့အတွက် ဆိုထားခဲ့ရောလေသလား မသိဟု မှန်းဆကြည့်မိ

---

[၂၄] ရာဇဓမ္မာဘိဝံသ၊ ဘဒ္ဒန္တ။ ဘဒ္ဒန္တသူရိယာဘိဝံသ၏ ထေရုပ္ပတ္တိကထာ၊ မဟိုးရိမ်နာယကအဖွဲ့၊ မန္တလေးမြို့။ ၁၉၇၆၊ နှာ ၁၇၃။

သည်။ သူတို့ဆိုသည့်အတိုင်း မှန်သည်၊ မမှန်သည်ကိုမူ စောင့်ကြည့်ဖို့ပင် သူတို့ကတော့ ပြောဆိုနေဆဲဖြစ်၏။ စောင့်ကြည့်ရန် လိုအပ်သောကိစ္စမျိုးဟုတ်၊ မဟုတ် ကိုယ်ပိုင်ဉာဏ်ဖြင့် စဉ်းစားဆုံးဖြတ်နိုင်ကြပါစေ။

## တန်ခိုးပြခြင်းကိစ္စ၌ သုံးသပ်ချက်

တန်ခိုးအစွမ်းသည် အယူဝါဒစွဲများကို နှိမ်နင်းရာ၌လည်းကောင်း၊ အတိုက်အခံပြုနေသူများကို ဖယ်ရှားရာ၌လည်းကောင်း၊ အစွမ်းထက်သော လက်နက်ကောင်းတစ်ခုဖြစ်သည်။ အနန္တတန်ခိုးတော်ပိုင်ရှင် မြတ်ဘုရားနှင့် တပည့်သာဝကတို့ အခါအားလျော်စွာ တန်ခိုးအစွမ်းပြတော်မူကြပါသည်။ ဥပမာ၊ ဒိဋ္ဌိတို့ကို နှိမ်နင်းရာ သရက်ဖြူပင်ရင်း၌ မျက်လုံးတော်အစုံမှ အစုံအစုံသောရေမီးတို့ကို ထုတ်လွှတ်၍ ယမကတန်ခိုးပြာဋိဟာတို့ကို ပြသခဲ့ဖူးသည်။ အဆိပ်ပြင်းထန်သော နန္ဒောပနန္ဒနတ်နဂါးကြီးကို ဆုံးမရန် တန်ခိုးရှင်တေဒဂ်ရဟန်းတော်ဖြစ်တဲ့ ရှင်မဟာမောဂ္ဂလာန်ကို တန်ခိုးပြရန် ခွင့်ပြုတော်မူခဲ့ဖူးသည်။

သို့သော် မလွှဲမရှောင်သာ၍ တန်ခိုးပြခွင့်ကို အခွင့်ပေးခဲ့ရသော်လည်း ရဟန်းတော်များ တန်ခိုးပြခြင်းကိုမူ ဘုရားရှင် မနှစ်သက်လှဟု ဆိုရပေမည်။ နောက်ဆုံး မလွှဲသာလှ၍ တန်ခိုးပြရတော့မည်ဆိုလျှင် ကိုယ်တော်တိုင်ကလည်း မေတ္တာတရားနှင့်ယှဉ်သော တန်ခိုးမျိုး၊ တပည့်သာဝကများအားလည်း မေတ္တာနှင့်ယှဉ်သော တန်ခိုးမျိုးကိုသာ ပြကြဖို့ ခွင့်ပြုတော်မူရသည်။ ဖြစ်နိုင်လျှင် တန်ခိုးကို လုံးဝအသုံးမပြုဘဲ ရန်ပြုနေသူတို့၏ဒေါသကို မေတ္တာတရားဖြင့်သာ ငြိမ်းအေးစေလိုသည်။ အာဠာဝကနတ်ဘီလူးကို ဆုံးမရာ၌လည်းကောင်း၊ နာဠာဂီရိဆင်ကို ဆုံးမရာ၌လည်းကောင်း၊ အင်္ဂုလိမာလကို ဆုံးမရာ၌လည်းကောင်း မေတ္တာတန်ခိုးဖြင့် အောင်နိုင်ခဲ့ပုံကို ဘုရားရှင်မှာ



သက်သေထူပြထားသည်။

ဘုရားရှင်သည် တန်ခိုးပြခြင်းကို အားမပေးခြင်း၏ အကြောင်းမှာ ပုထုဇဉ်ဘဝနှင့် ရရှိထားသောတန်ခိုးသည် ပက်လက်အိပ်သော ခါစကလေးသူငယ်ကဲ့သို့လည်းကောင်း၊ ကောက်ပင်ငယ် (သစ်ပင်ပေါက်ငယ်လေး)များကဲ့သို့လည်းကောင်း (မပျက်စီးအောင်) စောင့်ရှောက်ရန်အလွန်ခက်ခဲ၏။ အနည်းငယ်မျှသော အနှောက်အယှက်ဖြင့်ပင် ဖျက်ဆီးလွယ်၏' ဟု ဝိသုဒ္ဓိမဂ်ကျမ်း၌ ဖွင့်ပြထားသည်။[29] ဥပမာ- ပုထုဇဉ်ဘဝနှင့် ဈာန်တန်ခိုးအဘိညာဉ်များ ရခဲ့၍ မာန်တက်ခဲ့ပြီး ဘုရားကိုပင် သေကြောင်းကြံခဲ့သည်အထိ ဖြစ်ပွားသွားခဲ့သော ရှင်ဒေဝဒတ်၏ အဖြစ်မျိုးနှင့် မိဖုရားခေါင်ကြီးနှင့် ဖောက်ပြားခြင်းအမှုကို ဖြစ်စေခဲ့သည်အထိ စည်းကျော်ခဲ့သော ဝိဇ္ဇာဓိုရ်ပယောဂကျများ၏ တန်ခိုးမျိုးသည် ပုထုဇဉ်ဘဝနှင့် ရရှိထားသော တန်ခိုးမျိုး ဖြစ်နေ၍ အန္တရာယ်များလှကြောင်း သိရပေသည်။ ဉာဏ်နှင့်ယှဉ်၍ သုံးသပ်ဆင်ခြင်ကြည့်နိုင်ပါသည်။

သာသနာတော်၌ တန်ခိုးပြခြင်းအမှုသည် ရှုပ်ထွေးယှက်တင်ရှိနေတတ်၍ သာသနာတော်အဓွန့်ရှည်ကြာစွာတည်နေရေးသည် လဇ္ဇီပုဂ္ဂိုလ်များက ဝိနည်းနှင့်အညီ ပရိသတ်လေးပါးအား စောင့်ရှောက်ခြင်း၊ ဝိနည်းကို မပျက်မကွက်ပြု၍ အချင်းချင်း ကာကွယ်စောင့်ရှောက်ခြင်းနှင့် ပရိသတ်လေးပါးမှ သိက္ခာသုံးပါးကို ရိုသေစွာ ကျင့်မှု၊ မကျင့်မှုအပေါ်မှာ မူတည်နေပါသည်။ သိက္ခာသုံးပါးကို မကျင့်မကြံကြသော အတုအယောင်များကို (သို့မဟုတ်) ပေါ်များလာသော သာသနာတော်ကပ်ပါးများကို ဝိနည်းနှင့်အညီ နှိမ်နင်းမှု မပြုနိုင်ခဲ့ကြလျှင် သာသနာတော် ဆုတ်ယုတ်မည်ဖြစ်သည်။ ထို့ကြောင့်

[29] မဟာစည်ဆရာတော်၊ ဝိသုဒ္ဓိမဂ်မြန်မာပြန်(ဒုတိယတွဲ)၊ ဗုဒ္ဓသာသနာနုဂ္ဂဟအဖွဲ့၊ ရန်ကုန်၊ ၁၉၉၁၊ နှာ ၂၂၆၊

တစ်ဦး ကောင်း၊ တစ်ယောက်ကောင်းမျှဖြင့် မည်သူမျှ သာသနာကို စောင့်ရှောက်နိုင်မည်မဟုတ်ပေ။ ထို့အပြင် အတုအယောင်များ ပေါ်များလာလျှင် တစ်ဦးကောင်း၊ တစ်ယောက်ကောင်းဖြင့် သာသနာတော်၏ ဂုဏ်သိက္ခာကို မကာကွယ်နိုင်ပေ။ ဤအခြေအနေများကို သတိမူကြလျက် သာသနာတော်ကို မြတ်နိုးသူတိုင်း သိထားကြရပေမည်။အချို့ရဟန်းတော်တို့သည် သီတင်းသုံးဖော်ရဟန်းသံဃာ အချင်းချင်းအပေါ်၌ ညာတာစိတ်၊ စာနာစိတ်များ အားနည်းနေတတ်ကြသည်။ သူတို့တစ်ကိုယ်တော်အစွမ်းကို မသိ၊ သိအောင် နည်းအမျိုးမျိုးဖြင့် ထုတ်ပြနေကြသည်။ တချို့များဆိုလျှင် အရိယာအသွင်ကို ဆောင်လျက် အထင်မှား၊ အမြင်မှားဖြစ်အောင် ဟန်ဆောင်ပြနေတတ်ကြသည်။ ဘာသာရေးအသိဉာဏ်နည်းသူများသည် ထိုကဲ့သို့သော အကျင့်သိက္ခာမရှိပါဘဲ အရိယာပုဂ္ဂိုလ်များအသွင် ဟန်ဆောင်ထားသောပုဂ္ဂိုလ်မျိုးကို ကြည်ညိုကိုးကွယ်ရမှ အကျိုးများများရနိုင်သည်ဟု အထင်ရှိနေတတ်ကြသည်။

သိက္ခာသုံးပါးအကျင့်မျိုးဆိုတာ လူမြင်ကွင်း၌ ကျင့်၍ရနိုင်သလို၊ လူသူမမြင်ရာ၌လည်း ကျင့်၍ရနိုင်ကြောင်းကို သတိပြုသင့်ပါသည်။ သူတော်ကောင်းအကျင့်မျိုးဆိုတာ ပြောတိုင်းလည်း ပြောသူထံ၌ ရှိချင်မှရှိနိုင်သည်။ မပြောသော်လည်း မပြောသူထံ၌ ရှိချင်ရှိနေတတ်သည်။ တန်ခိုးပြခြင်း အမှုသည် တစ်ဖက်မှကြည့်လျှင် သာသနာတော်အတွက် ဂုဏ်သိက္ခာများကို ဆောင်နေသလို ဖြစ်နိုင်ပါသည်။သို့သော် အခြားတစ်ဖက်မှနေ၍ ကြည့်ပြန်လျှင်မူ တန်ခိုးပြနိုင်သည်ဟု ယူဆရသော ရဟန်းတော်များအပေါ်၌ မြင်သူ၊ ကြားသူများမှ ကြည်ညိုမှု သဒ္ဓါတရားများ တိုးပွားလျက် ပစ္စည်းလေးပါးကို ပိုမို၍ ထောက်ပံ့မည်ဖြစ်ပြီး၊ တန်ခိုးမပြနိုင်သော ရဟန်းတော်များအား ကြည်ညိုမှုသဒ္ဓါတရားများ ပျက်ပြားဆုတ်ယုတ်လျက် ပစ္စည်းလေးပါးကို



လှူချင်၊ ပေးချင်စိတ်များ ရှိတော့မည်မဟုတ်ပေ။ ဤသို့သော အကြောင်းများကြောင့် မြတ်စွာဘုရားသည် သာသနာတော် အရှည်တည်တန့်ပြန့်ပွားနိုင်စေရန်နှင့် သိက္ခာသုံးပါးကို ကျင့်ဆဲဖြစ်သော ရဟန်းတော်များအား စောင့်ရှောက်နိုင်စေရန် အကျိုးငှာ တန်ခိုးမပြရ၊ ပြသောရဟန်းအား ဒုက္ကဋ်အာပတ်သင့်စေဟု ဝိနည်းဥပဒေထား၍ စောင့်ရှောက်တော်မူခဲ့သည်။ ထိုကြောင့် သာသနာတော်ကို မြတ်နိုးသူတိုင်း ဓမ္မဝိနယနှင့်ညီသော စောင့်ရှောက်ခြင်းမျိုးဖြင့် သာသနာအား စောင့်ရှောက်သင့်လှပေသည်။

## ရဟန်းတော်များနှင့် တန်ခိုးဆိုင်ရာ ထုံးတမ်းဥပဒေ

တစ်ခါက မြတ်စွာဘုရားသည် နာလန္ဒာမြို့အနီး သရက်ဥယျာဉ်တစ်ခုမှာ သီတင်းသုံးနေတော်မူစဉ် သူကြွယ်သားတစ်ယောက်ဖြစ်သော ကေဝဋ္ဋသည် မြတ်စွာဘုရားကို အောက်ပါစကားကို လျှောက်ထားဖူးသည်။''မြတ်စွာဘုရား . . နာလန္ဒာမြို့သည် ပြည့်စုံကြွယ်ဝသော မြို့ကြီးဖြစ်ပါတယ်။ စည်လည်းစည်ပင်၊ လူဦးရေကလည်းထူထပ်၊ လူအသွားအလာလည်း များပါသည်။ မြတ်စွာဘုရားကို ကြည်ညိုသူများလည်း များပြားပါသည်။ ဒါကြောင့် မြတ်စွာဘုရားကို တပည့်တော် တစ်ခုလျှောက်ထားပါရစေ။ မြတ်စွာဘုရားသည် တန်ခိုးပြနိုင်တဲ့ ရဟန်းတစ်ပါးကို တပည့်တော်တို့မြို့သို့ စေလွှတ်ပေးတော်မူပါ။ အရှင်ဘုရား၊ရဟန်းတော်ရဲ့ တန်ခိုးအစွမ်းကို မြင်ရသော မြို့သူမြို့သားများသည် ဘုရားရှင်ကိုလည်းကောင်း၊ ဘုရားရှင်ရဲ့သာသနာတော်ကြီးကိုလည်းကောင်း အတိုင်းအထက်အလွန် ကြည်ညိုကြပါလိမ့်မယ် ဘုရား''ဟု မြတ်စွာဘုရားအား လျှောက်ထားခဲ့ဖူးသည်။ ၂၆

ကေဝဋ္ဋသည် မြတ်စွာဘုရားအား ပထမအကြိမ် လျှောက်ထားသောအခါ မြတ်စွာဘုရားက ''ကေဝဋ္ဋ ငါဘုရားဟာ ရဟန်းတော်များ

အား လူတွေကို တန်ခိုးပြဖို့ တိုက်တွန်းဟောကြားထားခြင်းမရှိဘူး'' ဟု ရိုးရိုးရှင်းရှင်ပင် မိန့်ကြားတော်မူသည်။ ကေဝဋ္ဋကလည်း အလျှော့မပေးပဲ နှစ်ကြိမ်ထပ်ပြီး လျှောက်ပြန်တယ်။ ဘုရားရှင်ကလည်း အလားတူပင် မိန့်ကြားတော်မူပြန်တယ်။ ကေဝဋ္ဋက သုံးကြိမ်ထပ်ပြီး လျှောက်ထားလာတော့ မြတ်စွာဘုရားက ကေဝဋ္ဋအား တန်ခိုးနှင့်စပ်ပြီး ထင်ရှားသိနိုင်ရန် တန်ခိုးအမျိုးအစားသုံးမျိုးကို ဟောကြားတော်မူသည်။''ကေဝဋ္ဋ တန်ခိုးပြာဋိဟာဆိုတာ သုံးမျိုးရှိတယ်။ အဲဒီသုံးမျိုးက (၁) ဣဒ္ဓိပါဋိဟာရိယတန်ခိုး (ပုံသဏ္ဍာန်အမျိုးမျိုးကို ဖန်ဆင်းနိုင်တဲ့တန်ခိုးမျိုး)၊ (၂) အာဒေသနာ ပါဋိဟာရိယတန်ခိုး (သူတပါးစိတ်ကို ဖတ်နိုင်တဲ့၊ အတပ်ဟောနိုင်တဲ့တန်ခိုးမျိုး)၊ (၃) အနုသာသနီ ပါဋိဟာရိယတန်ခိုး (ဆုံးမဟောကြားခြင်းတန်ခိုး) ရယ်လို့ သုံးမျိုးရှိတယ်'' ဟု မိန့်တော်မူသည်။[၂၇]

မြတ်စွာဘုရားက ဆက်လက်ဟောကြားတော်မူသည်မှာ– ''ကေဝဋ္ဋ ဣဒ္ဓိပါဋိဟာရိယတန်ခိုးမျိုးဆိုတာ– ဤသာသနာတော်တွင်းမှာ ရဟန်းသည် တန်ခိုးအမျိုးမျိုးကို ဖန်ဆင်းပြတယ်။ တစ်ယောက်တည်းက အများဖြစ်အောင်၊ အများကနေ တစ်ယောက်တည်းဖြစ်အောင် ဖန်ဆင်းပြတယ်။ နံရံတစ်ဖက်၊ တံတိုင်းတစ်ဖက်ကို မထိမငြိပဲ ထိုးဖောက်သွားပြတယ်။ မြေထဲမှာရော၊ ရေထဲမှာရော ငုပ်လျှိုးပြတယ်။ ရေပေါ်မှာလည်း လမ်းလျှောက်ပြတယ်။ ကောင်းကင်မှာလည်း အတောင်ရှိတဲ့ ငှက်တွေလို ပျံပြတယ်၊ တင်ပလ္လင်ခွေပြီး

[၂၆] သီလက္ခန္ဓဝဂ္ဂပါဠိ၊ သာသနာရေးဦးစီးဌာန ပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ ၁၉၉၇၊ နှာ ၂၀၅။

[၂၇] သီလက္ခန္ဓဝဂ္ဂပါဠိ၊ နှာ ၂၀၆။



ထိုင်ပြတယ်။ လတွေ နေတွေကို လက်နဲ့ပုတ်ပြ၊ လက်နဲ့ ကိုင်ပြနိုင်တယ်။ ဗြဟ္မာ့ပြည်တိုင်အောင်လည်း မိမိကိုယ်ကို အလိုအတိုင်း ဖြစ်စေနိုင်တယ်။ ဒီလိုတန်ခိုးမျိုးတွေကို ဣဒ္ဓိပါဋိဟာရိယတန်ခိုးလို့ ငါဆိုတယ်''။[၂၈]

မြတ်စွာဘုရား မိန့်ကြားတော်မူလိုသည်မှာ . . တန်ခိုးအမျိုးမျိုးကို ဖန်ဆင်းပြနိုင်သည့်ရဟန်းကို သင်တို့မြို့သို့ ငါဘုရားက လွှတ်လိုက်ပြီဆိုပါတော့။ ထိုရဟန်း၏ လူတွေက တန်ခိုးပြခြင်းအမှုကို မြင်တွေ့ရပြီဆိုပါတော့။သဒ္ဓါတရားရှိပြီး သာသနာတော်ကို ကြည်ညိုတတ်သည့် ဒါယကာမျိုးက မြင်လျှင်တော့ သဒ္ဓါတရားတွေ ဖြစ်နိုင်တယ်ဆိုတာ မှန်သော်လည်း သဒ္ဓါတရားရှိသော ဒါယကာက သဒ္ဓါတရားမရှိသေးသော သာသနာကို မကြည်ညိုတတ်သေးသော လူတစ်ယောက်ကို ရဟန်းတို့ရဲ့ အံ့ဩဖွယ်တန်ခိုးအကြောင်းကို အားတက်သရော ပြောပြသည့်အခါ ထင်ထားသလို သဒ္ဓါတရားတွေ ဖြစ်မလာတဲ့အပြင် ပြန်လည်ပြောကြားလာနိုင်သည်မှာ–

'မိတ်ဆွေ . . ဒီလောကမှာ အံ့ဖွယ်တန်ခိုးကို ပြနိုင်တယ်ဆိုတာ ဘာဆန်းလဲ။ဂန္ဓာရီအအတတ်ပညာမျိုးဆိုတာ ရှိတယ်။ အဲဒီဂန္ဓာရီအတတ်ပညာကို အသုံးပြုပြီး၊ တန်ခိုးပြခြင်းအမှုကို ပြုလုပ်လို့ရတာပဲမဟုတ်လား။ တစ်ယောက်တည်းကလည်း အများဖြစ်အောင်၊ အများကနေ တစ်ယောက်ဖြစ်အောင်ပြုလုပ်နိုင်တယ်။ နောက်ဆုံး ဗြဟ္မာ့ပြည်တိုင်အောင်လည်း မိမိကိုယ်ကို အလိုအတိုင်း ဖြစ်စေနိုင်တယ်' ဟု ပြောဆိုရာ၏။ ထို့ကြောင့် မြတ်စွာဘုရားက ''ကေဝဋ္ဋ . .

[၂၈] သီလက္ခန္ဓာဝဂ္ဂပါဠိ၊ နှာ ၂၀၆။

ငါဟာ တန်ခိုးပြခြင်းရဲ့ အပြစ်ကို မြင်လို့ တန်ခိုးပြဖို့ ဝန်လေးတယ်၊ ရှက်တယ်၊ စက်ဆုပ်တယ်'' ဟု မိန့်ကြားတော်မူသည်။[၂၉] မြတ်စွာဘုရားသည် ဆက်လက်၍ မိန့်ကြားတော်မူသည်မှာ–

''ကေဝဋ္ဋ . . အာဒေသနာပါဋိဟာရိယတန်ခိုးမျိုးဆိုတာ– ဤသာသနာတော်တွင်းမှာ ရဟန်းသည် 'သင်ရဲ့ စိတ်သည် ဤသို့သဘောရှိနေတယ်။ သင်ရဲ့ စိတ်သည် ဤသို့ခြင်းရာစုံ ဖြစ်နေတယ်။ သင်ရဲ့ စိတ်အကြံစည်က ဒီလိုဖြစ်နေတယ်' လို့ သူတစ်ပါးတို့ရဲ့ စိတ်ဖြစ်စဉ်ကို အတတ်ဟောနိုင်တယ်။ သူတစ်ပါးတို့ရဲ့စိတ်မှာ ကြံစည်နေတာတွေကိုလည်း အတတ် ဟောနိုင်တယ်။ ဒီလို အတပ်ဟောနိုင်ခြင်း တန်ခိုးမျိုးကို အာဒေသနာတန်ခိုးလို့ ငါဆိုတယ်။[၃၀]

မြတ်စွာဘုရားသည် ရှေးနည်းတူစွာပင် တန်ခိုးပြခြင်းအမှုကို ဝန်လေးကြောင်း မိန့်ကြားတော်မူသည်။ ဆက်လက်၍ ဟောကြားတော်မူသည်မှာ –

''ကေဝဋ္ဋ . . အနုသာသနီပါဋိဟာရိယတန်ခိုးမျိုးဆိုတာ– ဤသာသနာတော်တွင်းမှာ ရဟန်းသည် ဤကဲ့သို့နည်းဖြင့် ဆုံးမတယ်။ 'ဤသို့ကြံသင့်၏။ ဤသို့ မကြံသင့်။ ဤသို့ နှလုံးသွင်းသင့်၏။ ဤသို့ နှလုံးမသွင်းသင့်၊ ဤ(တရား)ကို ပယ်သင့်၏၊ ဤတရားကို ပွားများအားထုတ်သင့်၏' ဟု ဆုံးမတယ်။ကေဝဋ္ဋ . . . ဤကဲ့သို့ ဆုံးမခြင်းပြဋိဟာမျိုးကို

[၂၉] သီလက္ခန္ဓဝဂ္ဂပါဠိ၊ နှာ ၂၀၇။

[၃၀] သီလက္ခန္ဓဝဂ္ဂပါဠိတော်မြန်မာပြန်၊ နှာ ၂၅၅။





အနုသာသနီပါဋိဟာရိယတန်ခိုးလို့ ငါဆိုတယ်။[၃၁] ဟု တန်ခိုးနှင့်စပ်၍ အကျယ်တဝင့် ဟောကြားတော်မူခဲ့သည်။

အထက်ပါတရားစကားများကို ကောက်ချက်ချကြည့်လျှင် မြတ်ဗုဒ္ဓသည် တန်ခိုးသုံးမျိုးတို့တွင် အဆုံးအမတန်ခိုးမျိုးသည်သာ ဝေနေယျတို့အား ကောင်းစွာအကျိုးများစေနိုင်၍ ရဟန်းတော်များအား အဆုံးအမတန်ခိုးမျိုးကိုသာ ဟောကြားပြသကြရန် တိုက်တွန်းတော်မူသည်။ အသိတရား၊ သတိတရားများ နည်းပါးကြသော ရဟန်းရှင်လူတို့သည် အယူဝါဒအမျိုးမျိုးကို ယုံကြည်ကိုးကွယ်ကြရာ၌ အမှား၊ အမှန်များကို ဉာဏ်ဖြင့်မသုံးသပ်နိုင်ခြင်း၊ သီလ၊ သမာဓိ၊ ပညာဟု ဆိုအပ်သော ကောင်းမြတ်သော သိက္ခာသုံးပါး၊ အလေ့အကျင်းကောင်းများကို မခံယူနိုင်ခြင်းစသော အကြောင်းများကြောင့် လောက၌ ပျော်ခြင်း၊မော်ခြင်း၊ ရူးခြင်း၊ မူးခြင်းတို့ဖြင့်သာ တန်ဖိုးရှိသော အချိန်များကို ကုန်လွန်စေခဲ့ကြသည်။ မိမိ၊ သူတစ်ပါးအတွက် အကျိုးများ ဖြစ်ထွန်းစေနိုင်သော အတ္တဟိတ၊ ပရဟိတအလုပ်မျိုးကို စွမ်းနိုင်သမျှ ကူညီ ဆောင်ရွက်ကြရန် တာဝန်များ ပျက်ကွက်နေတတ်ကြသည်။ တရားအသိဉာဏ်များ မရရှိ၍၊ ရရှိကြပြန်ပါသော်လည်း နှလုံးသားထဲ၌ စွဲမြဲစွာ သိက္ခာသုံးပါးကို အားမထုတ်နိုင်ကြ၍ သတ္တဝါတို့၏ အကျိုးစီးပွားကို အမြဲလိုလားတော်မူသော မြတ်စွာဘုရားသည် အဆုံးအမ တန်ခိုးဖြစ်သော တန်ခိုးမျိုးသည်သာ သတ္တဝါတို့အား ခေမာသောင်ကမ်း နိဗ္ဗာန်နန်းသို့ ရောက်စေနိုင်သည်ဟု ဟောကြားတော်မူသည်။ ထို့အပြင် ကိုယ်တိုင်တရားဓမ္မများကို ကျင့်ကြံပွားများ အားထုတ်ကြသော ပုဂ္ဂိုလ်တို့သည် သမထ၊ ဝိပဿနာတည်းဟူသော စစ်မှန်သော

[၃၁] သီလက္ခန္ဓဝဂ္ဂပါဠိတော်မြန်မာပြန်၊ နှာ ၂၅၆။

ကျင့်စဉ်တို့ဖြင့် အံ့ဖွယ်ဂုဏ်ကို ဆောင်နိုင်သော ဣဒ္ဓိဝိဓတန်ခိုး၊ အာဒေသနာတန်ခိုး အမျိုးမျိုးကိုလည်း ရနိုင်သည်သာ။

ဝိသုဒ္ဓိမဂ်ကျမ်း၌ ဣဒ္ဓိ (ပြီးမြောက်မှုတန်ခိုး)သည် ဆယ်မျိုးရှိသည်။ (၁) အဓိဋ္ဌာနိဒ္ဓိအဓိဋ္ဌာန်ဖန်ဆင်းခြင်းတန်ခိုး (၂) ဝိကုဗ္ဗနိဒ္ဓိ–ပကတိအသွင်ကို ဖျောက်၍ တစ်မျိုးတစ်မည် ဖန်ဆင်းခြင်တန်ခိုး၊ (၃) မနောမယိဒ္ဓိ–စိတ်ဖြင့်ပြီးသော (မိမိနှင့်ပုံတူ) ဖန်ဆင်းခြင်းတန်ခိုး (၄) ဉာဏဝိပ္ဖါရိဒ္ဓိ–ဉာဏ်၏ ပျံ့နှံ့ခြင်းကြောင့် ပြီးမြောက်သောတန်ခိုး (၅) သမာဓိဝိပ္ဖါရိဒ္ဓိ–သမာဓိပျံ့နှံ့ခြင်းကြောင့် ပြီးမြောက်သောတန်ခိုး (၆) အရိယဒ္ဓိ၊ အရိယာတို့မှာ ပြီးစုံပြီးမြောက်ခြင်းတန်ခိုး (၇) ကမ္မဝိပါကဇိဒ္ဓိ–ကံ၏ အကျိုးကိုမှီ၍ ပြီးမြောက်ခြင်းတန်ခိုး (၈) ပုညဝတောဣဒ္ဓိ–ထူးခြားသည့် ကောင်းမှုရှင်တို့မှာ ပြီးမြောက်ပြည့်စုံသောတန်ခိုး (၉) ဝိဇ္ဇာမယိဒ္ဓိ–ဝိဇ္ဇာမန္တန်ဖြင့် ပြီးသောတန်ခိုး (၁၀) တတ္ထ တတ္ထ သမ္မာပယောဂ ပစ္စယိဒ္ဓိ–ထိုထိုအရာရာ၌ နည်းလမ်းမှန်စွာ အားထုတ်မှုကြောင့် ပြီးမြောက်သောတန်ခိုး ဟူ၍ ဆယ်မျိုးရှိကြောင်း ဖွင့်ပြထားသည်။[၃၂] ဤတန်ခိုးဆယ်မျိုးနှင့်စပ်သော အကျယ်ရှင်းတမ်းကို သိလိုမူ ဝိသုဒ္ဓိမဂ်ကျမ်း၌ ကြည့်ရှုလေ့လာနိုင်ပါသည်။

ဤနည်းဖြင့် ဆန်းကြယ်သော တန်ခိုးမျိုးနှင့်စပ်၍ သိမှတ်ဖွယ်ရာတွေ များစွာရှိနေပါသည်။ အနှစ်ချုပ်ကား အဆုံးအမတန်ခိုးကို ရလျှင် ကျန်သောတန်ခိုးအများစုကိုလည်း အခါအားလျော်စွာ ရရှိနိုင်ကြောင်းကို သိနိုင်ပေသည်။ သာသနာတော်အား တန်ခိုးနှင့်ယှဉ်သော

[၃၂] မဟာစည်ဆရာတော်၊ ဝိသုဒ္ဓိမဂ်မြန်မာပြန် (ဒုတိယတွဲ)၊ ဗုဒ္ဓသာသနာနုဂ္ဂဟအဖွဲ့ ရန်ကုန်၊ ၁၉၉၁၊ နှာ ၂၀၊



ကြည်ညိုမှုမျိုးကို မဖြစ်စေဘဲ၊ ဉာဏ်နှင့်ယှဉ်သော ကြည်ညိုမှုမျိုးဖြင့်သာ ကြည်ညိုနိုင်ကြပါစေ။

## တန်ခိုးပြခြင်းကို ဥပဒေဖြင့် တားမြစ်ခြင်း

အများ၏ အကျိုးစီးပွားကို လိုလားသူ၊ စောင့်ရှောက်လိုသူတို့သည် အများအပေါ် မေတ္တာထားရုံ၊ ကရုဏာထားရုံနဲ့တော့ မလုံလောက်သေးဟု ယူဆမိသည်။ အများအကျိုးအတွက် ကိုယ်ကျိုးစွန့်သင့်က စွန့်ရမည်။ ပြောသင့်က ပြောရမည်။ ရေးသင့်က ရေးရမည်။ ပေးဆပ်သင့်ကလည်း ပေးဆပ်ရဲရမည်။ ပါရမီဆယ်ပါး၊ စွန့်ခြင်းကြီးငါးပါးစသော အလေ့အကျင့်ကောင်းများသည် ဘုရားအလောင်းတော်များ သတ္တဝါအများအပေါ် ထားရှိသော အကျိုးလိုလားသည့်မေတ္တာစိတ်၊ ကရုဏာစိတ်များကို ပေါ်လွင်ထင်ဟပ်စေသည်။ ဘုရားဖြစ်တော်မူလာပြီး တရားအလုံးစုံကိုသိသော သဗ္ဗညုတဉ္ဉာဏ်တော်ကို ရရှိလာသောအခါ သတ္တဝါများ၏ အကျိုးစီးပွားအတွက် တရားမှုများကို ကိုယ်တိုင်လည်းကျင့်၊ သူတစ်ပါးတို့အားလည်း ဟောလည်းဟောကြားတော်မူခဲ့သည်။ လိုအပ်လာလျှင် သတ္တဝါတို့၏ အကျိုးစီးပွားကို ကာလည်းကာကွယ်ပေးသည်။ ဗြဟ္မဒဏ်ထားထိုက်သူကိုလည်း ကရုဏာရှေ့ထား၍ ဗြဟ္မဒဏ်ထားခဲ့ရသည်။ ဝိနည်းဥပဒေများဖြင့် ပညတ်သင့်သူကိုလည်း (သို့မဟုတ်) ပညတ်သင့်သော အရာများကိုလည်း ပညတ်တော်မူခဲ့ရသည်။ ဝိနည်းဥပဒေများကြောင့် ရဟန်းတော်များအား အချို့နေရာများ၌ အနေကြပ်သော်လည်း သာသနာတော်တွင်း၌ ဘေးကင်းစွာ၊ လုံခြုံစွာဖြင့် နေကြရ၍ ရဟန်းတော်များ၏ ဘဝသည် အေးချမ်းသာယာရှိလှသည်။

တန်ခိုးပြခွင့်ပေးမှု၊ မပေးမှုအတွက် မြတ်စွာဘုရားအပေါ် အပြစ်တင်လိုသည့်စိတ်ဖြင့် ရဟန်းတော်များအကြား တစ်ခွန်းတစ်ပါဒမျှ

ဖြစ်တင်ကန့်ကွက်သံများ ထွက်ပေါ်မလာခဲ့ပေ။ မြတ်စွာဘုရားသည် အခါအားလျော်စွာ ဝိနည်းဥပဒေတော်များကို ပညတ်တော်မူလာရာ ရဟန်းတော်များအတွက် ဝိနည်းသိက္ခာပုဒ်တော်များသည် စုစုပေါင်း (၂၂၇) ပုဒ်ထိ ရှိလာခဲ့သည်။ အမှန်မှာမူ ဝိနည်းသိက္ခာပုဒ်တော်များသည် အကျဉ်းအားဖြင့် (၂၂၇) ပုဒ်ရှိသည်ဟု ဆိုသော်လည်း ထိုသိက္ခာပုဒ်များ၌ စာရင်းမပါဝင်သော သိက္ခာပုဒ်များလည်း များစွာရှိနေသေးသည်။ အဋ္ဌကထာဆရာများ၏ အဆိုအမိန့်အရ ရဟန်းတော်များ လိုက်နာရမည့် ဝိနည်းဥပဒေတော်များမှာ 'ကုဋေကိုးထောင်ကျော်' ရှိသည်ဟုဖော်ပြထားသည်။ အောက်၌ဖော်ပြထားသော အကြောင်းအရာမျိုးသည် (၂၂၇)သွယ်သော သိက္ခာပုဒ်တော်စာရင်း၌ တိုက်ရိုက်မပါဝင်သော ပညတ်တော်မျိုးဖြစ်သည်။ ဝိနည်းသိက္ခာပုဒ်တော် ပညတ်ခံရသောရဟန်းသည် ဘာရဒွါဇရဟန်းဖြစ်ပြီး၊ ပညတ်တော်မူရခြင်း၏ မူလကြောင်းရင်းက လူတို့အား တန်ခိုးပြသောအမှု ဖြစ်သည်။

ပါဠိ။ ။ကထံ ဟိ နာမ တွံ ဘာရဒွါဇ ဆဝဿ ဒါရုပတ္တဿ ကာရဏာ ဂိဟီနံ ဥတ္တရိမနုဿဓမ္မံ ဣဒ္ဓိပါဋိဟာရိယံ ဒဿေဿသိ၊ သေယျထာပိ ဘာရဒွါဇ မာတုဂါမော ဆဝဿ မာသကရူပဿ ကာရဏာ ကောပိနံ ဒဿေတိ၊ ဧဝမေဝ ခေါ တယာ ဘာရဒွါဇ ဆဝဿ ဒါရုပတ္တဿ ကာရဏာ ဂိဟီနံ ဥတ္တရိမနုဿဓမ္မံ ဒဿိတံ။ပ။ဓမ္မိံ ကထံ ကတွာ ဘိက္ခူ အာမန္တေသိ "န ဘိက္ခဝေ ဂိဟီနံ ဥတ္တရိမနုဿဓမ္မံ ဣဒ္ဓိပါဋိဟာရိယံ ဒဿေတဗ္ဗံ၊ ယော ဒဿေယျ၊ အာပတ္တိ ဒုက္ကဋဿ။"[33]

[33] ဝိနယပိဋကစူဠဝဂ္ဂပါဠိ၊ သာသနာရေးဦးစီးဌာနပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ ၁၉၉၃၊ နှာ - ၂၄၇၊





မြန်မာပြန်။ ။ဘာရဒွါဇ၊ သင်သည် ဘာမျှအဖိုးမတန်သော ယုတ်ညံ့သော သစ်သားသပိတ်ကို ရလိုမှုကြောင့် မြင့်မြတ်သော တန်ခိုးပြာဋိဟာကို လူတို့အား ပြဘိ၏။ ဥပမာအားဖြင့်သော်ကား၊ အမျိုးသမီးတစ်ယောက်သည် မပြောပလောက်သော အနည်းငယ်မျှသော အသပြာပိုက်ဆံကို ရလိုမှုကြောင့် မိမိ၏ အင်္ဂါဇာတ်(မိမိ၏ငယ်ပါ)ကို ပြဘိသည်နှင့် တူလှပေ၏ဟု ဗုဒ္ဓရှင်တော်သည် မလိုအပ်ဘဲ တန်ခိုးပြခြင်းကို ကဲ့ရဲ့ရှုတ်ချတော်မူခဲ့သည်။ နောင်အခါ၌ ရဟန်းတော်များ တန်ခိုးပြလျှင် ဒုက္ကဋ်အာပတ်သင့်စေဟု ပညတ်ချက်ထုတ်ခဲ့ရသည်။

အထက်ပါပညတ်ချက်နှင့်ပတ်သက်၍ ရဟန်းတော်များ တန်ခိုးပြခွင့်မရတော့ခြင်းသည် သာသနာတော်အတွက် နစ်နာသွားစေနိုင်သလောဟု တန်ခိုးပြခြင်းကို တောင်းတလျက်ရှိကြသော ဥပါသကာ၊ ဥပါသိကာမတို့သည် စဉ်းစားကောင်းစဉ်းစားနိုင်သည်။ အမှန်တကယ်မှာမူ မနစ်နာပါ။ အကယ်၍သာ တန်ခိုးပြမှုနှင့် ပတ်သက်၍ ဘုရားရှင်က သိက္ခာပုဒ်တော်များကို ပညတ်တော်မူခြင်း၊ ကာကွယ်ထားခြင်းမရှိခဲ့လျှင် သိက္ခာသုံးပါးကို ကျင့်ဆဲဖြစ်သော ရဟန်းတော်များအတွက် အလိမ်အညာတွေ ပေါလှသော ဤခေတ်ကြီး၌ အသက်ဆက်ရန်ပင် ခက်ခဲလှမည်ဖြစ်ကြောင်း ဤမျှလောက်သာ ပြောခဲ့ချင်ပါသည်။ ဉာဏ်နှင့်ယှဉ်၍ ဆင်ခြင်သုံးသပ်နိုင်ပါစေ။ သာသနာတော်နှင့်သက်ဆိုင်သော ဝိနည်းထုံးတမ်းဥပဒေများကို ဉာဏ်သဘောဖြင့် သုံးသပ်ဆင်ခြင်၍ သာသနာ့ဝန်ထမ်း ရဟန်းတော်များအား နားလည်နိုင်ကြပါစေ။





# အခန်း(၅)

## တိုးတော် ဝိဇ္ဇာများ အောက်လမ်းနည်းများ အသုံးပြု၍ ဖြေ ဖျော့လာသုံးထပ်ခြင်း

လောက၌ ဆန်းကြယ်သောတန်ခိုးမျိုးကို အားမကျသူ ရှားလှသည်။ ဤနေရာ၌ စာရေးသူဆိုလိုသော တန်ခိုးဆိုသည်မှာ ကြွဒ္ဓိဝိဓတန်ခိုး၊ အာဒေသနာတန်ခိုး၊ ဂန္ဓာရီဝိဇ္ဇာအတတ်ပညာ၊ မဏိစိန္တာအတတ်ပညာ၊ ဝိဇ္ဇာအတတ်ပညာ၊ မန္တန်အတတ်ပညာ စသည်တို့ပါဝင်သည်။ အချို့ပုဂ္ဂိုလ်များဆိုလျှင် တန်ခိုးမဟုတ်သော်လည်း ဆန်းဆန်းကျယ်ကျယ်ပြုလုပ်နိုင်သည်ဖြစ်၍ အောက်လမ်းအတတ် ပညာများဖြစ်ကြသော မှော်အတတ်၊ စုန်းအတတ်၊ ကဝေအတတ်ပညာတို့ကို အားကျနေတတ်သည်။ ဆန်းဆန်းကြယ်ကြယ် ပြုလုပ်ပြနိုင်သော အတတ်ပညာမျိုးဟူသမျှကို တန်ခိုးဟု ယေဘုယျအားဖြင့် ခေါ်ရပေမည်။ ပုထုဇဉ်လူသားတို့သည် အဆန်းတကြယ် ဖြစ်စေနိုင်သော တန်ခိုးတစ်မျိုးမျိုးကို အသုံးပြု၍ သူတစ်ပါးတို့အား မိမိအပေါ်၌ စိတ်ညွတ်လာအောင်(သို့မဟုတ်) စိတ်ဝင်စားလာအောင် ပြုမူဆောင်ရွက်တတ်ကြသည်။ ဥပမာ၊ မျက်လှည့်အတတ်ဖြင့် အသက်

မွေးဝမ်းကြောင်းပြုသော မျက်လှည့်ဆရာတစ်ယောက်သည် မှော်အတတ်၊ စုန်းအတတ်၊ ကဝေအတတ်တို့ကို အသုံးပြု၍ လည်းကောင်း၊ (သို့မဟုတ်) စုန်းကဝေအတတ်များကို လုံးဝအသုံးမပြုဘဲ လက်လှည့်၊ မျက်လှည့်၊ ပဥ္စလှည့်အတတ်တို့ကို အသုံးပြုခြင်းဖြင့်လည်းကောင်း ပရိသတ်များအား သူ့အပေါ်၌ စိတ်ညွှတ်လာအောင် လုပ်ဆောင်နိုင်စွမ်းရှိသည်။ တချို့ပြကွက်များသည် ပွဲကြည့်ပရိသတ်တို့၏ စိတ်အစဉ်ကို တုန်လှုပ်ချောက်ခြားသွားစေနိုင်သည်။ တစ်ခါတစ်ရံ၌မူ ပြကွက်များက ဆန်းကြယ်လွန်း၍ မှော်အတတ်၊ စုန်းကဝေအတတ်များကို အသုံးမပြုသော်လည်း စုန်းကဝေအမည်သုံး၍ ပြသသွားခြင်းသည်ပင် မှော်အတတ်၊ စုန်းအတတ်၊ ကဝေအတတ်များအပေါ်မှာ ကြောက်ရွံ့စိတ်များ ဖြစ်သွားတတ်ကြသည်။ ဆရာဒေဝဒတ်သည် အဇာတသတ်မင်းသားလေးအပေါ်မှာ ဩဇာညောင်း၍ လွှမ်းမိုးထားလိုသော ရည်ရွယ်ချက်ဖြင့် နိုင်စေရန် တန်ခိုးသုံး၍ ဖျားယောင်းနိုင်ခဲ့သည်။ ဆန်းကြယ်သောတန်ခိုးသည် ဆန်းကြယ်သောစိတ်ကို ဆွဲဆောင်နိုင်စွမ်းရှိသည်မှာ ဓမ္မတာသဘောဟုပင် ဆိုရပေမည်။

ယခုခေတ် 'ဘိုးတော်'တို့သည် လောကီဝိဇ္ဇာများရရှိသော တန်ခိုးမျိုးကို မရှိနိုင်ကြ၍ တစ်ပွဲတိုးဆိုသလို ဆန်းဆန်းပြားပြား လိမ်နည်း ညာနည်း၊ ဖြည်းနည်း ဖျန်းနည်းများကို အသုံးပြု၍ လည်းကောင်း၊ အောက်လမ်း၊ အထက်လမ်းအတတ်ပညာများကို ပူးတွဲအသုံးပြု၍လည်းကောင်း၊ မျက်လှည့်ပညာအတတ်များကို အသုံးပြု၍ လည်းကောင်း အလျဉ်းသင့်သလို ပြည်သူတို့အား လိမ်လည်လှည့်ဖြားနေတတ်ကြသည်။ ဥပမာ၊ ပန်းအိုးထဲတွင် မုန်ငြင်းစေ့များကို ထည့်ထားပြီး ပုဝါဖုန်း၍ ရေနှင့်ဖျန်းပြသောအခါ ငါးမိနစ်၊ ဆယ်မိနစ်အတွင်း အပင်ပေါက်ပြတာမျိုး၊ စာရွက်ပေါ်၌ ရေးဆွဲပြထားသော ပစ္စည်းမျိုး လက်ထဲ၌ရုတ်တရက် ရောက်လာတာမျိုး စသည်တို့





ပါဝင်နိုင်သည်။ တချို့'ဘိုးတော်'များ၊ ဂိုဏ်းဆရာများသည် ဂိုဏ်းသားတို့အား ရေမန်းဟုဆိုကာ အောက်လမ်းနည်းဖြင့် ပြုလုပ်ထားသော ရေကိုတိုက်၍ သူတို့၏ သာဝကများအဖြစ်သို့ သိမ်းသွင်းယူတတ်ကြသည်။ မိမိနှင့်စိမ်းနေသေးသော အရပ်ဒေသမျိုး၌ ရေမန်းသောက်ခြင်း စသည်များကို အထူးသတိပြုကြရန် ဖြစ်သည်။ဖြစ်နိုင်လျှင် ယခုခေတ်ပေါ် ရေသန့်ဗူးများကို ကိုယ်နှင့်တပါတည်း ယူဆောင်၍ သောက်သုံးသည့် အလေ့အကျင့်များကို ပြုလုပ်ထားသင့်သည်။ အောက်လမ်းပညာ၊ မှော်ပညာတို့သည်လည်း သူ့အစွမ်းနှင့်သူတော့ အစွမ်းရှိနိုင်ကြောင်း ယုံမှားဖြစ်ဖွယ်မရှိပြီ။

## ဗုဒ္ဓစာပေထဲက မှော်ဆရာကြီး

မှော်ဆရာကြီး၏သမိုင်းဖြစ်စဉ်က စိတ်ဝင်စားစရာ။ ဘုရားရှင်လက်ထက်တော်က ရာဇဂြိုဟ်မြို့မှာ ထူးခြားသောမှော်ဆရာကြီးတစ်ယောက် ပေါ်ပေါက်ခဲ့ဖူးသည်။ သူ့၏မျိုးရိုးဇာတိက ပုဏ္ဏားအမျိုးအနွယ်ဖြစ်ပြီး၊ နာမည်က ဝင်္ဂီသဟု ခေါ်သည်။ သူ၏ မှော်အစွမ်းက အရိုးဦးခေါင်းများကို လက်နှင့်ပုတ်ကြည့်လိုက်လျှင် သေလွန်သွားသော ဦးခေါင်းရိုးပိုင်ရှင်သည် ဘယ်ဘုံ၌ ရောက်နေသည်ကို ပြောနိုင်သော အတတ်ဖြစ်သည်။ ဗြဟ္မာပြည်မှာပဲရောက်ရောက်၊ နတ်ပြည်မှာပဲ ရောက်ရောက်၊ လူပြည်မှာပဲ ရောက်ရောက်၊ အပါယ်လေးဘုံမှာပဲ ရောက်ရောက်၊ ဘယ်ဘုံကိုပဲ ရောက်ရောက် အကုန်လုံးကို မှန်အောင်ပြောနိုင်၍ လူအများသည် သေလွန်သွားသော မိဘ၊ ဆွေမျိုးများ၏ ရောက်ရာဘုံကို သိလိုကြသောကြောင့် ငွေများကို ရာချီ၊ ထောင်ချီပေး၍ သူ့နောက်သို့ တကောက်ကောက် လိုက်နေခဲ့ကြသည်။ ထူးထူးဆန်းဆန်းဆိုလျှင် အထင်ကြီးအားကျတတ်သည်မှာ လူသားတို့၏ ဓမ္မတာပင်မဟုတ်ပါလား။

တစ်ချိန်တွင် မော်ဆရာကြီးဝင်္ဂီသနှင့် သူ၏ နောက်လိုက်နောက်ပါများသည် ဘုရားသီတင်းသုံးတော်မူရာ ဇေတဝန်ကျောင်းတော်အနီး ရပ်ကွက်တစ်ခုသို့ ရောက်လာခဲ့ကြသည်။ ထိုတစ်ချိန်မှာ ဇေတဝန်ကျောင်းသို့ သွားနေသော လူအုပ်ကြီးကို မြင်ကြရ၍ ဝင်္ဂီသ၏ နောက်လိုက်တပည့်များသည် ဘုရားထံသို့ ရှေးရှုသွားနေသော လူအုပ်ကြီးကို သူတို့ဆရာထံကြီးသို့ လာကြဖို့အကြောင်း၊ သူတို့ဆရာကြီးသည် သေလွန်သွားသောသူတို့၏ မိဘဆွေမျိုးများ ဘယ်ဘုံ၊ ဘယ်ဘဝ၌ ရောက်နေသည်များကို အတတ်ပြောနိုင်ကြောင်း ပြောကြားကြသည်။ ထိုအခါ မြတ်စွာဘုရား၏ တပည့်များက ''ငါတို့ဆရာဟာ ပြိုင်ဘက်မရှိသော တရားအလုံးစုံကိုသိတော်မူသော တစ်ဆူတည်းသော ဘုရားဖြစ်တယ်ဆိုတာ သင်တို့မသိဘူးလား''ဟု ပြန်လည်ပြောကြားကြသည်။

မော်ဆရာကြီး ဝင်္ဂီသရဲ့တပည့်များသည် အကျိုးအကြောင်းကို သူတို့ဆရာကြီးကို ပြန်လည်ပြောပြကြရာ မော်အတတ်ပညာများဖြင့် သွေးနားထင်ရောက်နေသော မော်ဆရာကြီး ဝင်္ဂီသသည် မြတ်စွာဘုရားနှင့် ပြိုင်ပွဲတစ်ခုကို ဆင်နွှဲရန် နောက်လိုက်နောက်ပါများနှင့်အတူ ဇေတဝန်ကျောင်းတော်သို့ ရောက်လာခဲ့ကြသည်။သူတို့၏ အကြံအစည်များကို ဉာဏ်တော်ဖြင့် သိထားနှင့်သော မြတ်စွာဘုရားသည် အရိုးခေါင်းငါးခုကို ကြိုတင်အရှာခိုင်းထားပြီးဖြစ်တယ်။ ထိုအရိုးခေါင်းငါးခုတို့တွင် တစ်ခုသော အရိုးခေါင်းသည် ငရဲဘုံ၌ ရောက်နေသူ၏ အရိုးခေါင်း၊တစ်ခုသော အရိုးခေါင်းသည် တိရစ္ဆာန်ဘုံ၌ ရောက်နေသူ၏ အရိုးခေါင်း၊ တစ်ခုသော အရိုးခေါင်းသည် လူ့ဘုံ၌ရောက်နေသူ၏ အရိုးခေါင်း၊ တစ်ခုသော အရိုးခေါင်းသည် နတ်ပြည်၌ ရောက်နေသူ၏ အရိုးခေါင်း၊ တစ်ခုသော အရိုးခေါင်းသည် ရဟန္တာဖြစ်သွားသော ပုဂ္ဂိုလ်၏ အရိုးခေါင်းများ ဖြစ်ကြသည်။





မော်ဆရာကြီး ဝင်္ဂီသသည် မြတ်စွာဘုရားနှင့် ပညာပြိုင်ရန် မြတ်စွာဘုရား၏ တပည့်သာဝကများအား အရိုးခေါင်းငါးခုကို အယူခိုင်းခဲ့သည်။ မြတ်စွာဘုရားသည် မော်ဆရာကြီး ဝင်္ဂီသ၏ ရှေ့မှာ ချထားသော မတ်တတ်ရပ် စားပွဲတစ်ခုပေါ်၌ အရိုးခေါင်းများကို တန်းစီ၍ တင်ထားခိုင်းလိုက်သည်။ ထိုဦးခေါင်းပိုင်ရှင်တို့သည် ယခုအခါ ဘယ်ဘုံများ၌ ရောက်နေသည်ဆိုတာကို ဖြေကြားဖို့ မြတ်စွာဘုရားက မိန့်တော်မူသည်။ ဝင်္ဂီသသည် ပြိုင်ပွဲကို စတင်လိုက်သည်။ ဇေတဝန်ကျောင်းကြီး တစ်ခုလုံးပြည့်လုနီးပါး ရှိနေသည့် လူအုပ်ကြီးသည် စိတ်များလှုပ်ရှားနေကြပြီး အသက်ရှူသံများပင် မကြားရလောက်အောင် ငြိမ်သက်နေသည်။ မော်ဆရာကြီး ဝင်္ဂီသသည် ပညာရှင်ကြီးပီပီ ဣန္ဒြေရရဖြင့် ပထမဦးခေါင်းခွံကို လက်ဖြင့် အသာအယာပုတ်၍ စစ်ဆေးကြည့်ရာ ပထမဦးခေါင်းခွံပိုင်ရှင်သည် ငရဲ၌ ရောက်နေကြောင်း မြတ်စွာဘုရားအား လျှောက်ထားသည်။ မြတ်စွာဘုရားက ဟုတ်မှန်ကြောင်း အတည်ပြုပြောကြားသည်။ ထိုအခါ ရုတ်တရက် မိုးကြီးပင် ပြိုသွားသည့်အလား မော်ဆရာကြီးအား ကောင်းချီးပေးသည့် အသံတွေသည် ခန်းမတစ်ခုလုံး ပြည့်လျှံသွားခဲ့သည်။ ထို့နောက် ပြန်လည်ငြိမ်သက်သွားသည်။

ဒုတိယဦးခေါင်းပိုင်ရှင်သည် တိရစ္ဆာန်ဘုံ၌လည်းကောင်း၊ တတိယဦးခေါင်းပိုင်ရှင်သည် လူ့ဘုံ၌လည်းကောင်း၊ စတုတ္ထဦးခေါင်းပိုင်ရှင်သည် နတ်ဘုံ၌လည်းကောင်း၊ ရောက်ရှိနေကြောင်းကို ဖြေကြားနိုင်ခဲ့သည်။ ဦးခေါင်းတစ်ခေါင်းတစ်ခေါင်းစီ၏ ရောက်ရာဘုံဌာနများကို ဖြေကြားပြီးတိုင်း ဖြေကြားပြီးတိုင်း အားရကျေနပ်လွန်းလှသော ပရိသတ်ကြီးသည် မော်ဆရာကြီးအား ကောင်းချီးပေးခဲ့ကြသည်။ ဦးခေါင်းပိုင်ရှင်များ၏ ရောက်ရာဘုံဌာနများကို ကောင်စွာဖြေကြားနိုင်ခဲ့၍ ဝင်္ဂီသ၏ နောက်လိုက်နောက်ပါများသည် သူတို့ဆရာကြီး

အတွက် ဂုဏ်ယူလို့မဆုံး၊ ကြည်နူးလို့မဆုံးနိုင်အောင်ပင် ဖြစ်ခဲ့ကြသည်။ ဒီတစ်ခါဖြေရမည့်ဦးခေါင်းက နောက်ဆုံးဦးခေါင်း။

ပရိသတ်ကြီးသည် အလွန်တိတ်ဆိတ်ငြိမ်သက်နေသည်။ ဒီအဖြေက နောက်ဆုံးဖြေရမည့် အဖြေဖြစ်လို့ သိပ်ကိုအရေးကြီးသည်။ အနိုင်အရှုံးဆုံးဖြတ်မည့် အဖြေမျိုးမို့ ပို၍စိတ်လှုပ်ရှားနေကြသည်။ ဗုဒ္ဓ၏ သာဝကများကတော့ မြတ်စွာအပေါ်မှာ ယုံကြည်ထားပြီးဖြစ်လို့ တည်တည်ငြိမ်ငြိမ် အေးအေးဆေးဆေး ရှိနေကြသော်လည်း မော်ဆရာကြီး ဝင်္ဂီသ၏ နောက်လိုက်များကမူ အဖြေကိုစောင့်ရင်း ရင်မောနေကြတယ်။ ဒီတစ်ခါ နောက်ဆုံးဦးခေါင်း၏လားရာဂတိကိုလည်း သူတို့ ဆရာကြီး သေချာပေါက်ဖြေနိုင်လိမ့်မည်ဟူသော အတွေးဖြင့် အောင်ပွဲ၏ ရလဒ်ကို ကြိုပြီးမျှော်လင့်နေကြသည်။ ဒီပွဲမှာ ဘယ်သူနိုင်လို့ ဘယ်သူရှုံးမလဲဆိုသောအဖြေကို လူတိုင်းအတွက် စိတ်ဝင်စားနေကြသည်။

နောက်ဆုံးအဖြေကို ဖော်ထုတ်နိုင်ရန် မော်ဆရာကြီးသည် ဦးခေါင်းခွံကို လက်ဖြင့် အသာအယာပုတ်ကြည့်လိုက်သည်။ အဖြေကား မသဲကွဲ။နောက်တစ်ခါ ပြန်ပုတ်ကြည့်ပြန်တယ်။ အဖြေကား ပေါ်မလာ။ တစ်ခုခုတော့ မှားနေပြီဟု သူသတိပြုမိလိုက်သည်။ သွားလေသူ၏ လားရာဂတိကို ဖော်ထုတ်နိုင်ရန် အကြိမ်ကြိမ်ကြိုးစား၍ ဦးခေါင်းခွံကို လက်ဖြင့်ပုတ်ခတ်နေယင်း မျက်နှာပြင်မှ ချွေးသီးချွေးပေါက်များပင် ကြလာသည်။ အဖြေကား ဖော်ထုတ်မရ။သူ့ကို အားကိုးတကြီးဖြင့် ကြည်နေသော သူ့ပရိသတ်အတွက် သူစိတ်မကောင်းဖြစ်နေမိပုံရသည်။ နောက်ဆုံးတော့ ဘယ်လိုမျှ အဖြေမထုတ်နိုင်တော့သဖြင့် မြတ်စွာဘုရားကို သူအရှုံးပေးလိုက်သည်။ ''ဒီဦးခေါင်း၏ လားရာဂတိကို တပည့်တော်မသိနိုင်တော့ပါ။ အရှင်ဘုရားပဲ ဖြေကြားတော်မူပါ''ဟု လျှောက်ထားလိုက်သည်။ မြတ်စွာဘုရားသည်





''ရဟန္တာပုဂ္ဂိုလ်များ၏ လားရာဂတိဆိုတာ ဘဝမရှိတော့၍ ဂတိလည်း မရှိတော့ခြင်းကြောင့် သင်မဖြေနိုင်ခြင်းဖြစ်တယ်'' လို့ မိန့်တော်မူခဲ့သည်။ မော်ဆရာကြီးဝင်္ဂီသသည် မြတ်စွာဘုရားအား''အရှင်ဘုရားနိုင်ပါပြီဘုရား''လို့ ထပ်မံလျှောက်ထားခဲ့သည်။

ဝင်္ဂီသ၏ နောက်လိုက်များမှ''ဟာ. . . သွားပါပြီကွာ''ဆိုသည့် အသံကြီး ပေါ်ထွက်လာပြီး၊ ပရိသတ်အားလုံး ငြိမ်သက်သွားသည်။ ''တပည့်တော်ရဲ့ပညာရပ်သည် မပြည့်စုံသေး၍ ထိုဦးခေါင်းခွံရဲ့ လားရာဂတိကို မသိနိုင်ခြင်း ဖြစ်ပါတယ်။ ထို့ကြောင့် လားရာဂတိအားလုံးကို သိနိုင်တဲ့ ထိုလျှို့ဝှက်မန္တန်ကို တပည့်တော်အား သင်ကြားပေးတော်မူပါဘုရား''ဟု လျှောက်ထားတယ်။ထိုအခါ ဗုဒ္ဓက ''ထိုမန္တန်ကို ရဟန်းတော်များကိုသာ ငါသင်ကြားပေးတယ်'' ဟု မိန့်တော်မူသည့်အခါ ဝင်္ဂီသသည် သူ၏နောက်လိုက် ပုဏ္ဏားများအား ဂေါတမဗုဒ္ဓထံမှ သူမန္တန်သင်ယူနေစဉ်အချိန်တွင် ဇေတဝန်ကျောင်းကွင်းအပြင်ဘက်မှ စောင့်နေကြပါဟု ပြောကြားပြီး၊ ရဟန်းဘောင်သို့ ဝင်ရောက်ခဲ့သည်။ ရဟန်းဘောင်သို့ ဝင်ရောက်ခဲ့ပြီး ဘုရားရှင်ထံမှ ၃၂-ကောဋ္ဌာသ ကမ္မဋ္ဌာန်းကို သင်ယူခဲ့ရသည်။ ထို့နောက် ကမ္မဋ္ဌာန်းတရားကို ကြိုးစားအားထုတ်ခဲ့ရာ မော်ဆရာကြီးဝင်္ဂီသသည် ရဟန္တာအဖြစ်သို့ ဆိုက်ရောက်သွားခဲ့တယ်။ဤဖြစ်ရပ်ကို ပါဠိစာပေရှုထောင့်မှ လေ့လာသုံးသပ်ကြည့်လျှင် မော်ဆရာကြီးဝင်္ဂီသသည် လောကီဝိဇ္ဇာအဆင့်မှ အရိယာဝိဇ္ဇာကြီးအဆင့်သို့ တိုးတက်မြင့်မားလာခဲ့သည့် တကယ့်ဖြစ်ရပ် သာဓကတစ်ခုဖြစ်ခဲ့သည်။

ဝင်္ဂီသရဟန္တာ (အရိယာဝိဇ္ဇာ) ထေရ်နှင့်စပ်၍ သီလင်္ကာနိုင်ငံကာသစ်၌ နှီးနှောပြထားသည်မှာ စိတ်ဝင်စားဖွယ်ကောင်းလှသည်။ ဂန္ဓာရီဝိဇ္ဇာအတတ်သည် စူဠဂန္ဓာရီ (အငယ်စားဂန္ဓာရီအတတ်)၊ မဟာဂန္ဓာရီ (အကြီးစားဂန္ဓာရီအတတ်) ဟူ၍ နှစ်မျိုး နှစ်စားရှိကြောင်း၊

ထိုနှစ်မျိုးတို့တွင် အရိယာဝိဇ္ဇာအဖြစ်သို့ မရောက်မီ မော်ဆရာကြီးဝင်္ဂီသဘဝနှင့် တည်ရှိစဉ်က တတ်မြောက်ခဲ့သော သေသူများ၏ လားရာဂတိကို သိသောအတတ်မျိုးသည် စူဠဂန္ဓာရီအတတ်ဟု ဖွင့်ဆိုထားသည်။ ဣဒ္ဓိဝိဓ (တန်ခိုးအမျိုးမျိုးကို ဖန်ဆင်းနိုင်ခြင်း) အတတ်စသော အတတ်ပညာများကိုမူ မဟာဂန္ဓာရီ အတတ်များဟု ဖွင့်ပြထားသည်။[34] ထို့ထက်ပို၍ လေ့လာလိုပါမူ ပါဠိ၊ အဋ္ဌကထာ၊ ဋီကာများနှင့် နှီးနှောကြည့်ကြပါလေ။ ဗုဒ္ဓဘာသာဝင်တို့ တကယ်အားကျအတုယူသင့်သောဝိဇ္ဇာမျိုးမှာ မြတ်ဗုဒ္ဓဟောကြားခဲ့သော အရိယာဝိဇ္ဇာမျိုးဖြစ်ကြောင်း နားလည်သဘောပေါက်ကြစေလိုပါသည်။ သတိတရား၌ သမ္ပဇဉ်ယှဉ်လျက် အလေ့အကျင့်ကောင်းများကို ကျင့်ကြံပွားများ အားထုတ်နိုင်ကြပါစေ။

## ပါဠိစာပေ၌ လောကီဝိဇ္ဇာအတတ်များကို ဖော်ပြခြင်းရှိ၊ မရှိ

ပါဠိစာပေ၌ လောကီဝိဇ္ဇာအတတ်ပညာများနှင့်ပတ်သက်၍ အခါအားလျော်စွာ ဖော်ပြထားပါသည်။ သီလက္ခန္ဓပါဠိတော်တွင် သီလအခန်းကို ပြရာ၌ တိရစ္ဆာနဝိဇ္ဇာဟုခေါ်သော မိစ္ဆာဇီဝအတတ်များကို ရှောင်ကြဉ်ရမည်ဟု ဖော်ပြထားသည်။ မိစ္ဆာဇီဝ (မကောင်းသောအသက်မွေးခြင်း) အတတ်ပညာမျိုး၌ အင်္ဂဝိဇ္ဇာအတတ်၊ သိဝဝိဇ္ဇာအတတ်၊ ဘူတဝိဇ္ဇာအတတ်စသော အတတ်များ ပါဝင်သည်။[35] အင်္ဂဝိဇ္ဇာအတတ်ဆိုတာ အင်္ဂါကြီးငယ်ကို သိသောအတတ်ဖြစ်သည်။ လက်ချောင်း၊ ခြေချောင်းတို့ကို ကြည့်၍လည်းကောင်း၊ တစ်ကိုယ်လုံးကို

[34] သီလက္ခန္ဓဝဂ္ဂ အဘိနဝဋီကာ (ဒုတိယတွဲ)၊ သာသနာရေးဦးစီးဌာနပုံနှိပ်တိုက်၊ ရန်ကုန်မြို့ ၁၉၉၂၊ နှာ - ၄၁၀။

[35] သီလက္ခန္ဓပါဠိ၊ သာသနာရေးဦးစီးဌာနပုံနှိပ်တိုက်၊ ရန်ကုန်မြို့ ၁၉၉၁၊ နှာ - ၁၁။





ကြည့်၍လည်းကောင်း ဂါထာမန္တန်ကို စုပ်ပြီးလျှင် ခန္ဓာကိုယ်၏လက်ခြေအစိတ်အပိုင်းကို ကြည့်၍ အကျိုး၊ အပြစ်ကို ဟောထားသော အတတ်ပညာမျိုးဖြစ်သည်။ သိဝဝိဇ္ဇာအတတ်မျိုးဆိုတာ သုသာန်များသို့ဝင်၍ မန္တန်စုပ်ခြင်း အတတ်မျိုးကို ဆိုလိုသည်။ ဘူတဝိဇ္ဇာအတတ်မျိုးဆိုတာ တစ္ဆေ၊ သရဲ၊ မြေဘုတ်ဘီလူးတို့ကို မိမိစေခိုင်းသည့်အတိုင်း ပြုလုပ်အောင် မန်းမှုတ်ရသော မန္တန်အတတ်မျိုးဖြစ်သည်။[36]

ပုထုဇဉ်တို့၏ သဘာဝသည် ကိုယ်ကျိုးအတွက် အကျိုးအမြတ်တစ်ခုခုကို ရမည်ဆိုလျှင် သင့်လျော်လား၊ မလျော်လား၊ အကျိုးရှိလားနှင့် မရှိလား၊ ဘာမျှ မဆင်ခြင် မစဉ်းစားတတ်တော့ပေ။ တစ်ခါက အညာဒေသတစ်ခု၌ မော်ဆရာကြီးတစ်ယောက်သည် လူငယ်လူရွယ် ကာလသားတို့အား မိန်းကလေးများ မိမိကို ချစ်စေသော ပီယဆေးကို လိုချင်လျှင် သူခိုင်းတာကို လုပ်နိုင်သူအား ထိုပီယဆေးကို ပေးမည်ဟု ကမ်းလှမ်းခဲ့သည်။ ထိုအခါ မောင်ထူးဆိုသည့် လူငယ်တစ်ယောက်ထွက်လာပြီး ဆရာကြီးခိုင်းသည့်အတိုင်း လုပ်ပါမည်ဟု ဝန်ခံကတိပြုလိုက်သည်။ မော်ဆရာကြီးသည် ထိုသူအား လောလောလတ်လတ်မကြာခင်ကမှ သေဆုံးထားသော လသားအရွယ် ကလေးငယ်တစ်ယောက်၏ အလောင်းမြှုပ်နှံထားရာ သင်္ချိုင်းကုန်းသို့ ညသန်းခေါင်ယံအချိန်၌ သွားခိုင်းသည်။ သင်္ချိုင်းကုန်းသို့ ရောက်လျှင် မြေပုံကို တူးဖော်၍ကလေးငယ်၏ ညာလက်သန်းကို ပါးစပ်ဖြင့် ကိုက်ဖြတ်ပြီး၊ ထိုကလေးငယ်၏ လက်သန်းကို ပါးစပ်ဖြင့်ပင် ငုံယူကာ ရွာကို ပြန်ယူလာခဲ့ရမယ်လို့မှာကြားလိုက်သည်။ ထိုအမှုကို ပြုခြင်းကြောင့် ရရှိနိုင်သော အကျိုးတရားမှာ အကယ်၍ ထိုအမှုကိစ္စ အောင်မြင်ခဲ့သော် ရွာထဲမှာရှိသည့်

[36] သီလက္ခန္ဓာဝဂ္ဂဋ္ဌကထာ၊ သာသနာရေးဦးစီးဌာနပုံနှိပ်တိုက်၊ ရန်ကုန်မြို့ ၁၉၉၂၊ နှာ - ၈၈။ အရှင်ဇနကာဘိဝံသ၊ သီလက္ခန်ဘာသာဋီကာ (ပထမအုပ်)၊ တမျက်နှာ ၅၆၄။

ကြိုက်သည့် အပျိုစင်ကို ထိုကလေးငယ်၏ အကူအညီဖြင့် လက်ညှိုးထိုး၍ ခေါ်နိုင်သည်။ ခေါ်လိုက်လျှင် ခေါ်သူနောက်သို့ တကောက်ကောက် လိုက်ပါလာပြီး ခေါ်သည့်သူကို ချစ်ကြိုက်လာမည်ဖြစ်သည်။ ထို လုပ်ဆောင်ချက် အောင်မြင်လျှင် တကယ်ပဲ ပြောသည့်အတိုင်း မှန်သည်၊ မမှန်သည်ဆိုတာကိုမူ နောက်များမှ သိနိုင်မည်ဖြစ်၏။ သို့သော် မောင်ထူးတစ်ယောက် သင်္ချိုင်းကုန်း၌ ဘာတွေကို တွေ့ခဲ့ရ သည်မသိ၊ ကလေးငယ်၏ လက်သန်းလေးကို မရနိုင်ခဲ့ဘဲ သွေးရူး သွေးတန်းနှင့်အော်ဟစ်ပြီး ရွာဘက်သို့သုတ်ခြေတင်ကာ ပြန်ရောက် လာခဲ့သည်။ ဖြစ်ပျက်ခဲ့သမျှကို ဘာမျှမေးမရတော့ပဲ မောင်ထူး တစ် ယောက် အကြီးအကျယ် အပြင်းဖျားသွားခဲ့တယ်။ နောက်ပိုင်းမှာတော့ ရူးကြောင်မူးကြောင် ဖြစ်သွားသည်ဟု ကြားသိရသည်။ ဖြစ်နိုင်၊ မဖြစ်နိုင်ဆိုတာကိုတော့ ကိုယ်ပိုင်ဉာဏ်ဖြင့် ဆင်ခြင်သုံးသပ်ပါလေ။[၃၅]

ပါဠိစာပေကျမ်းဂန်လာ ဝိဇ္ဇာအတတ်များကို အတုယူကာ မှော်အတတ်၊ အောက်လမ်းအတတ်ပညာများဖြင့် အသက်မွေးဝမ်း ကြောင်းပြုနေသူများသည်လည်းကောင်း၊ အချို့သောခေတ်သစ် 'ဘိုးတော်' တို့သည်လည်းကောင်း အောက်လမ်းနည်းလမ်းများကို သုံး၍ တစ္ဆေ၊ သရဲ၊ မြေဘုတ်ဘီလူးတို့ကို ကျွေးမွေးလျက် ယုံကြည် ကိုးကွယ်သူများအား ဖမ်းစားနိုင်ခဲ့ကြသည်။[၃၆] ထိုဖြစ်ရပ်များကြောင့် ယုံကြည်သူများအတွက် အန္တရာယ်များလှသည်။ ပါဠိစာပေ၌ ယုတ်ညံ့

---

[၃၅] စာရေးသူ ငယ်စဉ်ကဝိဇ္ဇာလိုင်းကို လိုက်စားခဲ့ဖူးသော အညာဒေသမှ ဆရာတော်ကြီးတစ် ပါး၏ရွာမှ ကိုယ်တွေ့ဖြစ်ရပ်ဖြစ်ကြောင်း ဆရာတော်ကြီးထံမှ ကြားသိခဲ့ရသည်။

[၃၆] "အောက်လမ်းနည်းများကိုသုံး၍" -ဟု ဆိုရခြင်းမှာ သူတို့ထံ ရောက်လာသူတို့အား ငိုခြင်း၊ ရယ်ခြင်း၊ စိတ်ကို လှုပ်ရှားစေခြင်းစသော ဖြစ်ရပ်များသည် သာမန်အားဖြင့် ဖြစ်လေ့ဖြစ်ထမရှိသည်ကို ဖြစ်နေတတ်သောကြောင့် ထိုပညာရပ်များကို ခေတ်သစ် "ဘိုးတော်များ" အသုံးပြုကြလိမ့်မည်ဟု ခန့်မှန်းသိရှိရသည်။





သော အတတ်များဆိုသည်မှာ အောက်လမ်းအတတ်များ၊ မှော် အတတ်များ၊ အပင်းသွင်းသည့်အတတ်များ၊ စိတ်ညှို့၍ မကောင်း ကြံစည်သည့်သည့်အတတ်များ၊ ရူးသွပ်အောင် ပြုလုပ်သည့်အတတ် များဖြစ်သည်။

တချို့သောဂိုဏ်းဆရာ၊ မှော်ဆရာ၊ အောက်လမ်းဆရာများ၏ စိတ်ဓာတ်များသည် အောက်တန်းကျပြီး၊ ယုတ်မာသောအမှုများကို ပြုတတ်ကြကြောင်း စာပေများ၌ ဖော်ပြထားကြသည်။ သူတို့ပြုလေ့ ပြုထရှိသော အပြုအမူများမှာ မိမိမုန်းနေသူအတွက် ပြင်ဆင်ထားသော အစားအစာများ၌ အပင်းထည့်၍ ကျွေးခြင်း၊ အိပ်ဆေးခပ်၍ မတော် တရော်ပြုခြင်း၊ မိမိ၏သစ္စာခံ နောက်လိုက်၊နောက်ပါများ ဖြစ်လာ စေရန် သောက်မည့်ရေများ၌ ကျင်ငယ်ရေများ ပေါက်ထည့်ထားခြင်း၊ ငယ်ပါကို ရေစိမ်၍ တိုက်ခြင်း၊ ထိုရေကို ပရိသတ်များသောက်မည့် ရေထဲသို့ လောင်းထည့်ထားခြင်း စသည်များကို ပြုတတ်ကြသည်ဟု ယုံကြည်လောက်သူများထံမှ မှတ်သားရဖူးသည်။ ဟုတ်မှန်ခဲ့လျှင် ထိုသူများသည် သံသရာအတွက် ကြီးမားသော အကုသိုလ်အမှုမျိုးကို ပြုလုပ်ရာရောက်၍ ရင်လေးဖွယ်ကောင်းလှ၏။ ထိုကြောင့် ဉာဏ် မယှဉ်ဘဲ လွယ်လွယ်နှင့် ယုံကြည်တတ်သူများသည် သတိရားဖြင့် တစ်စိမ်းတစ်ရံဆံများမှ ကျွေးလာသော အစားအစာများနှင့် ရေစသည် များကို ရှောင်ရှားသင့်သည်ဟု အကြံပြုလိုသည်။ သို့ရာတွင် အဖုံးလုံ အောင် ပိတ်ထားသော သောက်ရေသန့်ပုလင်း၊ ဖျော်ရည်ပုလင်း စသည်များကိုမူ သောက်နိုင်ပါသည်။ ကိုယ်ပိုင်ဉာဏ်ဖြင့် ချင့်ချိန်လျက် ယုံသင့်ကယုံ၍၊ မယုံသင့်က ရှောင်ရှားနိုင်ရန် အကြံပြုခြင်းသာ ဖြစ်ပါသည်။ပြုသူများကိုလည်း ကံ၊ ကံ၏ အကျိုးများကို မယုံကြည်ဘဲ 'ငါ့လှေငါထိုး၊ ပဲခူးရောက်ရောက်''ဆိုသည့် သဘောမျိုးဖြင့် ဆင်ရာစိုင်း ခဲ့မည်ဆိုလျှင်တော့ သံသရာ၌ ကြုံတွေ့ရမည့် အကုသိုလ် ကံဆိုးများ

အတွက် ပေးဆပ်ရမည့် မကောင်းကျိုးများကို ရင်ဆိုင်ရမည် ဖြစ်၏။ ‘ဘယ်သူမပြု၊ မိမိမှု’ ဆိုသည့် ကမ္မနိယာမသဘောကို နားလည်ထားသင့်ပေသည်။ သံသရာ၌လည်းကောင်း၊ ပစ္စုပ္ပန်၌လည်းကောင်း ကံကောင်းလိုသူများသည် ကောင်းကံများကို များများပြုလုပ်ခြင်းမှ အပ အခြားနည်းလမ်းမရှိပြီ။ အကုသိုလ်ကံများ၊ မိစ္ဆာအယူများနှင့် စပ်လျဉ်း၍ ကြောက်မက်ဖွယ်ကောင်းပုံကို မန်လည်ဆရာတော် ဘုရားကြီးသည် အောက်ပါအတိုင်း သတိပေး ဆုံးမတော်မူခဲ့သည်။

> မိစ္ဆာဒိဋ္ဌိ၊ ယူဘိတိမ်းစောင်း၊ သူအပေါင်းကား၊ အကြောင်းမရှု၊ မကောင်းမှုကို၊ မပြုဟူသည်၊ တမည်မယို၊ ပြုသည်တိကြောင့်၊ ဝိစိအထဲ၊ ငရဲဘဝ၊ ယေဘုယျဖြင့်၊ မထနိုင်ပြီ၊ ပထဝီဂေါပက၊ ဟူထတုံဘိ၊ သုဂတိမျှ၊ မသိဝေးကွာ၊ လူနတ်ရွာနှင့်၊ ဖီလာကွယ်ထောင့်၊ မြေစောင့်ဝဋ္ဋဒုတ်၊ မပြုတ်နိုင်စွာ၊ ငရဲရွာဝယ်၊ မီးစာဖြစ်လျက်၊ ကမ္ဘာပျက်လည်း၊ စကြာဝဠာ တပါး၊ ပြောင်းသွားခံရ၊ မလွတ်ကြတည့်၊ နိယတမိစ္ဆာ၊ ပြစ်ကြီးစွာ၏။(ပိုဒ်ရေ ၂၆၂)[၃၉]

မန်လည်ဆရာတော်ဘုရားကြီးသည် ကံ၊ ကံ၏ အကျိုးဆိုတာ ကိုယ်က ယုံသည်ဖြစ်စေ၊ မယုံသည်ဖြစ်စေ၊ ထိုကံကိုပြုလျှင် ထိုကံ၏ ကောင်းကျိုး၊ ဆိုးကျိုးများကို ခံရမည်ဖြစ်ကြောင်း သတိပေးလိုခြင်း ဖြစ်သည်။ ကံကို မယုံနိုင်ကြည်နိုင်ကြသူများအတွက် သတိတရားယှဉ်၍ လေးလေးနက်နက် ဆင်ခြင်နိုင်ရန် အထက်ပါလင်္ကာကို ရေးဖွဲ့ထားဟန်ရှိသည်။ ပညာရှိသူတော်ကောင်းတို့၏ နှလုံးသားသည် သတ္တဝါ

---

[၃၉] မန်လည်ဆရာတော်၊ *မဟာသုတကာရီမဃဒေဝလင်္ကာသစ်၊* နာ ၁၉၄၊





တို့အပေါ်၌ အမြဲတမ်းအကျိုးလိုလားလျက်ရှိကြောင်း ပေါ်လွင်ထင်ရှားလှသည်။ သိမ့်မွေ့နူးညံ့လှသော သူတော်ကောင်းတို့၏ အေးမြသောမေတ္တာတရားကို လူတိုင်းမခံယူနိုင်သည်မှာ ဝမ်းနည်းဖို့ကောင်းလှသည်။ ယုံကြည်တတ်ခြင်းသည် ကောင်းပါသည်။ သို့သော် ယုံတိုင်းမကောင်းပါ။ ကိုးကွယ်ရာအမှန်ကို ကိုးကွယ်ပါမှ ကိုးကွယ်မှုနှင့်တန်သော အကျိုးကို ရနိုင်သည်။ ကိုးကွယ်မှုများက မှားနေလျှင် ‘နဖူးပွန်းနှင့်၊ ဒူးပွန်းခံကာ၊ ကိုးကွယ်ပါလည်း၊ ဆရာလွဲက၊ ငရဲအပါယ်ကျတတ်တယ်’ ဆိုသော လင်္ကာလေးကို သတိမူသင့်လှပေသည်။ ဤ စာတမ်းနှင့်စပ်လျဉ်း၍ သုံးနှုန်းထားသော စကားအသုံးအနှုန်းများစာဖတ် သူတို့အတွက် မယဉ်မကျေးဖြစ်နေခဲ့ပါလျှင် မေတ္တာရှေ့ထား၍ ခွင့်လွှတ်ကြပါရန် တောင်းပန်စကားဆိုပါသည်။ ယုံကြည်မှုကို အခြေခံလျက် မိမိယုံကြည်ရာ ကိုးကွယ်ဆည်းကပ်သူများအတွက် ‘ပေါ့စေလို၍ ကြောင်ရုပ်ထိုး’ သည့်ကိန်းမျိုး မဆိုက်ရောက်ရလေအောင် အသိတရား၊ သတိတရားများဖြင့် ဆင်ခြင်စဉ်စားနိုင်ကြပါစေ။





အခန်း (၆)

## မြန်မာရှေးဟောင်းစာပေများ၌ စုန်း၊ တစ္ဆေများရှိ၊ မရှိကို လေ့လာသုံးသပ်ခြင်း

နှစ်ဆယ်ရာစုခေတ်ဦးပိုင်းစာပေများ၌ ဘိုးဘိုးအောင်၊ ဘိုးမင်းခေါင်စသော သူတော်ကောင်းဓာတ်ခံရှိသော ဘိုးတော်ကြီးများ၏ ဂုဏ်ကျေးဇူးများကို အခါအားလျော်စွာ ရေးသားထားကြသည်ကို တွေ့ရှိနိုင်သည်။ ဘိုးဘိုးအောင်၊ ဘိုးမင်းခေါင်၏ လောကီကျင့်စဉ်တို့သည် အံ့မခန်းရှိလှကြောင်း၊ ကိုယ်ကျင့်တရားရှိပြီး ဆင်းရဲဒုက္ခရောက်နေသူများကို ဘိုးဘိုးအောင်က လာရောက်ကူညီတတ်ကြောင်း ဖော်ပြထားသည်မှာလည်း လေးစားလောက်စရာပင်။ ဘိုးဘိုးအောင်၊ ဘိုးမင်းခေါင်တို့ သက်ရှိထင်ရှားရှိစဉ်အခါက ပြည်သူတွေအတွက် ဘာအကျိုးပြုလုပ်ငန်းတွေများ လုပ်သွားနိုင်သနည်းဆိုသည့် သိချင်တဲ့စိတ်တွေက များလာသည်။ သိချင်သည့်စိတ်ကြောင့် ဘိုးမင်းခေါင်တို့ သက်ရှိထင်ရှားစဉ်အခါက နေထိုင်ခဲ့ဖူးသော နေရာအချို့သို့ သွားရောက်၍ လေ့လာခဲ့သည်။ မြန်မာလူမျိုးအများစုသည် ဘာသာတရားကို ယုံကြည်ကြရာ၌ ယုံမိယုံရာ ယုံကြသည်သာ များသည်။ ဉာဏ်နှင့်

ယှဉ်၍ ယုံကြည်တတ်သူက ရှားသည်။ ဘာသာတရားကို ယုံကြည်ကြသည် ဆိုရာ၌ မှန်တာကို ယုံကြည်တာမျိုးလည်း ရှိသည်။ မှားတာကို ယုံကြည်နေတာမျိုးလည်း ရှိတတ်သည်။ ခွင်ထွင်လို၍ ယုံကြည်ကိုးကွယ်ပြတာမျိုးတွေလည်း ရှိတတ်သည်။ ထွက်ရပ်ပေါက်သွားသည်ဟု ယုံကြည်ထားကြသော'ဘိုးတော်၊ဝိဇ္ဇာများ' နှင့်စပ်လျဉ်း၍ သေခြင်းတရားကို လက်ခံနိုင်ဖို့ ခက်နေကြသည်။ သခါရသဘောတရားတို့သည် ဖြစ်လျှင် ပျက်စီးခြင်းသဘော၊ မွေးဖွားလျှင် သေဆုံးခြင်းသဘောသည် သစ္စာတရားသာဖြစ်သည်။ ယုံကြည်ကိုးကွယ်သူများကို အထင်မှား၊ အမြင်မှားများဖြစ်အောင် ကြံဆောင်လျှက် သခါရသဘောတရားကို ဆန့်ကျင်၍ အနိစ္စသဘောကို နိစ္စသဘောဖြစ်အောင် ယုံကြည်ထားခြင်းသည် (သို့မဟုတ်) ယုံကြည်သွားစေခြင်းသည် သစ္စာတရားကို ယုံကြည်လက်ခံခြင်းမဟုတ်ကြောင်း ထင်သာမြင်သာရှိလှသည်။

ထွက်ရပ်ပေါက်ပုဂ္ဂိုလ်တို့သည် ထွက်ရပ်ပေါက်လမ်းကို အားထုတ်သဖြင့် ထွက်ရပ်ပေါက်သွားကြသည်ဆိုရာ၌ ယုံကြည်ချက် နှစ်မျိုးရှိသည်။ ထိုနှစ်မျိုးမှာ (၁) အချို့ထွက်ရပ်ပေါက်ပုဂ္ဂိုလ်တို့မှာ ရုပ်ကို ပြောင်းစေပြီး နာမ်အားဖြင့် ထွက်ခြင်း၊ (၂) အချို့ထွက်ရပ်ပေါက် ပုဂ္ဂိုလ်တို့မှာ ရုပ်ကို မပြောင်းဘဲ မူလရုပ်အတိုင်း ထွက်ခြင်းဟူ၍ နှစ်မျိုး နှစ်စားရှိသည်။[၅၀] ထိုနှစ်မျိုးနှစ်စားတွင် ဘိုးတော်ဝါဒကို ယုံကြည်လက်ခံထားသူများသည် ဘိုးဘိုးအောင်ကို နံပတ် (၁) အမျိုးအစားဘိုးတော်ဟု ယုံကြည်ကြ၍ ဘိုးမင်းခေါင်ကိုမူ နံပတ်(၂) အမျိုးအစားဘိုးတော်ဟု ယူဆထားကြဟန်ရှိသည်။ ဗုဒ္ဓဘာသာဝင် တစ်ယောက်အနေနှင့် လူတစ်ယောက်၏ ယုံကြည်ချက်ကို မှားသည်၊မှန်သည်ဟု မပြောလိုသော်

[၅၀] ဆရာကြီးအရိန္ဒမာ၊ မဟိဒ္ဓိ ပုဂ္ဂိုလ်ထူးများ၏ အံ့ဖွယ် ဖြစ်ရပ်ဆန်းများ၊ တက်လမ်းစာပေ၊ ရန်ကုန်မြို့ ၁၉၉၆၊ နှာ ၁၆၉၊





လည်း သခါရဖြစ်စဉ်သဘောကို သစ္စာဉာဏ်ဖြင့် နားလည်သဘောပေါက်ထားသင့်သည်။

ခေတ်သစ်ဘိုးတော်တို့သည် သူတို့ယုံကြည်ထားသော ယုံကြည်ချက်များကို ခိုင်မြဲနိုင်စေရန် သူတော်ကောင်း ဘိုးတော်ကြီးများဖြစ်သော ဘိုးဘိုးအောင်၊ ဘိုးမင်းခေါင်စသော သမိုင်း၌ ထင်ရှားရှိခဲ့ဖူးသော ဘိုးတော်ကြီးတို့အား ထွက်ရပ်ပေါက်သွားကြသည်ဟု အခိုင်အမာပြောဆိုကာ ရုံဖန်ရုံခါ ထွက်ရပ်ပေါက် ဘိုးတော်ကြီးများ စုပေါင်း၍ အစည်းအဝေးပွဲများပင် ပြုလုပ်ရာ၌ ရိုက်ယူထားသော ဓာတ်ပုံ၊ မှတ်တမ်းများပင် ရရှိထားသယောင် သတင်းလွှင့်ထားကြသည်။ ဓာတ်ပုံဆိုတာ ဓာတ်ပုံပါပဲဟုသာ ပြောလိုသည်။ ဒီခေတ် ဒီအခါမျိုးမှာ ဓာတ်ပုံကို ကြိုက်သည့်အနေအထား၊ ကြိုက်သည့်ပုံစံမျိုးနှင့် ပြုလုပ်ပေးနိုင်သည်ကို ခေတ်အမြင်ဗဟုသုတရှိသူတိုင်း သိရှိထားသည်။ ရှင်အဇ္ဇဂေါဏကို မည်သူမြင်ဖူးသနည်း၊ ဘိုးဘိုးအောင်ကို မည်သူတွေ့ဖူးသနည်း။ ထွက်ရပ်ပေါက်ဘိုးတော်စုံညီသည့် အစည်းအဝေးပွဲမျိုးမှာ မည့်သည့်သတင်း မီဒီယာသမားတွေ၊ ဓာတ်ပုံသမားတွေ တက်ရောက်ဖူးသနည်း။ ဘိုးဘိုးအောင်ကို မီလိုက်သူများ အခုအချိန်မှာ မရှိနိုင်တော့သော်လည်း ဘိုးမင်းခေါင်ကို မီလိုက်သူများ ယခုအချိန်အထိ ရှိနေသေး၍ ဘိုးမင်းခေါင်ကို ယုံကြည်သူများက ဘယ်လိုပင် ထွက်ရပ်ပေါက်သွားသည် ပြောစေကာမူ ဘိုးမင်းခေါင်၏ အလောင်းကို သံဖြူခေါင်းထဲတွင် ထည့်သွင်း၍ ပုပ္ပါးတောင်ကလပ် ခြေရင်း ရွှေဂူချောင်အနီးမှာ မြှုပ်နှံထားကြောင်း ဆရာတော်ကြီး (ဘိုးမင်းခေါင်အား ငယ်စဉ်က အလုပ်အကျွေးပြုစုခဲ့ဖူးသူ) တစ်ပါးက အမိန့်ရှိဖူးသည်။ အကယ်၍များ ဘိုးမင်းခေါင်၏ကိုယ်သည် အခုအချိန်ထိ မပုပ်မသိုးဘဲရှိနေခဲ့သော် ဗျတ်ဝိနှင့် ဗျတ္တတို့ညီအကို စားခဲ့ရသော ဝိဇ္ဇာမိုရ်ဇော်ဂျီကောင်အသားနှင့် အလားတူပေလိမ့်မည်ဟု ယူဆမိပေသည်။

ဖော်ဂျီဖိုဝင်သားကို စားခဲ့ကြရ၍ ရာဇဝင်တွင်ခဲ့သော ညီအစ်ကို နှစ်ယောက်တို့၏ ဖြစ်ရပ်ကလည်း စိတ်ဝင်စားစရာ မဟုတ်ပါလား။ အကယ်၍သာ ဘိုးမင်းခေါင်၏ ရုပ်ခန္ဓာကိုယ်သည် အရှင်ထွက်ခဲ့တာမျိုး တကယ်ပဲဖြစ်နေလျှင် သူ၏ အသားသည်လည်း ဝိဇ္ဇာဓိုရ်အသားနှင့် တူညီများ နေမလားဟု တွေးဆကြည့်မိ၏။ သို့သော် ဘိုးမင်းခေါင်၏ ရုပ်အလောင်းသည် ယခုအချိန်ထိ သက်ရှိထင်ရှား ရှိနိုင်၊ မရှိနိုင် မိမိတို့ကိုယ်ပိုင်ဉာဏ်ဖြင့်သာ ဆုံးဖြတ်ကြရန် တိုက်တွန်းလိုက်ပါသည်။

ထိုထိုဘိုးတော်ကြီးများ ဆက်လက်ပြီး သက်ရှိထင်ရှား ရှိနေသည်ဖြစ်စေ၊ မရှိသည်ဖြစ်စေ၊ တစ်ခုသေချာသည်မှာ ထိုသူတော်ကောင်းဘိုးတော်ကြီးများသည် သူတို့ သက်ရှိထင်ရှားရှိစဉ်အခါများက ယုတ်ညံ့သော မှော်အတတ်၊ အောက်လမ်းအတတ်၊ စုန်းကဝေ အတတ်များကို မလိုက်စားခဲ့ဖူးကြောင်း မှတ်တမ်းမှတ်ရာများအရ သိရှိရသည်။ သူတို့ကို ယုံကြည်သူများအားလည်း ထိုအတတ်ပညာများကို လိုက်စားရန် အားပေးတိုက်တွန်းခဲ့ခြင်းမျိုးလည်း မရှိပေ။ သို့သော် ယခုခေတ်ဘိုးတော် အမည်ခံများသည် မှော်အတတ်၊ အောက်လမ်းအတတ်၊ စုန်းကဝေအတတ်များ (သို့မဟုတ်) မျက်လှည့်၊ လက်လှည့်အတတ်များကို လေ့လာဆည်းပူးထားကြဟန်ရှိသည်။ အဘယ်ကြောင့်ဆိုသော် သူတို့သန္တာန်၌ ရှေးကလောကီ ဝိဇ္ဇာကြီးများကဲ့သို့ လူများလေးစားလောက်စရာ ဘာအံ့ဖွယ်၊ ဘာတန်ခိုးမျှ မရှိသောကြောင့်ဖြစ်သည်။ သူတို့သင်ယူလေကျက်ထားသော အတတ်ပညာတစ်မျိုးမျိုးဖြင့် သူတို့အား ယုံကြည်နေသူများကို အထင်မှား၊ အမြင်မှားသို့ ရောက်အောင် လှည့်စားနိုင်ခဲ့ကြသည်။ ကြီးပွားချမ်းသာလိုသူတို့အတွက် ထိုအတတ်များဖြင့် စည်းရုံးနိုင်ခဲ့ကြသည်။ ယုံကြည်သူများကလည်း ဘိုးတော်၊ ဝိဇ္ဇာတို့အား ရဲရဲဝံ့ဝံ့ကြီးကို ယုံကြည်နေကြသည်။ ဒီဖြစ်ရပ်တွေကို တွေ့နေရ၊ မြင်နေရ၊ ကြားနေရသောအခါ ''မင်းတို့ကသာ လိမ်ရဲ





ညာရဲရင် လောက၌ အလိမ်အညာခံချင်သူတွေဟာ တန်းစီပြီး စောင့်နေတယ်'' ဆိုသည့် ဆရာတော်ကြီးတစ်ပါး၏ ဩဝါဒစကားကို ကြားယောင်နေမိတော့သည်။

ခေတ်သစ်ဘိုးတော်တို့သည် သူတို့အကျိုးဖြစ်ထွန်းရေးအတွက် အောက်လမ်းအတတ်၊ မှော်အတတ်စသော ပညာရပ်များကို တတ်မြောက်ထားဟန်ရှိကြသည်။ သို့သော် လောကီဝိဇ္ဇာ အတတ်ပညာများကို စည်းစိမ်ဥစ္စာအတွက်၊ ကျော်စောမှုအရှိန်အဝါအတွက်မဟုတ်ဘဲ ရိုးရိုးသားသား လိုက်စားနေသော တောရပ်၊ တောင်ပျော် သူတော်ကောင်းလောကီဝိဇ္ဇာမျိုးကိုတော့ ချွင်းချက်ထား၍ ပြောကြားရမည်ဖြစ်သည်။ ရှုပ်ထွေးလှသော ယုံကြည်မှုများကို ရှင်းရှင်းလင်းလင်း သိနိုင်သော ဉာဏ်အလင်းများကို ရရှိနိုင်ရန်၊ ရှေးဟောင်းစာပေများ၌ ထင်ရှားရှိခဲ့သော စုန်း၊ ကဝေများ တကယ်ရှိ မရှိ ဆိုသည့် ယုံကြည်မှုများကိုလည်း နားလည်ထားသင့်သည်။ ပညာရှင်များ စုပေါင်း၍ ကျယ်ကျယ်ပြန့်ပြန့် သုတေသနပြုသင့်သည်။ သူတို့၏ လောကီအတတ်ပညာများသည် ဆန်းကြယ်လှ၍ စိတ်ဝင်စားဖွယ်ကောင်းလှသည်။ အတတ်ပညာဆိုသည်မှာ ယုတ်ညံ့သည်ဖြစ်စေ၊ မြင့်မြတ်သည်ဖြစ်စေ မသင်ယူဘဲ မတတ်မြောက်နိုင်ပေ။ မြတ်စွာဘုရား တရားတော်အရ ယုတ်ညံ့သောအကျင့်မျိုးကို ရှောင်၍၊ မြင့်မြတ်သော အကျင့်မျိုးကိုမူ ဆောင်ထားရန် ဖြစ်သည်။ အောက်လမ်းအတတ်၊ စုန်းကဝေအတတ်များ (သို့မဟုတ်)မျက်လှည့်၊ လက်လှည့်အတတ်များကို ခေတ်သစ်ဘိုးတော်တို့သည် ဘာအတွက် သင်ယူထားကြသနည်း စသော မေးခွန်းများသည်လည်း လေ့လာသုံးသပ်စရာပင် ဖြစ်သည်။

စုန်းကဝေများနှင့်ပတ်သက်၍ လေ့လာစုဆောင်းမိသမျှ ရှေးဟောင်းစာပေများနှင့် နှီးနှော၍ တင်ပြလိုပါသည်။ မြန်မာတို့၏ ရှေးဟောင်းစာပေများ၌ စုန်း၊ ကဝေများသည် အရောင်အဝါများ

တောက်ပနိုင်၍ လူတို့အားလည်း ဖမ်းစားနိုင်သော တန်ခိုးပါဝါများကို ပိုင်ဆိုင်ခဲ့ကြသည်ဟုဆိုသည်။ စုန်း၊ ကဝေတို့၏ အကြောင်းများကို မဆွေးနွေးမီ စုန်းဆိုတာဘာလဲ၊ ဒီလောက်တော့ သိထားဖို့ လိုပေလိမ့်မည်။ စုန်းဟူသော ဝေါဟာရမှာ ဇုဏှဟူသော ပါဠိသဒ္ဒါမှ ဆင်းသက်လာပြီး၊ 'ဇုဏှ–ဇုန်း–စုန်း'ဟူ၍ အဆင့်ဆင့် ပြောင်းလဲလာသော ပါဠိသက်ဝေါဟာရဖြစ်သည်။ ရှေးမြန်မာတို့၏ ဓလေ့ထုံးစံများ၌ စုန်းကဝေများ၏ အခန်းကဏ္ဍသည် ကျေးလက်နေ ရွာသူ၊ ရွာသားတို့၏ ဘဝများထဲ၌ အတော်ပင် နေရာယူထားနိုင်ခဲ့သည်ကို တွေ့ရှိရသည်။ စာရေးသူ၏ မိခင်ကြီးသည် စုန်းကဝေများ တကယ်ပင်ထင်ရှားရှိသည်ဟု ယုံကြည်လက်ခံထားသူတစ်ယောက် ဖြစ်နေခဲ့သည်။ (၇)နှစ်သားအရွယ် သူ့သားလေးတစ်ယောက် သေဆုံးသွားခဲ့မှုနှင့် ပတ်သက်၍ စုန်းပြုစားခံရလို့ သေရတာဟု စိတ်ထဲမှာ စွဲနေပြီး အတော်မကျေမချမ်းဖြစ်ခဲ့သည်။ သူ့သားငယ်လေး ငယ်ငယ်ရွယ်ရွယ်နဲ့ သေသွားရတာဟာ စုန်းပြုစားလို့ဟု အခွင့်အခါသင့်တိုင်း စာရေးသူအား မိခင်ကြီး မသေခင်က မကြာခဏဆိုသလိုပင် ပြောဆိုခဲ့သည်။ စုန်း၊ ကဝေများ ဤလောက၌ တကယ်ရှိသည်ဟူသော အယူအစွဲကို သူသေသွားသည့်အထိ ခံယူသွားသည်။

## စုန်း (၇)မျိုး

မြန်မာတို့၏ ရှေးဟောင်းစာပေများ၌ စုန်း၊ ကဝေများ၏ အကြောင်း၊ မှော်ဆရာအကြောင်းများကို ဖော်ပြသော စာပေများ ကျယ်ကျယ်ပြန့်ပြန့် ပေါ်ထွန်းခဲ့ဖူးသည်။ နိုင်ငံတော် တော်လှန်ရေးကောင်စီ တက်လာပြီးနောက် စုန်းကဝေများအကြောင်း၊ မှော်ဆရာများ၏အကြောင်းကို ဖော်ပြသောစာပေများနှင့် ရုပ်ရှင်များကို စာပေစိစစ်ရေးမှ ထုတ်ဝေခွင့်၊ ရိုက်ကူးခွင့်များကို တားမြစ်ပြီးနောက်ပိုင်း၌





စုန်းကဝေများနှင့် ပတ်သက်သောစာပေများ၊ ရုပ်ရှင်များ၊ မှော်ဆရာများနှင့် ပတ်သက်သောစာပေများ၊ရုပ်ရှင်များ၊ ပျောက်လုနီးပါးဖြစ်သွားခဲ့သည်ဟုအဆိုရှိသည်။ တချို့ဒေသများ၌ တောရွာနေ ပြည်သူများသည် ယခုအချိန်အထိ စုန်းကို 'ရွာသူ'ဟု ခေါ်နေဆဲဖြစ်သည်။ စုန်းကို အခြေခံထား၍ စုန်းများ တန်ခိုးပါဝါထက်လာလျှင် ကဝေဖြစ်လာသည်ဟု ယူဆထားကြသည်။ ကဝေများ တန်ခိုးပါဝါထက်လာလျှင် (၁၂)ကြိုးဟု ခေါ်ရိုး၊ ပြောရိုးစကားများလည်း ရှိခဲ့သည်။

လောကီအင်္ဂတ္တိုရ်ကျမ်းကြီး၌ စုန်း (၇)မျိုးရှိကြောင်း ဖော်ပြထားသည်။ထို(၇)မျိုးမှာ– (၁)ခြေစုန်း၊ ထို'ခြေစုန်း'မျိုးသည် သစ်သီး၊ သစ်ပွင့်များကိုသာ စား၍ ခြေကိုသော်လည်းကောင်း၊ ခြေရာကိုသော်လည်းကောင်း ကိုယ်တိုင်ကိုင်ရမှ ဖမ်းစားနိုင်၊ပြုစားနိုင်သည်ဟု မြန်မာ့စွယ်စုံကျမ်းကြီး၌ ဖော်ပြထားသည်။ ဤခြေစုန်းကိုပင် ရွာသူဟု ခေါ်သည်။ (၂) ခေါင်းစုန်း၊ ထို'ခေါင်းစုန်း'သည် သစ်သီးမှည့် အချိုအချဉ်ကို စား၍၊ အရိပ်ကိုသော်လည်းကောင်း၊ ခြေရာကိုသော်လည်းကောင်း၊ ကိုယ်တိုင်ထိရမှ ဖမ်းစားနိုင်သော စုန်းမျိုးဖြစ်သည်။ (၃) ကိုယ်စုန်း၊ 'ကိုယ်စုန်း'သည် မစင်ချေးခြောက်ကိုသာ စား၍၊ ခြေရာကိုသော်လည်းကောင်း၊ အရိပ်ကိုသော် လည်းကောင်း၊ ကိုယ်ကိုသော်လည်းကောင်း ကိုယ်တိုင်ထိရမှ ဖမ်းစားနိုင်သည်။ (၄) မောက်လုန်းစုန်း၊ 'မောက်လုံးစုန်း'သည် အသွေး၊ အသား၊ အရေကို စား၍ ကိုယ်တိုင်မြင်ရ၊ ထိရ၊ နမ်းရှုပ်ရမှသာ ဖမ်းစားနိုင်သည်။ (၅) မောက်ပြားစုန်း၊ 'မောက်ပြားစုန်း'သည် အအူ၊ အသည်း၊ အမြစ်ကိုစား၍ မောက်လုံးစုန်းကဲ့သို့ပင် ကိုယ်တိုင်မြင်ရ၊ ထိရ၊ နမ်းရှုပ်ရမှသာ ဖမ်းစားနိုင်သည်။ မောက်လုံးစုန်းကို ''ရွာသမီး''ဟုလည်း ခေါ်ကြသည်။ (၆) အိန့်တလိန့်စုန်း၊ 'အိန့်တလိန့်စုန်း'သည် အကြော်၊ အလှော်၊ အဆိမ့်၊ အအိမ့်တို့ကို စား၍ မိမိပြုစားလိုသော လူ၏ အမည်နာမကို

သိရသောအခါ မိမိလက်အောက်ရှိ (၃၇) မင်းနတ်တို့ကို စေပါးခိုင်းစေလျက် ဖမ်းစားနိုင်သည်ဟု ဆိုသည်။ အိန္ဒတလိန္ဒစုန်းကို 'ဇော်ဂနီ'ဟုလည်း ခေါ်သည်။ (၇) ကဝေမြောက်စုန်း၊ 'ကဝေမြောက်စုန်း'သည် လူသေ့၊ လူသား၊ လူရိုးတို့ကို စား၍ သူပြုစားလိုသောလူ၏ အမည်နာမကို သိရသောအခါ မိမိလက်အောက်ရှိ (၃၇)မင်းနတ်တို့ကို စေပါးခိုင်းစေလျက် ဖမ်းစားနိုင်သည်။ ကဝေမြောက်စုန်းကို အများက 'ကဝေ'ဟု ခေါ်ကြသည်။[၆၁]

စုန်းကဝေများနှင့်ပတ်သက်၍ တစ်ချိန်ကစ်ခါများဆီက အယူသီးသီး ယုံကြည်ခဲ့ကြသော်လည်း ယခုအခါ၌ တောရွာများ၌ပင် စုန်းကဝေများနှင့်ပတ်သက်၍ အယူမသီးကြတော့ပေ။ ရှေးဟောင်းစာပေများ၌ စုန်းတို့၏ အရည်အချင်းများနှင့်ပတ်သက်၍ ခြေစုန်း၊ ခေါင်းစုန်း၊ ကိုယ်စုန်း သုံးယောက်တို့သည် လူတစ်ယောက်ကို သေအောင် မပြုစားမဖမ်းစားနိုင်ဟု ဖော်ပြထားသည်။ကျန်လေးယောက်သော စုန်းတို့သည် သူတို့ပြုစား၊ ဖမ်းစားလိုလျှင် လူတစ်ယောက်ကို သေအောင်ဖမ်းစားနိုင်သည်ဟု အဆိုရှိသည်။ ကဝေသာရကျမ်းအလိုမူ ခြေစုန်း၊ ခေါင်းစုန်း၊ ကိုယ်စုန်း၊ မောက်လုံးစုန်း၊ မောက်ပြားစုန်းတို့သည် သူတို့ကိုးကွယ်ရာ နတ်များ သတ်သတ်မှတ်မှတ်မရှိကြ၍ ပြုစား၊ ဖမ်းစားလိုလျှင် ကိုယ်တိုင်ပြုစား၊ ဖမ်းစားကြရသည်။ အိန္ဒတလိန္ဒစုန်းနှင့် ကဝေမြောက်စုန်းတို့မှာမူ အထူးကိုးကွယ်သော နတ်များရှိကြ၍ ထိုကိုးကွယ်ထားသော နတ်တို့ကို စေခိုင်း၍ ဖမ်းစားကြသည်။ စုန်း၊ ကဝေတို့သည် ကလေး၊ လူကြီးများလောက်ကိုသာ ပြုစားနိုင်ကြသည် မဟုတ်ပဲ လူတို့ပိုင်ဆိုင်သော ကျွဲ၊ နွား၊ ဆင်၊ မြင်း စသည် တို့ကိုလည်း ပြုစားနိုင်သည်ဟုဆိုသည်။ စုန်း၊ ကဝေယုံကြည်မှုများသည်

[၆၁] မြန်မာ့စွယ်စုံကျမ်း (အတွဲ ၄)၊ နှာ ၇၇၊



မြန်မားလူမျိုးများ၌သာ ရှိသည်မဟုတ်၊ ရောမလူမျိုး၊ အင်္ဂလိပ်လူမျိုး၊ မလေးလူမျိုး၊ ထိုင်းလူမျိုးစသော လူမျိုးများ၌လည်း ယုံကြည်လက်ခံထားကြသည်ကို လေ့လာသိရှိရသည်။ ရှေးရောမ ခေတ်များမတိုင်မီ နှစ်ပေါင်းများစွာကပင် စုန်းအတတ်များ အင်္ဂလိပ်၌ ထွန်းကားနေခဲ့သည်။ ရှေးရောမခေတ်အခါများ၌လည်း စုန်းအတတ်ပညာများကို လက်ခံယုံကြည်ကြကြောင်း သမိုင်းမှတ်တမ်းများအရ သိရသည်။ ရှေးခေတ်ရောမဥပဒေများတွင် စုန်းအတတ်ကို တတ်ထားသူတို့သည် ရာဇဝတ်ပြစ်မှုကို ကျူးလွန်သူများဟူ၍ပင် ပြဋ္ဌာန်းထားသည်ကို တွေ့ရှိရသည်။[၆၂]

စုန်း၊ ကဝေများကို ယုံကြည်မှုများနှင့်ပတ်သက်၍ အံ့သြလောက်စရာကောင်းလှသည်။ ရှေးခေတ်က မြန်မာလူမျိုးသာမက၊ အနောက်ဥရောပသား လူမျိုးများပါ ယုံကြည်ခဲ့ကြ၍ တမျိုးအံ့သြစရာဖြစ်ရပြန်သည်။ ရှေးဟောင်းပုံပြင်များ၌ လူကို တိရစ္ဆာန်ဖြစ်သွားအောင် ပြုစားခဲ့တာမျိုးထိ ရှိခဲ့သည်။ စုန်း၊ ကဝေတို့သည် မိမိတို့ပြုစားလိုသောသူ၏ပုံတူ ဖယောင်းရုပ်တုကိုပြုလုပ်၍ ထိုအရုပ်ကို ဆေးဝါးမန္တရားတို့ဖြင့်စီရင်ကာ ပြုစားလိုသူ၏ လက်ကို ကျိုးစေလိုလျှင် ဖယောင်းရုပ်တုရဲ့လက်ကို ချိုးလိုက်ခြင်းဖြင့် ပြုစားလိုသူ၏လက်သည် တကယ်ကျိုးသွားကြောင်း ပုံပြင်ဇာတ်လမ်းများထဲတွင် ဖတ်ရှုရ၍ စာရေးသူငယ်စဉ်က စုန်း၊ ကဝေများကို ကြောက်ခဲ့သည်။ တချို့လူများက ယုံကြည်ထားကြပြန်သည်မှာ ပြုစားလိုသူ၏ လက်သည်း၊ ခြေသည်း၊ ဆံပင်၊ အဝတ်အစားစသည်တို့ကို ရရှိလျှင် ပြုစားနိုင်သည်ဟု ယုံကြည်ထားကြသည်။ထို့ကြောင့် ရှေးကျ၍ အလွန်အစွဲသန်သူများသည် အပြုစားခံရမည်ကို ကြောက်၍ သူတို့၏ခြေသည်း၊ လက်သည်းများနှင့် ဖြတ်ပြီးသားဆံပင်တို့ကို ကောင်းစွာသိမ်းဆည်း ထားကြ

[၆၂] မြန်မာ့စွယ်စုံကျမ်း (အတွဲ၊ ၄)၊ နှာ ၇၈၊

သည်ဟု အဆိုရှိ၏။

စာရေးသူငယ်စဉ်က ဖတ်ခဲ့ရသော ပုံပြင်လေးတစ်ခုထဲ၌ မောင်ရိုးဆိုသော ထင်းခုတ်သမား ဆင်းရဲသားတစ်ယောက်ကို ကဝေမကြီးတစ်ယောက်က သူခိုင်းတာကို မလုပ်ရကောင်းလားဟု အမျက်ထွက်၍ သစ်ခြောက်ပင်ကြီးတစ်ပင်ဖြစ်သွားအောင် ပြုစားလိုက်သည်ဟု ဖတ်ခဲ့ရသည်။ သစ်ခြောက်ပင်ကြီးတစ်ပင်ဖြစ်သွားသော လင်တော်မောင် မောင်ရိုးတစ်ယောက် အချိန်တန်လျက် အိမ်ကို ပြန်မလာခဲ့၍ တောတောင်အနှံ့ ချစ်လင်ကို ရှာဖွေခဲ့သည်။ ချစ်လင်ကို ရှာရင်းပါးစပ်မှလည်း ''ကိုရိုး ကိုရိုး ကိုရိုး''ဟု တကျော်ကျော်အော်ခေါ်ရင်း ရင်ကွဲနာကြ၍ သေဆုံးသွားခဲ့ရသည်။ သေဆုံးသွားခဲ့ပြီး၊ ဥဩငှက်လေးတစ်ကောင် ဖြစ်သွားခဲ့ကြောင်း ပုံပြင်လေး၌ ဖော်ပြထားသည်။ ထိုဥဩငှက်လေးသည် 'ကိုရိုး'တစ်ဖြစ်လဲ သစ်ခြောက်ပင်ကြီးပေါ်က သစ်ကိုင်းခြောက်တစ်ကိုင်းပေါ်မှာ နားယင်း 'ကိုရိုး ကိုရိုး ကိုရိုး' (ကာလရှည်ကြာသောအခါ လူများက ''ဥဩ ဥဩ ဥဩ''ဟု ကြားနေကြရသည်ဟုဆိုသည်)ဟု တဆွေးမြည့်မြည့် ခေါ်နေပုံများသည် ဘဝကံခေလှသူ ချစ်သူနှစ်ဦးတို့၏ နီးနေလျက်နှင့် ဝေးနေခဲ့ရသည့် သူတို့နှစ်ဦးရဲ့ ပုံရိပ်သွင်လေးများသည် စာရေးသူ၏ နှလုံးသားထဲ၌ ထင်ကျန်နေဆဲဖြစ်သည်။ စာရေးသူငယ်စဉ်က ဒီပုံပြင်လေးကိုဖတ်ပြီး ဝမ်းနည်းခဲ့မိသည်။ ဤသို့ဤနှယ် စုန်း၊ ကဝေတို့၏ သဘာဝလေ့များကို ရှေးဟောင်းစာပေများ၌ ဖတ်ခဲ့ရ၍ ငယ်စဉ်က စုန်းကဝေများ တကယ်ရှိ၊ မရှိကို အတိအကျမဆုံးဖြတ်နိုင်ခဲ့၍ စုန်းကဝေများကို ခပ်ကြောက်ကြောက်ပင်ရှိခဲ့သည်။ ရှေးခေတ်အခါများက စုန်း၊ ကဝေ ယုံကြည်မှုများ အားကြီးလှ၍ ရှေးဟောင်းရာဇဥပဒေတွင် လူသေအလောင်းများတူးဖော်ခြင်း၊ ပုံတူဖယောင်းရုပ်တုများ ပြုလုပ်ခြင်း စသော စုန်းအတတ်ပညာနှင့်မကင်းသော လုပ်ငန်းများကို ဥပဒေထား၍ အရေးယူ





တားမြစ်ခဲ့ရသည်ဟု အဆိုရှိသည်။[၆၃]

ယနေ့မျက်မှောခေတ်၌ စုန်း၊ ကဝေယုံကြည်မှုများ အတော်လေး အားနည်းသွားသည်ကို တွေ့ရှိရသည်။အကြောင်းမှာ စိတ်ပညာသဘောအရ ကိုယ်တိုင်စုန်းကဝေ ပြုစားခံခဲ့ရသည်ဟု အထင်ရောက်ခဲ့သော ဆရာတော်၊ သံဃာတော်များနှင့် လူပုဂ္ဂိုလ်များသည် ထိုအခက်အခဲများမှ ပဋ္ဌာန်းတန်ခိုးဖြင့်၊ (တချို့ကမူ) ဂုဏ်တော်တန်ခိုးဖြင့်၊ သတိပဋ္ဌာန်တန်ခိုးဖြင့် လွန်မြောက်လာပုံများကို တစ်ဆင့်ဖောက်သည်ချခဲ့ကြ၍ ယနေ့ခေတ် လူကြီး၊ လူရွယ်၊ လူငယ်တို့အတွက် အကျိုးများစွာ ဖြစ်ထွန်းခဲ့သည်။ သူတို့ စုန်းကဝေပြုစားခံရမှုဘေးမှ လွတ်မြောက်ခဲ့ရခြင်းမှာ ပဋ္ဌာန်း(၂၄) ပစ္စည်းအကျဉ်းကို ဝတ်ထား၍ တစ်နေ့(၉)ကြိမ် (သို့မဟုတ်) (၁၀၈)ကြိမ် နေ့စဉ်ရက်ဆက် ရွတ်ခဲ့ကြ၍ ထိုဘေးမှ လွန်မြောက်လာခဲ့ကြောင်း၊ တချို့ကမူ သူတို့သည် ဂုဏ်တော် ကိုးပါးကို ပုတီးပတ်ရေ (၁၀၈)ပတ်ရအောင် စိတ်ခဲ့ကြောင်း၊ တချို့ကမူ သမ္ဗုဒ္ဓေဂါထာတော်ကို တစ်နေ့ကို အနည်းဆုံး (၁၀၈) ခေါက်ထိ ဝတ်ထား၍ ရွတ်ဖတ်ပူဇော်ခဲ့ကြောင်းနှင့် တချို့ကမူ သတိပဋ္ဌာန်ကို ပွားများအားထုတ်ခဲ့သောကြောင့် ထိုဘေးများမှ လွန်မြောက်လာခဲ့ခြင်းကြောင်း စသည်ဖြင့် တစ်ဆင့်စကားပြောကြားခဲ့ကြသည်။ တချို့အပင်းသွင်းခံခဲ့ရသည်ဟု အယူရှိခဲ့သော သံဃာတော်တစ်ပါးကမူ သူ့ဝေဒနာများ မသက်သာ၍ 'ဘုရားကု ကုမည်' ဟု စိတ်ကိုဆုံးဖြတ်လျက် ဝိပဿနာတရားကို ကြိုးစားအားထုတ်ခဲ့ရာ သုံးလမြောက်သောနေ့၌ ဝမ်းတွင်းမှ အရိအချွဲများ၊ ဝက်အဆီဖတ်များကျဆင်းလာခဲ့ပြီး ထိုနေ့မှစ၍ ကျန်းမာရေးများ အထူးကောင်းမွန်လာခဲ့သည်ဟု ပြောကြားခဲ့သည်။

---

[၆၃] မြန်မာ့စွယ်စုံကျမ်း (အတွဲ၊ ၄)၊ နာ ၇၈။

လူအများသည် စုန်း၊ ကဝေ၊ ရှာသူများနှင့်စပ်ပြီး ယုံကြည်ထားကြသည်မှာ စုန်းကဝေအပြုစားခံထားရသော လူတစ်ယောက်၏ အမူအရာများသည် ထူးထူးဆန်းဆန်းဖြစ်နေတတ်သည်။ သူ့ငိုချင်လျှင် လူရှေ့မရှောင် သူရှေ့မရှောင် ငိုချလိုက်သည်။ ရယ်ချင်ပြန်လျှင်လည်း ရှက်ရမှန်းမသိ ရယ်ချလိုက်သည်။ သူ့စိတ်နှင့်သူ့ကိုယ် မကပ်သလို ဖြစ်နေတတ်သည်။ မစားနိုင်၊ မသောက်နိုင်ဘဲ တမှိုင်မှိုင် တတွေတွေလည်း ဖြစ်နေတတ်သည်။ လူများကိုမြင်လျှင် ကြောက်သလိုလို ရွံ့သလိုလို အမူအရာများလည်း ဖြစ်နေတတ်သည်။ ညညများ၌ နှစ်ခြိုက်စွာ အိပ်မပျော်နိုင်ဘဲ ဂယောင်ချောက်ချား ဟစ်အော်နေတတ်သည်ကိုလည်း တွေ့ရတတ်သည်။ အမျိုးဂုဏ်၊ ဇာတိဂုဏ်၊ ပညာဂုဏ်၊ ရုပ်ရူပကာယဂုဏ်များရှိသော ပြုစားခံထားရသည်ဟု ယူဆထားခံရသော မိန်းမပျိုလေးတစ်ယောက်က လူရှေ့၊ သူရှေ့တွင် အခြောက်တိုက်ချည်း ထိုကဲ့သို့ငိုခြင်း၊ ရယ်ခြင်းကို ပြုလုပ်နေမည်ဆိုလျှင် သမီးရှင်ဖြစ်သော အမေတစ်ယောက်၏ ပူပင်သောကသည် အဘယ်သို့ရှိမည်နည်းဟု စဉ်းစားကြည့်လို့ရပါသည်။ အမှန်မှာ ငိုတိုင်း၊ ရယ်တိုင်း အပြုစားခံထားရသည်ဟု တစ်ထစ်ချတော့ မယုံကြည်သင့်ပေ။ အနိုက်အတန့်အားဖြင့် ကျန်းမာရေးချို့နေသည့် အခါမျိုးတွေမှာလည်းဖြစ်တတ်သောသဘောရှိသည်။ ပုဂ္ဂိုလ်ရေးရာကိစ္စများကြောင့် စိတ်တွေမထိန်းနိုင် မသိမ်းနိုင်ဖြစ်ပြီး၊ ငိုတာ၊ ရယ်တာမျိုးလည်း ဖြစ်နိုင်သည်။ ဖြစ်နိုင်စရာအကြောင်းတွေကတော့ အများကြီးပင်။

သို့သော် လောကကြီးထဲ၌ဖြစ်ပျက်နေသည်မှာ နတ်ကို ယုံကြည်ကိုးကွယ်သူများသည် အကြောက်တရားတွေနှင့်ရင်ဆိုင်ရတိုင်း ထစ်ခနဲဆို နတ်ကနားပေးပြီး၊ နတ်တွေကို အားကိုးတကြီးဖြင့် ပူဇော်ပသနေကြသလို၊ ဘိုးတော်များကို ယုံကြည်ကိုးကွယ်နေသူများကလည်း ထစ်ခနဲဆို ဘိုးတော်တွေကို အိမ်မှာပင့်ပြီး ပွဲပြင်၊ ပွဲထိုး



ပြုလုပ်နေကြသည်။ ဗုဒ္ဓတရားတော်များကို ယုံယုံကြည်ကြည်ဖြင့် ကိုးကွယ်ထားကြသူများ၊ ကံ၊ ကံ၏အကျိုးတရားများကို ဉာဏ်ဖြင့် သက်ဝင်ယုံကြည်ထားကြသူများသည် ဗိုက်နာတိုင်း၊ စားမဝင်တိုင်း၊ အိပ်မပျော်တိုင်း၊ ငိုချင်တိုင်း၊ ရယ်ချင်တိုင်း၊ နတ်ကိုင်တာချည်း၊ စုန်းကဝေပြုစားတာချည်း၊ ဘိုးတော်များ အပြစ်ဒဏ်ခတ်ခံရတာချည်း မဖြစ်နိုင်ကြောင်း ဉာဏ်နှင့်ယှဉ်၍ နားလည်သဘောပေါက်နိုင်သည်။ ဘေးရန်ကိုဖြောက်၊ ချမ်းသာကိုရောက်စေနိုင်သော ဗုဒ္ဓ၏ အနှိုင်းမဲ့ မေတ္တာတော်များကို ကြည်လင်သောသဒ္ဓါဖြင့် ခံယူ၍ သရဏဂုံသုံးပါး၏ ဂုဏ်တော်ကျေးဇူးများကို အသိဉာဏ်ပညာဖြင့် ဆင်ခြင်သုံးသပ်လျက် အမှောင့်ပယောဂ၊ အမှားပယောဂ၊ အဖျက်ပယောဂများမှ ကင်းဝေးနိုင်ကြပါစေ။





အခန်း(၇)

## မြန်မာစာပေထဲမှ အုံ့ဖွယ်ဘိုးတော် ဝိဇ္ဇာကြီး ဘိုးဘိုးအောင်

ရှေးကြသောမြန်မာသမိုင်းစာပေထဲ၌ ဘိုးတော်ကိုးကွယ်မှုများသည် အလွန်အမင်းကြီး ခေတ်မစားလှကြောင်း သမိုင်းမှတ်တမ်းများအရ သိရပေသည်။ 'ဘိုးတော်' ဟူသော ဝေါဟာရနှင့်စပ်၍ မြန်မာရာဇဝင်တွင် အထင်ရှားဆုံးတွေ့ရသောအမည်နာမမှာ အမရပူရမြို့နန်းကို တည်ထောင်ခဲ့သည့် 'ဘိုးတော်ဦးဝိုင်း' (မြန်မာသက္ကရာဇ် ၁၁၄၃–၁၁၈၁ ခုနှစ်။ ခရစ်နှစ် ၁၇၈၁–၁၈၁၉–ခုနှစ်)ပင်ဖြစ်သည်။ ဘိုးတော်ဘုရားဟူ၍လည်းကောင်း၊ ဗဒုံမင်းဟူ၍ လည်းကောင်း အမည်တွင်သေးသည်။ သို့သော် ထိုဘိုးတော်ဦးဝိုင်းသည် ဝိဇ္ဇာလိုင်းလိုက်စား၍ 'ဘိုးတော်' အမည်တွင်နေသည်မဟုတ်။ ကိုးကွယ်ခံသူဘုရင်တစ်ဆူသာဖြစ်ခဲ့သည်။ ထိုမင်းသည် ငယ်စဉ်က ဘိုးဘိုးအောင်နှင့် ကျောင်းနေဖက်ဖြစ်ခဲ့သည်ဟု 'ဘိုးဘိုးအောင်နှင့် ကျင့်စဉ်' စာအုပ်၌ ဖော်ပြထားသည်။ ထို 'ဘိုးဘိုးအောင်၊ ဘိုးမင်းခေါင်' တို့၏ အမည်နာမများကိုနွယ်၍ နှောင်းခေတ်လူတို့သည် ဝိဇ္ဇာလိုင်း၌ ထွက်ရပ်ပေါက်သွားသည်ဟု သူတို့ယူဆထားခဲ့သော အကိုးကွယ်ခံ ပုဂ္ဂိုလ်

များကိုလည်းကောင်း၊ ထွက်ရပ်မပေါက်သေးသော ဘိုးတော်များကိုလည်းကောင်း 'ဘိုးတော်၊ ဝိဇ္ဇာ' ဟု ခေါ်ဝေါ်သုံးစွဲခဲ့ကြလေသလားဟု တွေးထင်စရာဖြစ်လာသည်။ သို့သော် နှစ်ဆယ်ရာစုနှစ်ဦးပိုင်းသို့ ရောက်လာသောအခါ ဘိုးတော်အသုံးအနှုန်းများ စတင်တွေ့ရှိလာသည်။

အထက်ပါအခန်းများ၌ ဖော်ပြထားခဲ့သည့်အတိုင်း ပါဠိကျမ်းဂန်များ၌ လောကီဝိဇ္ဇာများ၊ အရိယာဝိဇ္ဇာများ၊ ဝိဇ္ဇာမိုရ်များရှိခဲ့ကြောင်းကို ဖော်ပြထား၍ ပါဠိစာပေထွန်းကားခဲ့သော မြန်မာနိုင်ငံ၌ အလားတူ ဖြစ်ရပ်ဆန်းများ၊ တန်ခိုးရှင်များ ရှိတန်ကောင်း၏ဟူသော စိတ်ကူးယဉ်အတွေးများဖြင့် လောကီဝိဇ္ဇာများ၊ အရိယာဝိဇ္ဇာများ၊ ဝိဇ္ဇာမိုရ်များ၏ ပုံရိပ်သဏ္ဌာန်များကို အတုယူ၍၊ ထိုပုံရိပ်သဏ္ဌာန်များကို ပုံဖော်နိုင်အောင် မြန်မာတို့ကျိုးစားခဲ့ကြဟန်ရှိသည်။ ဘိုးတော်၊ ဝိဇ္ဇာနှင့်စပ်သော စကားလုံးများကိုပါ ခန့်ခန့်ညားညား တည်ထည်ဝါဝါတီထွင်၍ ဖော်မြူလာများကိုလည်း တည်ထွင်ကြဆလျက် မြန်မာတို့၏ ယဉ်ကျေးမှု ဓလေ့များ၌ ခြေရာယူနိုင်အောင် ကြိုးစားလာခဲ့ကြဟန်ရှိသည်။ မြန်မာ့ဂမ္ဘီရသိပ္ပ၊ ဝိဇ္ဇာရေလောကီပညာရပ်များ၊ ဝိဇ္ဇာသိဒ္ဓိ မဟိဒ္ဓိစသော စကားလုံးများကို တင်ထွင်သုံးစွဲလာကြသည်။ ယုံကြည်မှုအပိုင်း၌လည်း ဂါထာမန္တန်အတတ်များ၊ အင်းအတတ်များ၊ လောကဓာတ်ပညာနှင့် ဆက်စပ်၍ မရနိုင်သော သိပ္ပံနယ်လွန်၊ သဘာဝနယ်လွန်၊ ဂမ္ဘီရသိပ္ပ၊ ဝိဇ္ဇာရလောကီပညာရပ်များ စသည်ဖြင့် သုံးနှုန်းထားသော စကားလုံး ဝေါဟာရများကလည်း ခန့်ညားကြီးကျယ်လှပါပေသည်။

မြန်မာစာပေသမိုင်းများ၌ ထင်ရှားကျော်ကြားသော သူတော်ကောင်းဘိုးတော်ကြီးများသည် ဘုရား၊ တရား၊ သံဃာကို ကြည်ညိုကြ၍ ရတနာသုံးပါးကို အမြဲတမ်း ဦးထိပ်မှာတင်ထားပြီး သူတို့အားသန်ရာ ဓာတ်စခန်းများကိုလည်းကောင်း၊ ဝိဇ္ဇာပညာရပ်များကို





လည်းကောင်း ကြိုးကြိုးစားစား အားထုတ်ခဲ့ကြသည်။ ဘိုးဘိုးအောင်ကဲ့သို့သော ဘိုးတော်၊ ဝိဇ္ဇာကြီးများသည် စမ အင်းအတတ်များ၊ လောကီဝိဇ္ဇာအတတ်များကို ပေါက်ရောက်ခဲ့ကြသည်ဟု သမိုင်းများ၌ ဖော်ပြထားသည်။ ဘိုးတော်ကြီးများသည် ရတနာသုံးပါး၌ ကြည်ညိုလှ၍ ဘုရား၊ တရား၊ သံဃာ ရတနာသုံးပါးကို သူတို့၏ဦးခေါင်းရတနာထက်၌ အမြဲတမ်းတည်ထား ကိုးကွယ်ထားခဲ့ကြသည်။ ဘုရားနှင့်တန်းတူ ရည်တူထား၍ အကိုးကွယ်ခံဖို့နေနေသာသာ၊ စိတ်နှင့်ပင် မကြံသင့်၊ မကြံကောင်းသောအရာများဟု သူတို့နားလည်ကြသည်။ သို့သော် ဘုန်းသမ္ဘာလည်းနည်း၊ ရတနာသုံးပါအပေါ်၌ ယုံကြည်မှုသဒ္ဓါ နည်းပါးလည်းနည်းပါးကြသော ပုဂ္ဂိုလ်တို့ကား ခေတ်သစ် 'ဘိုးတော်' များဖြစ်ကြသည်။ ဘိုးတော်၊ ဝိဇ္ဇာကြီးများကို ဉာဏ်မပါဘဲ ကြည်ညိုလေးစားခြင်း၊ အသိဉာဏ်များ နည်းပါးကြခြင်း၊ လာဘ်လာဘကို အလွန်အမင်း မျှော်လင့်ကြခြင်းစသော ဤအကြောင်းတရားတို့ကို အခြေခံလျက် ဘိုးတော်၊ ဝိဇ္ဇာကြီးများကို ဘုရားနှင့် တန်းတူထား၍ ယုံကြည်ခဲ့ကြသည်။ ဘိုးတော်၊ဝိဇ္ဇာကြီးများ၏ ပုံတော်များကို ဘုရားစင်ပေါ် အတူတင်ထား၍ အထွတ်အမြတ် တည်ထား ကိုးကွယ်ခဲ့ကြသည်။ ရတနာသုံးပါးကို တကယ်တမ်းကြည်ညိုကြသော ဗုဒ္ဓဘာသာဝင်တို့၏နှလုံးသားသည် 'မှတပါး ကိုးကွယ်ရာမရှိ' ဆိုသော စကားကို အမြဲတမ်းအမှတ်ရလျက် တစ်ဆူတည်းသော ဘုရားရှင်ကိုသာ ဘုရားစင်ပေါ်၌ ထည်ထည်ဝါဝါ ဖြင့်ရှိနေသင့်ကြောင်း ဆွေးနွေးတင်ပြပါသည်။ ယက်ကန်းစင်တောင် ဆရာတော်ဘုရားကြီးသည် ဘုန်ကြီးတစ်ပါးဖြစ်၍ ဘုရားစင်ပေါ်၌ ထားသင့်သည်မဟုတ်ပါလားဟု မေးဖွယ်ရှိသည်။ ဗုဒ္ဓဘာသာ ဝင်တစ်ယောက်အတွက် ဘုရားရှင်၏ လက်ယာရံ၊ လက်ဝဲရံသာဝကကြီးများ ဖြစ်ကြသော ရှင်သာရိပုတ္တရာ၊ ရှင်မဟာမောဂ္ဂလာန်စသော အဂ္ဂသာဝကကြီးများကိုပင် ဘုရားနှင့်

တန်းတူထား၍ ဘုရားစဉ်မှာ တည်ထားကိုးကွယ်မှုများကို ပြုလုပ်ရာ၌ ဝန်လေးနေကြသေးလျှင် ယက်ကန်းစင်တောင် ဆရာတောင် ဘုရားကြီးသည် ရှင်သာရိပုတ္တရာနှင့် ရှင်မဟာမောဂ္ဂလာန်စသော အဂ္ဂမဟာသာဝက ကြီးနှစ်ပါးထက် ပို၍မြင့်မြတ်သည်ဟု မယူဆပါ။ ဘိုးဘိုးအောင်၊ ဘိုးမင်းခေါင်ကဲ့သို့သော ဘိုးတော်၊ ဝိဇ္ဇာကြီးများသည်လည်း မြတ်စွာဘုရားအမျိုးရှိသော အဂ္ဂမဟာသာဝက၊ မဟာသာဝကစသော ရဟန္တာအရှင်မြတ်ကြီး၏ တပည့်သာဝကကြီးများသာဖြစ်၍ ဗုဒ္ဓဘာသာဝင်တို့၏ ဘုရားစင်၌ ဘုရားရုပ်ပွားနှင့်အတူ တန်းတူရည်တူ ထား၍ တည်ထားကိုးကွယ် ပူဇော်ထားခြင်းသည် ဘယ်ရှုထောင့်မှ ကြည့်ကြည့် မသင့်လျော် မအပ်စပ်သည်သာဖြစ်၏။

မြန်မာစာပေသမိုင်း၌ အထူးကျော်ကြားသော သူတော်ကောင်း ဘိုးတော်၊ဝိဇ္ဇာကြီးများကို စာရေးသူ လေးစားပါသည်။ သူတို့သည် သာသနာတော်၏ ဘေးအန္တရာယ်များ ကြုံလာလျှင် ကယ်မရန် ပေါ်လာတတ်သည်ဆို၍ သာသနာတော်အတွက် အားတက်မိပါသည်။ သို့သော် ‘သဗ္ဗေသင်္ခါရာ အနိစ္စာ’ ဟူသော ဘုရားရဟန္တာများပင် မလွန်ဆန်နိုင်သော သင်္ခါရသဘောတရားကို ဆင်ခြင်သုံးသပ်မိ၍ သူတို့၏ လောကီဝိဇ္ဇာတန်ခိုးများသည် သေခြင်းတရားကို မကျော်လွန်နိုင်ကြောင်း ဝိပဿနာဉာဏ်များဖြင့် နားလည်သဘောပေါက်ထားပြီး ဖြစ်သည်။ သို့ဖြစ်၍ ကိုယ်ကွယ်မှုများ၌ ‘သေခြင်းတရားမှ ရှင်သန်ထမြောက်ခြင်း’ ဟူသော အခြားဘာသာဝင်များ၏ အယူဝါဒများကို အတုယူလျက် မြန်မာတို့၏စိတ်၌ ထွက်ရပ်ပေါက်အတွေးအခေါ်များ ရှင်သန်မွေးဖွားလာသည်ဟု ယူဆမိသည်။ ရှင်သန်ထမြောက်လာသူများထဲတွင် လောကီဘိုးတော်ဝိဇ္ဇာကြီးများဖြစ်သော ‘ယက်ကန်းစင်တောင်ဆရာတော်ကြီး’ ‘ဘိုးဘိုးအောင်’နှင့် ‘ဘိုးမင်းခေါင်’ စသော ပုဂ္ဂိုလ်တို့သည် ရှေ့တန်းမှပါဝင်လာကြသော ဘိုးတော်၊ဝိဇ္ဇာကြီးများ ဖြစ်ကြသည်။

ဘိုးဘိုးအောင်ကို ဒဏ္ဍာရီထဲက သူတော်စင်ကြီးမဟုတ်ကြောင်း လက်ခံအသိအမှတ်ပြုထားသူများ များစွာရှိပါသည်။ သို့သော် စာရေးသူအနေနှင့် ဘိုးဘိုးအောင်၏ ဖြစ်ရပ်စုံတို့သည် တကယ်ပင် ဒဏ္ဍာရီဆန်နေပါသည်။ အဘယ်ကြောင့်ဆိုသော် တကယ်ထင်ရှားရှိခဲ့ကြောင်း နှစ်ဆယ်ရာစုအလယ်ပိုင်း မြန်မာစာပေများထဲ၌ ရေးသားဖော်ပြထားကြသည်ကို တွေ့ရသောကြောင့် ဖြစ်သည်။သို့သော် ရှိသင့်သည်ထက် ပို၍အမွှန်းတင်တတ်သော မြန်မာတို့၏ ယုံကြည်မှုများသည် ပို၍ဒဏ္ဍာရီဆန်စေခဲ့သည်။ ဘိုးဘိုးအောင်ကို ထွက်ရပ်ပေါက် ပုဂ္ဂိုလ်ကြီး ‘ပထမံဘိုးဘိုးအောင်’ ဟု လူသိများသည်။ အင်းစမအတတ်ပညာများဖြင့် ထွက်ရပ်ပေါက်လမ်းသို့ မြန်းသွားသောပုဂ္ဂိုဟ်ဟု ယူဆသူများက ‘အင်းဦးအောင်’ ဟူ၍လည်းကောင်း၊ ‘ပထမံရသေ့ကြီးဦးအောင်’ ဟူ၍လည်းကောင်း အမည်နာမတွေ ပေးခဲ့ကြသည်။[၅၅] လောကီဝိဇ္ဇာပညာရပ် အချို့ကို ပေါက်မြောက်သွားသော ဘိုးတော်၊ ဝိဇ္ဇာကြီးဘိုးဘိုးအောင်သည် ယခုအချိန်အထိ အသက်ထင်ရှားရှိနိုင်၊မရှိနိုင်ဆိုသည့် မေးခွန်းအတွက် အဘိဓမ္မာဉာဏ် (သို့မဟုတ်) ဝိပဿနာဉာဏ်နှင့် ယှဉ်နိုင်ဖို့တော့ လိုအပ်ပါသည်။

## ဘိုးဘိုးအောင်၏ ဘဝဖြစ်စဉ်

ဘိုးဘိုးအောင်လောင်းလျာ မောင်အောင်သည် တောင်တွင်းကြီးမြို့အနောက် (ငါးတိုင်ကျော်ခန့်ဝေးသော) လက်ပန်ရှည်ရွာ၌ အဘဦးမြတ်စံညို၊ အမိဒေါ်ငြိမ်ရာတို့မှ ဖွားမြင်သည်။ မွေးချင်း သုံးယောက်

[၅၅] ဆရာကြီးအရိန္ဒမာ၊ မဟိဒ္ဓိပုဂ္ဂိုလ်ထူးများ၏ အံ့ဖွယ်ဖြစ်ရပ်ဆန်းများ၊ တက်လမ်းစာပေ၊ ရန်ကုန်မြို့၊ ၁၉၉၄၊ နှာ ၁၆၄၊

ရှိပြီး၊ အဖေတူ၊ အမေကွဲသားပါ ရေတွက်လျှင် မွေးချင်းလေးယောက် ရှိသည်။ ဤ၌ အထူးသတိပြုစရာ အချက်တစ်ချက်မှာ ဘိုးဘိုးအောင် (မောင်အောင်)၏ မွေးနေ့သက္ကရာဇ်ကို သမိုင်းစာအုပ်များ၊ စာပေများ၊ ပေ၊ပုရပိုက်မှတ်တမ်းများနှင့် စာပေပညာရှင်များ၏ မှတ်စုများ၌ ဖော်ပြထားခြင်း မရှိခြင်းပင်ဖြစ်သည်။ ဆရာ ဦးဖေခင်၏ ''ဘိုးဘိုးအောင်နှင့်ကျင့်စဉ်'' စာအုပ်၌ မောင်အောင်၏ ဖွားရာသက္ကရာဇ်ကို အတိအကျ မသိရသော်လည်း ဘိုးတော်ဦးပိုင်း ဖြစ်လာမည့် မောင်ပိုင်းနှင့် ကျောင်းနေဖက် သူငယ်ချင်းဖြစ်၍ မောင်ပိုင်းသည် ၁၁၄၃–ခုနှစ်တွင် မွေးဖွားခဲ့၍ မောင်အောင်၏ အသက်သည်လည်း ထိုနှစ်များဝန်းကျင်၌ မွေးဖွားလိမ့်မည်ဟု ခန့်မှန်းပြောဆိုထားကြသည်။[၅၅] ဤအချက်ကို ထောက်၍ တချို့လူများ၏ အတွေးအမြင်မှာ ဘိုးဘိုးအောင်သည် ဒဏ္ဍာရီထဲက 'လောကီဝိဇ္ဇာဘိုးတော်ကြီး' များ ဖြစ်လေမလားဟု ယုံမှားသံသယတွေ ပွားခဲ့ကြသည်။ သို့သော် ဘိုးဘိုးအောင်သည် လူသားထဲမှ လောကီဝိဇ္ဇာပညာရပ်များကို ပေါက်ရောက်သွားသော လူသားတစ်ဦးဖြစ်ကြောင်း သမိုင်းမှတ်တမ်းများ၌ မှတ်တမ်းများ ထားခဲ့ကြသည်။

မောင်အောင်ပညာသင်ရန် အရွယ်ရောက်လာသောအခါ မိဘများသည် မောင်အောင်အား တောင်တွင်းကြီးမြို့၊ ဇေယျမင်္ဂလာ ရွှေအင်တော်စေတီတော်မြတ် အရှေ့ဘက်ရှိ ကြေးနီးကျောင်း ဆရာတော်ထံတွင် အပ်နှံ၍ပညာသင်ကြားစေသည်။[၅၆] ဗိုလ်တာရာ (ရဲဘော်သုံးကျိပ်)၏ ဂတိသစ္စာစာအုပ်၌ မိဘများသည် မောင်အောင်ကို စစ်ကိုင်းအရှေ့ပြင်ရှိ ထူပါရုံမင်းကျောင်း ဆရာတော်ထံ အပ်နှံ၍

---

[၅၅] ဆရာဦးဖေခင်၊ ဘိုးဘိုးအောင်နှင့်ကျင့်စဉ်၊ "သောင်း"ပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ ၁၉၄၉၊ နာ၉။

[၅၆] ဆရာဦးဖေခင်၊ ဘိုးဘိုးအောင်နှင့်ကျင့်စဉ်၊ နာ၉။





ပညာများကို သင်ကြားစေသည်ဟု ရေးထားပြန်သည်။ ထိုကျောင်း၌ နေစဉ်ပင် နောင်အခါ၌ ဘိုးတော်ဦးပိုင်းဖြစ်လာမည့် မောင်ပိုင်းနှင့် တွေ့ကြသည်ဟု ဖော်ပြထားသည်။ ဤသို့ဖော်ပြထားခြင်း အတွက်လည်း သမိုင်းအချက်အလက်များ ထပ်မံကွဲလွဲနေသည်ကို တွေ့ရပြန်သည်။ မြန်မာ့သမိုင်းစာပေများ၌ ထင်ရှားကျော်ကြားသော ပုဂ္ဂိုလ်ထူးများ၏ မွေးသက္ကရာဇ်နှင့် ပညာသင်ကြားရာဒေသများ ကွဲကွဲလွဲလွဲ ဖြစ်နေသည်မှာလည်း တချို့လူများအတွက် သံသယများကို တိုးပွားစေခဲ့သည်။ ဘိုးဘိုးအောင်သည် သမိုင်းမပီပြင်သော ဒဏ္ဍာရီထဲက ပုဂ္ဂိုလ်ထူးကြီးမျိုး ဖြစ်နေသောကြောင့်ပေလော။ ဤ၍ဤမျှထိ ထူးခြားလှသော ဘိုးဘိုးအောင်ကဲ့သို့သော ပုဂ္ဂိုလ်ထူးမျိုးကို သမိုင်းဆရာတို့ အဘယ့်ကြောင့် မှတ်တမ်းမတင်နိုင်ခဲ့သနည်း။

သမိုင်းစကို ပြန်ကောက်ပြရသော် တစ်နေ့သောအခါ၌ ကြေးနီကျောင်းဆရာတော် အိပ်ပျော်နေစဉ် ဝတ်ဖြူစင်ကြယ်ဝတ်ထားသော လူသူတော်တစ်ယောက်သည် ဆရာတော်အား ကျောင်းအနောက်ဘက်ရှိ ရေကန်ဆီသို့ ပင့်ဆောင်သွားခဲ့သည်။ ထို့နောက် ကန်တွင်းသို့ လက်ညှိုး ထိုးပြပြီး ထိုလူသူတော်သည် ချက်ချင်းဆိုသလို ပျောက်ကွယ်သွားခဲ့သည်။ အစပိုင်း၌ ဆရာတော်သည် အိပ်မက်အရ လက်ညှိုးညွှန်ပြသည့် နေရာသို့ မကြွရောက်ဘဲ အမှုမဲ့ အမှတ်မဲ့သာ နေခဲ့သည်။နောက်ပိုင်း၌ အိမ်မက်အကြောင်းကို သတိပြန်ရ၍ အဖော်မပါဘဲ ကြေးနီကန်သို့ သွားခဲ့ပြီး ကန်တွင်းသို့ ဆင်းသက်ကြည့်ခဲ့ရာ ရေကန်တွင်းမှ ကြေးနီပုရပိုက် တစ်ခုကို ရရှိခဲ့သည်။ ထို့နောက် ကြေးနီကျောင်းဆရာတော်သည် ကြေးနီပုရပိုက်တွင် ဖော်ပြထားသော အင်းစမများကို လေ့လာခဲ့သည်။ သို့သော် တစ်စုံတစ်ရာ ထူးထူးခြားခြား အကျိုးထူးများကို ရရှိမသွားဘဲ ပျံလွန်တော်မူသွားခဲ့သည်။ ဆရာတော်ပျံတော်မူပြီးနောက် တပည့်ကြီးသုံးပါးထဲမှ အကြီးဆုံးတပည့်ကြီး



ဦးလက္ခဏာသည် ဆရာတော်ဖြစ်လာခဲ့သည်။ဦးလက္ခဏာသည် ဆရာတော်ကြီး ကျန်ရစ်ခဲ့သော ပစ္စည်းများကို ကျန်ဦးပဉ္စင်းများအား ခွဲဝေပေးနေစဉ် ရေသောက်ရန် ကျောင်းပေါ်သို့ တက်လာသော မောင်အောင်အား “မောင်အောင် မင်းလည်း ဆရာတော်ကြီးရဲ့ တပည့်တစ်ဦးပဲ၊ ဆရာတော်ကြီးရဲ့ အမွေအနေနဲ့ ဒီခေါင်းအုံးကြီးကို ယူကွာ” ဟု ကျီစယ်သည့်သဘောဖြင့် အလျားနှစ်တောင်၊ အနံတစ်တောင်ထွာ ခန့်ရှိသည့် ညစ်ပေနေသည့် ခေါင်းအုံးကြီးတစ်လုံးကို မောင်အောင်အား ပစ်ပေးလိုက်သည်။ မောင်အောင်သည် ပစ်ပေးလိုက်သော ခေါင်းအုံးဟောင်းကြီးကို ကောက်ယူကာ အိပ်ရာခေါင်းရင်းတွင် သိမ်းထားလိုက်သည်။ တစ်နေ့သောအခါ မောင်အောင်တစ်ယောက် ခေါင်းအုံးပေါ်၌ လက်ထောက်၍ စာရေးနေစဉ် ခေါင်းအုံးထဲ၌ မာမာဝတ္ထုတစ်ခုကို လက်နှင့်ထောက်မိပြီး၊ ထို့နောက် ခေါင်းအုံးကြီးကို ဖွင့်ဖောက်ရှာဖွေကြည့်ရာ ပုရပိုက်တစ်ခုကို တွေ့ရှိသွားသည်။[၅၇]

မောင်အောင်သည် လူသူကင်းရှင်းသောအခါ ကြေးနီပုရပိုက်ကိုဖွင့်၍ ပုရပိုက်တွင် ပါရှိသော မြန်မာ့ဂမ္ဘီရ၊ ဝိဇ္ဇာရေလောကီပညာရပ်များကို ဖတ်ရှုလေ့လာသည်။ ခက်ခဲနက်နဲသော လျှို့ဝှက်ချက်အချို့ကို နားမလည်သဖြင့် ကျောင်းထိုင်ဆရာတော်ဦးလက္ခဏာအား မေးမြန်းလျှောက်ထားရသည်။ ကြေးနီပုရပိုက်ကို လေ့လာမိသည်မှစ၍ အခြားစာများကို လျှော့ပြီး အင်းစမအတတ်ကိုသာ မပြတ်လေ့လာတော့သည်။ မောင်အောင်သည် ကြေးပုရပိုက် ရရှိထားကြောင်းကိုမူ ဆရာတော်အား မလျှောက်ထားခဲ့ပေ။ သို့ရာတွင် ဆရာတော်သည် မောင်အောင်တစ်ယောက် အင်းပညာများကို လေ့လာနေကြောင်းကိုမူ ရိပ်မိလာသည်။ အင်းစမတို့ကို အမြဲလေ့ကျင့်နေသော မောင်အောင်အား အင်းရူးများ ရူးနေရော့သလားဟု တွေးတော ပြုံးရယ်လျက် အမှုမဲ့အမှတ်မဲ့သာ နေခဲ့သည်။[၅၈]

[၅၇] ဆရာဦးဖေခင်၊ ဘိုးဘိုးအောင်နှင့် ကျင့်စဉ်၊ နှာ ၁၈။

## အင်းပညာကို စမ်းသပ်ခြင်း

မောင်အောင်သည် ကြေးပုရပိုက်မှသင်ယူ လေ့လာထားသောနည်းများကို လက်တွေ့စမ်းသပ်လို၍ တနေ့တွင် သိမ်ဝင်သပိတ်ကွဲ၌ အင်းတစ်ကွက်ချပြီး သူ့မိခင် ဒေါ်ငြိမ်း၏ မွေးနံကို ထည့်သွင်းရေးလိုက်ကာ ထိုအင်းကို မိခင်ထိုင်နေကျ မီးဖိုအောက်တွင် မသိမသာ မြှုပ်ထားလိုက်သည်။ မိခင်သည် မီးဖိုထဲသို့ဝင်၍ ထိုင်နေကျနေရာတွင် ထိုင်လိုက်သည်နှင့်တစ်ပြိုင်နက် ရုတ်တရက်ဆိုသလိုပင် လဲကျသွားခဲ့သည်။ အိမ်နီးချင်းများ လာရောက်ပြီး တတ်သမျှ မှတ်သမျှ မန်းမှုတ်ကုသကြသော်လည်း မသက်သာ၍ မောင်အောင်၏ဖခင် ဦးမြတ်စံညိုသည် သမားတော်ကို သွားရောက်ပင့်ခေါ်ခဲ့ရတော့သည်။ အပြန်တွင် မောင်အောင်ကို အကျိုးအကြောင်းဝင်ပြောခဲ့၍ မောင်အောင်သည် ဖခင်အား ဘာမျှမပြောပဲ ဖခင်နှင့်အတူ အိမ်သို့လိုက်လာပြီး သူမြှုပ်ထားသော အင်းကို ဖော်ယူဖယ်ရှားလိုက်သည်။ ထိုသို့ပြုလိုက်သောအခါ မောင်အောင်၏မိခင်သည် သမားတော်၏ ဆေးကို တစ်ခွက်မှ မသောက်ရသေးဘဲ အကောင်းပကတိဖြစ်သွားသည်။ မောင်အောင်သည် မည်သူကိုမျှ ဘာမျှမပြောဘဲ မိခင်ကြီးအားပြစ်မှားမိသမျှကိုသာ ဝန်ချကန်တော့လိုက်သည်။ ထို့နောက် ကျောင်းသို့ပင် ပြန်လာခဲ့သည်။

[၅၈] ဘိုးဘိုးအောင်၏ ဘဝဖြစ်စဉ်များကို ဆရာဦးဖေခင်၊ ဘိုးဘိုးအောင်နှင့်ကျင့်စဉ်နှင့် ဆရာကြီး အရိန္ဒမာ၏ မဟာဝိဇ္ဇာပုဂ္ဂိုလ်ထူးများ၏ အံ့ဖွယ်ဖြစ်ရပ်ဆန်းများစာအုပ်တို့ကို အမှီအငြမ်းပြု၍ ရေးသားထားပါသည်၊ နှာ ၂၃။

## ဒုတိယအကြိမ် ဆေးအစွမ်းကို စမ်းသပ်ခြင်း

မောင်အောင်သည် သူဖော်စပ်ထားသော ဆေးကို စမ်းသပ်လို၍ ရွာထဲမှ ကြက်တစ်ကောင်ကိုရှာပြီး ထိုဆေးဖြင့် ကြက်ကို အနည်းငယ် သုတ်လိမ်းထားသည်၊ ထို့နောက် သူငယ်ချင်းများကို ''မင်းတို့ထဲက ဒီကြက်ကို ဘယ်သူသေအောင်သတ်နိုင်လဲ'' ဟု ပြောကြားကာ ထို ကြက်ကို သူငယ်ချင်းတွေအား ပေးခဲ့သည်။ သူတို့ထဲက တစ်ယောက် ပြီးတစ်ယောက် ကြက်ကို အသေသတ်ကြသော်လည်း ကြက်ကို ဘယ် သူမျှ သေအောင်မသတ်နိုင်ကြဘဲ သူငယ်ချင်းများသာ လက် လျှော့ပြန်သွားခဲ့ကြသည်။ ထိုကဲ့သို့ မောင်အောင်က သူငယ်ချင်းများ အား အစွမ်းပြခဲ့သော်လည်း သူငယ်ချင်းများကမူ မောင်အောင်၏ စွမ်းရည်ကို အမှုမဲ့၊ အမှတ်မဲ့သာ နေခဲ့ကြသည်။

## တတိယအကြိမ် နာမ်ခွာပညာကို စမ်းသပ်ခြင်း

တစ်နေ့တွင် ဆရာတော်ဦးလက္ခဏာနှင့် ကျောင်းရှိ သံဃာ တော်များသည် ရွှေစက်တော်ဘုရားဖူး သွားလိုကြ၍ ဦးလုံးနှင့် မောင် အောင်တို့အား ကျောင်းကို အပ်နှံ၍ ဘုရားဖူးထွက်သွားခဲ့ကြသည်။ မောင်အောင်သည် ဆရာတော်သုံးပါး ရွှေစက်တော်ဘုရားသို့ ရောက်ရှိချိန်တွင် သူ့ပညာဖြင့် ရုပ်မှနာမ်ကိုခွာ၍ နာမ်ကို ရွှေစက်တော် ဘုရားသို့လွှတ်လိုက်သည်။ ဆရာတော်သုံးပါး မည်သည့်နေရာ၌ ဘုရားဖူးသည်၊ မည်သည့်နေရာသို့ လှည့်လည်ကြည့်ရှုကြသည်။ မည် သည့်စကားများကို ဆွေးနွေးပြောဆိုကြသည်တို့ကို မှတ်သား၍ ပြန် လာခဲ့သည်။ ဤနည်းအတိုင်းပင် နှစ်ရက်တိုင်တိုင် သွားရောက် နားထောင်မှတ်သားခဲ့သည်။ မောင်အောင်သည် ပြန်လာမည့်ရက်ကို ကြိုတင်သိနေ၍ ဆရာတော်ရောက်မည့်နေရက်၌ ခြေဆေးရန် ခြေဆေးအိုးနှင့် ခြေသုတ်ပဝါတို့ကို ကြိုတင်စီမံထားသည်။ ဆရာ

တော်များသည် ပြန်ရောက်သောအခါ သူတို့ရခဲ့သော ကုသိုလ်အဖို့ကို မောင်အောင်တို့နှစ်ဦးစလုံးအား အမျှပေးဝေသောအခါ–''မောင်အောင် က တပည့်တော်ကတော့ အရှင်ဘုရားတို့နှင့်အတူ ဘုရားဖူးခဲ့ပြီဖြစ်၍ ဘကြီးလုံးကိုသာ အမျှပေးဝေပါ'' ဟု လျှောက်ထားပြီး သူ၏ပညာ စွမ်းဖြင့် ဆရာတော်များနှင့်အတူ ဘုရားဖူးခဲ့ပုံများကို ပြန်လည်လျှောက် ထားပြသည်။ မောင်အောင် ပြန်လည်လျှောက်ထားသော စကားများ သည် ထူးဆန်းလှ၍ ဆရာတော်သည် ကျန်ဦးပဉ္စင်း နှစ်ပါးတို့အား မောင်အောင်အား မျက်ခြည်မပြတ် စုံးစမ်းအကဲခတ်ရန် မှာကြားထား ရတော့သည်။

နောင်သောအခါ၌ မောင်အောင်၌ ကြေးပုရပိုက်တစ်ခု ရှိ ထားကြောင်း သိရှိသွား၍ ထိုပုရပိုက်ကို ဆရာတော်အား လှူရန် ပြောသောအခါ မောင်အောင်က အခုတော့ မလှူဒါန်းနိုင်သေး ကြောင်း၊ နောင်အခါ တပည့်တော်၏ ကိစ္စများပြီးမြောက်သောအခါ ဆရာတော်အား လှူဒါန်းပါမည်အကြောင်း နှုတ်ကတိပြု၍ လျှောက် ထားခဲ့သည်။

## စတုတ္ထအကြိမ် ပညာစမ်းသပ်ခြင်း

တစ်နေ့သောအခါ မောင်အောင် စဉ်းစားမိသည်မှာ လောက တွင် လူတွေနှင့် အလွန်နီးစပ်နေပြီး ယဉ်ကျေးရန် ခဲယဉ်းသော သတ္တဝါ မျိုးကား ကြီးကန်းများဖြစ်သည်။ ထို့အပြင် တစ်ကောင်နှင့်တစ်ကောင် ရန်ထောင်နေတတ်ပြီး အစားနှင့်ပတ်သက်လာလျှင် မာန်ဖီနေတတ် သော သတ္တဝါမျိုးကား ခွေးများဖြစ်သည်။ ထိုသတ္တဝါများကို သူ၏ ပညာစွမ်းဖြင့်ခေါ်၍ အစားအစာများ အတူတကွ ကျွေးမွေးရပါလျှင် သူ၏ပညာစွမ်းကို သိရမည်ဖြစ်သည်ဟု စဉ်းစားမိသည်။ ထို့ကြောင့်

ကြေးနီပုရပိုက်၌ ပါရှိသောနည်းနှင့် ဆေးကြိမ်လုံးတစ်လုံးကို စီရင်လျက် ဆရာတော်အား ခွေးဆွမ်းကြွေးလိုကြောင်း လျှောက်ထားခဲ့သည်။ ထိုအကြောင်းကို ဦးပဥ္စင်းနှစ်ပါးနှင့် အရပ်ထဲမှ အချို့ လူများသိသွားသောအခါ မောင်အောင်တစ်ယောက် စိတ်မနှံ့၍ ထင်ရာလျှောက်လုပ်နေပြီဟု အထင်ရောက်သူများပင် ရှိလာခဲ့သည်။ ထင်ကာမှထင် မောင်အောင်ကတော့ သူ့ဆောင်ရွက်စရာများကို ဆက်လက် ဆောင်ရွက်ခဲ့သည်။

မောင်အောင်သည် ရွှေပြည့်စင်ကုန်းအရှေ့ဘက်၊ လေးကျွန်းအောင်မြေဘုရားတည်ရာ ကုန်းတွင် မိုးပြဒယ်များ၊ ဆန်များ၊ ထင်းများကို တစ်ယောက်တည်းထမ်းလျက် သယ်ပိုးယူဆောင်နေသည်ကို လူအများက မြင်၍ မောင်အောင်လုပ်သမျှကို အရူးသဖွယ်ထားကာ စောင့်ကြည့်နေခဲ့ကြ၏။ နောက်နေ့မနက်ခင်း၌ ထင်းများကိုခွဲ၍ ခွေးစာများကို စတင်ကျိုချက်သည်။ အိုးများကို ခွင်ပေါ်တွင် တင်ထားနိုက် ဖျာကြမ်းများကို ရင်ပြင်တော်ပေါ်တွင် ခင်းထားလိုက်သည်။ ခွေးစာများ ကျက်သောအခါ ဖျာပေါ်တွင် အစုလိုက် အစုလိုက် ပုံထားပြီးနောက်– ကျေးရွာတစ်ခွင်ရှိ ခွေးများကို၊ မြို့တွင်း၊ မြို့ပြင်ရှိ ခွေးများအားလုံးကို ထမင်းစားလာကြရန် ပါးစပ်မှလည်း သူကိုယ်တိုင်ဖိတ်ကြားပြီး၊ လက်မှလည်း ဆေးကြိမ်လုံးဖြင့် ဖျာပေါ်တွင် တဖြန်းဖြန်းရိုက်၍ ခွေးများကို ဖိတ်ခေါ်ခဲ့သည်။ ခွေးများသည် မည်ကဲ့သို့ကြားကြသည်မသိ နီးဝေးဝန်းကျင်ရှိ ခွေးအို၊ ခွေးပိန်၊ ခွေးပေါက်မှစ၍ သားသည်ခွေးမိခင်များပါမကျန် မောင်အောင်ခေါ်ရာသို့ ရောက်လာခဲ့ကြသည်။ ရင်ပြင်တော်ကြီးတစ်ခုလုံး ခွေးများဖြင့် ပြည့်နေတော့၏။ မောင်အောင်က ကြင်ကြင်နာနာဖြင့်''ခွေးအပေါင်းတို့ စားကြ၊သောက်ကြပါ။ အချင်းချင်း ရန်မမူကြနဲ့။ မဟိန်းမဟောက်ကြနဲ့။ ဝအောင်စားပြီးရင် ကိုယ့်နေရာကို တိတ်တိတ်ဆိတ်ဆိတ်ပြန်ကြ'' ဟု ပြောဆိုလျက် လူများကို ကျွေးသကဲ့သို့ လိုက်ပွဲများပေး၍ အဝကျွေးမွေးခဲ့သည်။ ခွေးများသည် မောင်အောင်၏ အမိန့်အတိုင်း စည်းကမ်းရှိရှိ စားကြ၊ သောက်ကြပြီး သူတို့နေရာ အသီးသီးသို့ ပြန်ထွက်သွားခဲ့ကြသည်။ မောင်အောင်သည် စနစ်တကျရှိလှသော ခွေးများကို ကြည့်၍ ပီတိများ တဖွားဖွားဖြစ်နေခဲ့သည်။

မောင်အောင်၏သတင်းသည် ရှာနီးချုပ်စပ်မှတစ်ဆင့် တောင်တွင်းကြီးမြို့ဝန်မင်း မဟာသမိန္ဒောနားသို့ ပေါက်ကြားသွားခဲ့သည်။ ထိုအခါ မြို့ဝန်သည် ထီးနန်းကို လုပ်ကြံလုယူနိုင်သည့် ဤကဲ့သို့သော လူစွမ်းကောင်းမျိုး သူ့ဒေသ၌ ပေါ်ပေါက်လာသောကြောင့် သူမှာ တာဝန်ရှိနေ၍ မောင်အောင်နှင့်အတူ သူ၏မိဘများကို ဆင့်ခေါ်လိုက်သည်။ မောင်အောင်သည် စစ်ဆေးမေးမြန်းသည်များကို မှန်မှန်ကန်ကန်ပြောဆိုလျက် အစစ်ဆေးခံခဲ့သည်။ ထို့နောက် အဖြစ်အပျက်အားလုံးကို နေပြည်တော်သို့ သတင်းပို့ခဲ့သည်။ ထိုအခိုက် မောင်အောင်နှင့် မိဘများကို ခဏချုပ်နှောင်ထားလိုက်သည်။ ချုပ်နှောင်ခံနေရသော မောင်အောင်နှင့် မိဘများအား ဆရာတော်ဦးလက္ခဏ၏ မေတ္တာရပ်ခံချက်ကြောင့် အချုပ်မှ ခေတ္တလွှတ်ပေးလိုက်သည်။ နေပြည်တော်မှ အမိန့်တော်ပင် ပြန်မရသေး လူတချို့၏ ကုန်းစကားကြောင့် မြို့ဝန်မင်းသည် မောင်အောင်အား ပြန်လည်ဖမ်းဆီးပြန်သည်။ မောင်အောင်သည် မြို့ဝန်မင်းအား အကြိမ်ကြိမ်တောင်းပန်ခဲ့သည်။ သို့သော် တောင်းပန်၍မရခဲ့။ အကြောက်တရားဖြင့် အလုပ်လုပ်နေကြရသော တိုင်းပြည်၌ ပြည်သူတို့၏ စိတ်နေ စိတ်ထားများသည် အမုန်တရား၊ အကြင်နာတရားနှင့် စာနာမှု နှလုံးသားများဆိုသည်မှာ ရှိများမရှိကြပါလေစဟု စဉ်းစားမိတော့သည်။ မြို့ဝန်မင်းအား ဘယ်လိုပင်တောင်းပန် တောင်းပန် မရနိုင်တော့ပြီ ဖြစ်ကြောင်း အခြေအနေမှန်ကို သိလာသော မောင်အောင်သည် ထပ်ဖန် ပြန်လွှတ်

လာခိုက်တွင် မိဘများကိုပါခေါ်ဆောင်၍ အင်းရွာကြီးသို့ ရုပ်ဖျက်ကာ ပြောင်းရွှေ့လာခဲ့ကြပြီး၊ ထိုရွာ၌ နေထိုင်ခဲ့ကြသည်။ ထိုရွာ၌နေစဉ် မိဘများသည် မောင်အောင်အား ရွှေရောင်လျှံ ဘုရားအနီးတွင် သီတင်းသုံးနေသော ဆရာတော်ထံအပ်နှံ၍ ရှင်သာမဏေပြုပေးခဲ့သည်။ ထိုကျောင်း၌ သာမဏေဘဝနှင့်နေစဉ် သိုက်တူးသမားများ ဘုရား၏ အရှေ့ဘက်မှာရှိသော ရေကန်၏ အလယ်၌ ရွှေအိုးများရှိကြောင်း သိုက်ကျ၍ လာရောက်တူးဖော်ကြရာ သူတို့လိုချင်သော ရွှေအိုး၊ ငွေအိုးများကို ရရှိသွားခဲ့ကြသည်။ မောင်အောင်သည် သိုက်တူးသမားများ သိုက်တူးနေစဉ် ရပ်ကြည့်နေခဲ့သည်။ သိုက်တူးသမားများသည် ရွှေအိုး၊ ငွေအိုးများကို ရရှိသောအခါ တခြားဘာကိုမျှ စိတ်မဝင်စားနိုင်တော့ဘဲ ကျေကျေနပ်နပ်ကြီး ပြန်ထွက်သွားခဲ့ကြသည်။

## ဒုတိယအကြိမ် ပုရပိုက်ရရှိခြင်း

မောင်အောင်သည် အိုးများအောက်တွင်ရှိသော ကြေးနီပုရပိုက်တစ်ခုကို မြင်နေရ၍ သိုက်ဆရာများ ပြန်သွား၍ သွားရောက်တူးဖော်ရာ ဒုတိယအကြိမ် ပုရပိုက်တစ်ခုကို ထပ်မံရရှိခဲ့သည်။ ထို့နောက် ထိုပုရပိုက်ကိုယူပြီး ကျောင်းသို့ ပြန်လာခဲ့သည်။မောင်အောင်သည် ဒုတိယအကြိမ် ကြေးနီပုရပိုက်ကို ရရှိထားချိန်မှစ၍ ကျောင်းတွင် မနေတော့ပဲ ရွှေရောင်လျှံဘုရားအနီး တောထဲ၌သာ ထွက်ရပ်ပေါက်လမ်းစဉ်ကို ကြိုးကြိုးစားစား အားထုတ်လျက် အချိန်များကို ကုန်လွန်စေခဲ့သည်။ထိုကဲ့သို့ သူ့အလုပ်ကိုလုပ်လျှက် တောထဲ၌ ရုပ်ဖျောက်နေသော်လည်း ‘မင်းနားတစ်ထောင်’ဆိုသည့် စကားအတိုင်း မြို့ဝန်မင်း ကြားသိပြန်၍ မင်းမှုထမ်းများကို စေလွှတ်လျက်





မောင်အောင်အား ထပ်မံဖမ်းဆီးစေသည်။ မောင်အောင်ကို မတွေ့ရသောအခါ ဘုန်းတော်ကြီးထံ ဝင်ရောက်၍ မေးမြန်းလျှောက်ထားကြရာ ဘုန်တော်ကြီးက မောင်အောင်သည် ရာဇဝတ်မှုကို ကျူးလွန်သည့် အလုပ်မျိုးကို ဘယ်သောအခါကမှ မလုပ်ခဲ့ကြောင်းနှင့်၊ နိုင်ငံတော်ကို အန္တရာယ်ပြုမည့် လက္ခဏာမျိုးလည်း လုံးဝမရှိကြောင်း မိန့်ကြားတော်မူသော်လည်း မြို့ဝန်မင်း၏ အမိန့်အာဏာဖြင့် ဖမ်းရခြင်းဖြစ်ကြောင်း လျှောက်ထားကြသည်။ထို့နောက် ဘုန်းတော်ကြီးညွှန်ပြသော တောသို့ ဝင်ရောက်ရှာဖွေကြရာ မောင်အောင်ကို အစအနပင် မတွေ့ကြရပေ။ မောင်အောင်ကို မတွေ့ကြရ၍ မောင်အောင်၏ မိခင်ဖခင်တို့ကို ဖမ်းဆီးခေါ်ဆောင်သွားကြပြန်သည်။ ထိုသတင်းကို ဆရာတော်ကြားသိရ၍ ဆရာတော်သည် မြို့ဝန်မင်း၏အိမ်သို့ ကြွသွား၍ မောင်အောင်သည် မြို့ရွာနိုင်ငံကို ဘယ်တုန်းကမှ နှောက်ယှက်ခြင်း မပြုခဲ့ကြောင်း၊မည်သည့်အပြစ်ကိုမျှလည်း မကျူးလွန်ကြောင်း၊ ထို့ကြောင့် မောင်အောင့်မိဘများကို ပြန်လွှတ်ပေးသင့်ကြောင်းကို မိန့်ကြားသဖြင့် မြို့ဝန်မင်းက မောင်အောင်၏မိဘနှစ်ပါးကို ပြန်လွှတ်ပေးလိုက်သည်။

ဤနေရာ၌ စာရေးသူ၏စိတ်ကို ကြည်နူးစေနိုင်သော အကြောင်းအရာတစ်ခုကို ဆွေးနွေးတင်ပြလိုပါသည်။ ရှေးခေတ်ရှေးအခါက မိဘနှင့် သားသမီးများအကြား၊ ဆရာနှင့် တပည့်အကြား၊ ဆရာနှင့် ဒကာများအကြား ဆက်ဆံရေးများ၊ စောင့်ရှောက်မှုများသည် အတုယူဖို့ ကောင်းလှသည်။ အနစ်နာခံစိတ်၊ ကိုယ်ကျိုးစီးပွားကို စွန့်လွှတ်ရဲသောစိတ်၊ တပည့်များအပေါ် ဆရာများကထားသော မေတ္တာစိတ်ထား၊ ကြီးမားသောကရုဏာတရားများ၊ ဆရာက ဒကာဒကာမများအပေါ်မှာ ထားရှိသော စောင့်ရှောက်လိုသောစိတ်ထား၊ ကာကွယ်လိုသော စိတ်ဓာတ်များကို နှောင်းခေတ်လူများအတုယူဖို့ ကောင်းလှသည်။ ယနေ့ခေတ် ရဟန်းရှင်လူများ၏ စိတ်ဓာတ်များသည်

ကိုယ်ကျိုး ကိုယ့်စီးပွားများ ထိခိုက်နစ်နာသွားမည်ကို စိုးရွံ့နေကြသည်။ စကားကို တတ်တိုင်းပြောတတ်ကြသော်လည်း ထစ်ခနဲဆို ကိုယ်ကျိုး၊ ကိုယ်စီးပွားများ ပျက်မှာကို ကြောက်နေတတ်ကြသည်က များသည်။ အချင်းချင်းကာကွယ် စောင့်ရှောက်လိုသောစိတ်များ၊ ကိုယ်ကျိုးမဖက်သောစိတ်ထားများ ထားရှိရမည့်အစား စိုးရွံ့စိတ်များက လွှမ်းမိုးနေ၍ အကြောက်တရား အားကြီးနေတတ်ကြသည်။ ထို့ကြောင့် ရှေးခေတ်က ဆရာနှင့် တပည့်အကြား ထားရှိသောစိတ်ထား၊ ဆရာနှင့် ဒကာများအကြား ထားရှိသောစိတ်ထားများနှင့် အချင်းချင်း ကိုယ်ကျိုးစွန့်၍ စောင့်ရှောက်ခဲ့ပုံများကို နောင်းခေတ်လူတို့အတွက် ဤစာတမ်း၌ မှတ်တမ်းတင်ခဲ့ပါသည်။ သစ္စာတရားကို မြတ်နိုးတတ်၍ အမှန်တရားကို ဉာဏ်ဖြင့် ထွင်းဖောက်သိမြင်နိုင်ကြပါစေ။

## မောင်ဝိုင်းနှင့်တွေ့ခြင်း

မောင်အောင်သည် ရွှေရောင်လျှံစေတီအနီး တောထဲတွင် မနေတော့ဘဲ မိမိ၏ ဇာတိချက်ကြွေဖြစ်သော လက်ပံရည်ရွာသို့ ပြန်၍ ထိုရွာ၏အရှေ့ဘက်၌ရှိသော လက်ပံပင်ကြီးကို အမှီပြုပြီး ထွက်ရပ်ပေါက်လုပ်ငန်းများကို ဆက်လက်အားထုတ်ခဲ့သည်။ ထိုသို့အားထုတ်နေစဉ် မြန်မာနိုင်ငံအရပ်ရပ်ရှိ ဘုရားပုထိုး စေတီများကို ဖူးမြော်လိုသော ဆန္ဒများ တဖွားဖွား ဖြစ်ပေါ်နေသည်။ သူ့ဆန္ဒရှိသည့်အတိုင်း ဦးစွာပထမ ပြည်မြို့ရှိ ရွှေဆံတော်စေတီကို ဖူးမြော်ချင်၍ ပြည်မြို့သို့ ရောက်ရှိခဲ့သည်။ ရွှေဆံတော်ကုန်း တစ်ဝိုက်တွင် အတန်ကြာကြာ နေထိုင်၍ နိဗ္ဗိန္ဒတောတစ်ခွင်၌ လှည့်လည်ပြီး ထွက်ရပ်ပေါက်လုပ်ငန်းများကို ဆက်လက်ဆောင်ရွက်သည်။ ဘုရားပုထိုးများကို လှည့်လည်ဖူးမျှော်ရင်း အင်းတထောင်အရပ်သို့ ရောက်သွားခဲ့သည်။ ထိုအရပ်၌ နေစဉ် မောင်ဝိုင်း၊ မောင်မြတ်နှင့် တွေ့သည်။[၇၉] မောင်ဝိုင်းသည် အလောင်း မင်းတရားကြီး ဦးအောင်ဇေယျသား ဘိုးတော်ဦးဝိုင်း (၁၁၄၃–နှစ်တွင် ဘုရင်ဖြစ်လာသူ)ပင် ဖြစ်သည်။ ထိုအရပ်တွင် အတန်ကြာနေလာသောအခါ တစ်ယောက်အပေါ်တစ်ယောက် ခင်မင်မှုများ တိုးပွားလာခဲ့ကြပြီး၊ အခင်မင်ဆုံး သူငယ်ချင်းများ ဖြစ်သွားခဲ့ကြသည်။ ထို့နောက် မောင်ဝိုင်းသည် မောင်အောင်နှင့် မောင်မြတ်တို့အား နှုတ်ဆက်၍ 'တစ်ဦးကောင်းစားလျှင် တစ်ဦးက ကြည့်ရှုကြစတမ်း'ဟု ကတိကဝတ်ပြုလျက် သူ၏နေရပ်သို့ ပြန်သွားခဲ့ရသည်။ ထို့နောက် မောင်အောင်သည်လည်း ပြည်မြို့သို့ ပြန်လည်ရောက်လာခဲ့သည်။ ထို့နောက် ယခင်အခါကဲ့သို့ခွေးများကို ဖိတ်ကျွေးလိုစိတ်များ ဖြစ်ပေါ်ပြန်၍ မြို့ဝန်မင်းကို အကြောင်းကြားလိုက်ပြီး၊ တစ်ချိန်တည်းမှာပင် ဆန်များကိုလည်း ရောင်းချပေးပါရန် မေတ္တာရပ်ခံခဲ့သည်။တောင်တွင်းကြီးမြို့တုန်းက ခွေးများကိုကျွေးမွေးခဲ့သလို ပြည်မြို့၌လည်း စည်းကမ်းရှိရှိ ခွေးများကို ကျွေးမွေးနိုင်ခဲ့သည်။ ထူးဆန်းအံ့သြဖွယ် ဖြစ်ရပ်များကြောင့် မြို့ဝန်မင်းသည် နေပြည်တော်သို့ သတင်းများပို့ရတော့သည်။ ပြည်မြို့တွင် လူသူတော်တစ်ဦး၏ နေပုံ၊ ထိုင်ပုံနှင့်တကွ ခွေးများကို ဖိတ်၍ ကျွေးမွေးပုံအလုံးစုံကို ဘိုးတော်ဦးဝိုင်းအား လျှောက်ထားသံတော်ဦးတင်လိုက်သည်။

## မိဘများကို ပြည်မြို့သို့ရွှေ့ပြောင်းပေးခြင်း

မောင်အောင်သည် မိဘများအတွက် မြို့ဝန်မင်းထံမှ အိမ်

---

[၇၉] ဗိုလ်တာရာ(ရဲဘော်သုံးကျိပ်)၏ ကတိသစ္စာစာအုပ်၌ မောင်ဝိုင်းနှင့် မောင်အောင်တို့ စစ်ကိုင်းအရှေ့ပြင်ရှိ ထူပါရုံမင်းကျောင်းဆရာတော်ထံတွင် ကျောင်းသားငယ်များဘဝနှင့် စာပေများ သင်ကြားနေစဉ် တွေ့ကြသည်ဟု ဖော်ပြထားသည်။

နေရာကို တောင်း၍ အိမ်ဆောက်ပေးပြီး၊ ပြည်မြို့သို့ ပြောင်းရွှေ့နေထိုင်စေသည်။ ပြည်မြို့မှာ ချမ်းချမ်းသာသာဖြင့် နေထိုင်နေကြစဉ် နေပြည်တော်မှ ဘုရင်မင်းမြတ်၏အမိန့်အရ တပ်သားများသည် မောင်အောင်အား ဖမ်းဆီးရန် ရောက်လာကြသည်။ မောင်အောင်သည် ဘုရင်မင်းမြတ်၏ အမိန့်အရ ဖမ်းဆီးခြင်းကို တစ်စုံတစ်ရာ ငြင်းဆန်ခြင်းမပြုဘဲ 'သြော် . . သူငယ်ချင်း သစ္စာဖောက်ပြီကိုး' ဟုပြောဆိုလျက် အသာတကြည်ဖြင့်ပင် အဖမ်းခံလိုက်သည်။ မောင် အောင်အား ကျိုးဖြင့် အထပ်ထပ်တုပ်နှောင်လျက် လှေဖြင့် နေပြည်တော်သို့ ခေါ်ဆောင်သွားခဲ့ကြသည်။ နေပြည်တော်သို့ရောက်လျှင် ဘိုးတော်ဦးဝိုင်းသည် မြင်လျှင်မြင်ခြင်း အင်းတစ်ထောင်အရပ်၌ ကတိကဝတ်ပြုထားခဲ့သူဖြစ်ကြောင်းကို ချက်ချင်းသိလိုက်သည်။ သို့သော် ရာဇဂုဏ်မောက်နေတာကတစ်ကြောင်း၊ သူ့နန်း၊ သူ့စည်းစိမ်များ ဆုံးရှုံးသွားမှာကို ကြောက်ရွံ့နေမိတာကတစ်ကြောင်း စသော အကြောင်းကြောင်းများကြောင့် သူ၏ နန်းရပ်ထီးဖြူကို လုယူမည့်သူ ဟူသော ပုဒ်မ၊ နိုင်ငံတော်အား နှောင့်ယှက်ဖျက်ဆီး ပုန်ကန်ရန် စည်းရုံးသူဟူသော ပုဒ်မများတပ်လျက် နက်လှစွာသော တွင်းကိုတူး၍ မြေမြှုပ်သတ်စေဟု အမိန့်တော်ချမှတ်ခဲ့သည်။ ထို့ကြောင့် အာဏာသားများသည် တွင်းတူးပြီးသောအခါ မောင်အောင်ကို လက်ပြန်ကြိုးတုပ်လျက် တွင်းထဲချပြီး မြေဖို့သတ်ခဲ့ကြသည်။[၅၀] သို့သော် ကံအားလျော်စွာ မောင်အောင်မသေခဲ့ပေ။

မြေမြှုပ်သတ်ပြီးသောအခါ အာဏာသားတို့သည် ခေတ္တအပန်းများဖြေနေကြစဉ် မောင်အောင်သည် အာဏာသားများနောက်တွင် ရပ်လျက် 'ဘယ်လိုလဲ၊ ကိစ္စပြီးပြီလား' ဟု မေးသံကြား၍ လှည့်ကြည့်လိုက်ကြရာ မောင်အောင်ကို တွေ့လိုက်ကြရ၍ အကြီးအကျယ် အံ့အားသင့်၊ တုန်လှုပ်ချောက်ချားသွားခဲ့ကြသည်။ အာဏာသားများသည် မောင်အောင်ကို ပြန်ဖမ်းပြီး သစ်တုံးတွင် အခေါင်းထွင်း၍ မောင်အောင်ကို ထိုသစ်ခေါင်းထဲသို့ထည့်ပြီး မယ်နန့်ကျ၍ အလုံပိတ်လိုက်သည်။ ထိုနောက် ထိုသစ်တုံးကြီးကို ဟုန်းဟုန်းတောက်နေသော မီးပုံထဲသို့ထည့်၍ မီးရှို့လိုက်ကြသည်။ အာဏာသားများသည် သစ်တုံးကြီးကို တဖြည်းဖြည်းမီးလောင်၍ မီးများငြိမ်းသွားသည်အထိ စောင့်ကြည့်နေခဲ့ကြ၏။ သစ်တုံးကြီး လုံးဝနီးနီး မီးလောင်ပြီးသောအခါ ဒီတစ်ခါတော့ ဘာတတ်နိုင်သေးလဲဟူသော အမြင်ဖြင့် အာဏာသားများသည် ဆုလာဘ်ကို မျှော်လင့်လျက် ဝမ်းသာနေကြစဉ် 'ကျုပ်ဒီမှာပါ' ဟု အသံကြား၍ လှည့်ကြည့်လိုက်ကြရာ မောင်အောင်ဖြစ်နေ၍ အကြီးအကျယ် ထိတ်လန့်ကြောက်ရွံ့သွားကြသည်။ မောင်အောင်၏ အစွမ်းကို သိမြင်ကြရ၍ နောက်ထပ်လည်း ပြန်မဖမ်းဝံ့၊ သတ်ရန်လည်း မကြိုးစားဝံ့တော့ဘဲ မင်းကြီးထံသို့ အမြန်ရွှေနားတော်ကြား သံတော်ဦးတင် လျှောက်ထားလိုက်ကြသည်။မင်းကြီးသည် ဤသို့ဖြစ်လာသော အခြေအနေများကြောင့် မင်းမှုထမ်းများသည်ပင် သူ၏တန်ခိုးပါဝါကို အထင်သေးလာနိုင်၍ အကြံထုတ်တော့သည်။ 'ဒင်းက တန်ခိုးရှိပေမဲ့ ဒင်းရဲ့မိဘတွေကတော့ တန်ခိုးမရှိနိုင်ပါဘူး' ဟု အကြံရပြီး မောင်အောင်၏ မိဘများကို ဖမ်းဆီး၍ ရေတော်သွင်းစေဟု အမိန့်ထုတ်ခဲ့သည်။ ထိုအကြောင်းကို ဘိုးတော်ဘုရား၏ မြေးတော် ဆင်ဖြူမယ်ကြား၍ အပြစ်မဲ့သောသူများအား အန္တရာယ်ပြုသော် လောကသံသရာ၌ မကောင်းကြောင်း၊ အကယ်၍ မောင်အောင်ကို ဆက်လက်အန္တရာယ်ပြုပါက မောင်အောင်သည် သည်းမခံနိုင်လောက်အောင် ဖြစ်လာခဲ့သော် ရန်တွေ ပိုများလာနိုင်ကြောင်း၊ပြည်ပအန္တရာယ်များကလည်း တဖြည်းဖြည်းကြီးထွားလာနေ၍ ထိုအန္တရာယ်များကို

[၅၀] ဆရာဦးဖေခင်၊ ဘိုးဘိုးအောင်နှင့်ကျင့်စဉ်၊ နာ ၅၁။


အပ္ပမာဒတစ်

လည်း မေ့ထားလို့ မရနိုင်သေးကြောင်း၊ သို့ဖြစ်ပါ၍ ဆင်ခြင်တော်မူသင့်ပါကြောင်း လျှောက်ထားသည်။ ထိုအခါမှ မင်းကြီး (ဘိုးတော်ဦးဝိုင်း)သည် သတိကြီးစွာရပြီး မောင်အောင်၏ မိဘများအား ဖမ်းရန် အမိန့်ကို ပြန်၍ရုပ်သိမ်းခဲ့သည်။ မောင်အောင်ကိုလည်း အသာတကြည် မေးမြန်းရန် ရှေ့တော်သို့ သွင်းစေခဲ့သည်။

ရှေ့တော်သို့ရောက်လျှင် မောင်အောင်၏ စိတ်နေစိတ်ထားနှင့် သူ၏ဦးတည်ချက်များကို မေးတော်မူသည်။ ဤသို့အမေးရှိလာသောအခါ မောင်အောင်သည် ရဲရင့်ပြတ်သား တည်ငြိမ်သောစိတ်ထားဖြင့် မင်းကြီးအား ဖြေကြားတော်မူသည်။ 'အရှင်မင်းကြီး. . အရှင်မင်းကြီးဟာ တစ်စုံတစ်ခုကို ပြုလုပ်လိုလျှင် သေချာစွာစူးစမ်းပြီးမှ ဆုံးဖြတ်သင့်သည်။ အရှင်မင်းကြီးဟာ အင်းတစ်ထောင်အရပ်မှာထားခဲ့တဲ့ ကတိသစ္စာကို စတင်ချိုးဖောက်သူ ဖြစ်တယ်။ အရှင်မင်းကြီးဟာ ကျွန်ုပ်ကို အရှင်မင်းကြီးရဲ့စည်းစိမ်ကို လုယူလိမ့်မယ်လို့ စိုးရိမ်ပူပန်နေတာဟာ လုံးဝကို မှားနေတယ်။ ကျုပ်ဟာ အကယ်၍သာ မင်းစည်းစိမ်မျိုးကို တကယ်လိုချင်တယ်ဆိုရင် ဟောဒီမှာကြည့်ပါ' ဆိုပြီး လက်ဖြောက်တီး၍ လက်ညှိုးကို ညွှန်ပြလိုက်ရာ နန်းရင်ပြင်ကြီး တစ်ပြင်လုံး စစ်သည်တော်တွေ လက်နက်များကို ကိုင်စွဲထားကြလျက် ဝိုင်းရံနေကြသည်ကို မြင်တွေ့လိုက်သည်။ ထူးခြားနေသည်မှာ ထိုစစ်သည်တော်တွေအားလုံးသည် မောင်အောင်မျက်နှာနှင့် တူနေကြခြင်းပင်ဖြစ်သည်။ ရှင်ဘုရင်ကြီး အကြီးအကျယ် တုန်လှုပ်ချောက်ချားသွားသည်။ 'အရှင်မင်းကြီး. . မစိုးရိမ်ပါနဲ့၊ ကျုပ်အစွမ်းကို အရှင်မင်းကြီး သိအောင်သာ ပြခြင်းဖြစ်ပါတယ်' ဟု ပြောဆိုပြီး လက်ကိုဝှေ့ရမ်းလိုက်ရာ စစ်သည်တော်များ အားလုံးပျောက်ကွယ်သွားသည်။

ဝလုံးပေါင်း ထောင်သောင်းကုဋေ

မောင်အောင်က ဆက်၍ပြောကြားသည်။ ''အရှင်မင်းကြီးသည် ကျွန်ုပ်ကို မနာလိုသောစိတ်ဖြင့် ဖျောက်ဖျက်ပစ်ဖို့ သတ်ပစ်ဖို့နေနေသာသာ ကျုပ်ရေးတဲ့ အက္ခရာတစ်လုံးကိုပဲ ပျောက်ပျက်အောင် ဖျောက်ဖျက်ကြည့်စမ်းပါ'' ဟု ပြောကြားလျက် နန်းရင်ပြင်ပေါ်တွင် မောင်အောင်က လက်နှင့်ဝိုက်၍ ညွှန်လိုက်ရာ ဝလုံးတစ်လုံး ပေါ်လာသည်။ ထိုအခါ ဘိုးတော်ဦးဝိုင်းသည် မှူးမတ်ဗိုလ်ပါများရှေ့တွင် ရှက်နိုးလှုပြီး 'ဒီ'ဝ'လုံးလောက်တော့ ပွတ်တိုက်ဖျက်ရင် ပျက်ရမှာပေါ့' ဟူသော အတွေးဖြင့် ဝလုံးကို ခြေဖဝါးဖြင့် ဖိနင်းလျက် ကြိုးစား၍ ပွတ်တိုက်ဖျက်ပစ်သည်။ ထိုအခါ မူလက ဝလုံးတစ်လုံးသည် နှစ်လုံးဖြစ်လာသည်။ နှစ်လုံးကို ခြေဖြင့်ပွတ်တိုက်ဖျက်နေစဉ် နောက်ထပ်ဝလုံး လေးလုံးဖြစ်လာသည်။ ရှင်ဘုရင်ကြီးသည် ရှက်ရှက်နှင့် ဝလုံးများကို လိုက်၍ ဖျက်နေရာ တစ်လုံးတစ်လုံးကို ဖျက်တိုင်းဖျက်တိုင်း ဝလုံးများ ထပ်ဆင့်တိုး၍ တိုး၍ ပေါ်နေသဖြင့် နန်းတော်ကြီးတစ်ခုလုံး ဝအက္ခရာတွေချည်း ဖြစ်နေတော့သည်။ ဘိုးတော်ဦးဝိုင်းသည် နောင်တကြီးစွာရကာ 'မောင်အောင်. . မင်းကို ပြစ်မှားမိတာ မှားပါတယ်၊ ငါ့ကို ခွင့်လွှတ်ပါ၊ မင်းကို ငါနောက်ထပ် ဘာအနှောက်အယှက်မျှ မပေးတော့ပါဘူး၊ ငါ့ကိုလည်း အနှောက်အယှက်မပေးဘူးဆိုတာ ငါယုံပါပြီ၊ မင်းအလိုရှိရာကိုသာ တောင်းပေတော့'ဟု တောင်းတောင်းပန်ပန် ပြောကြားလိုက်ရာ ဝလုံးများအားလုံး တစ်ခဏချင်းပျောက်ကွယ်သွားခဲ့သည်။

ထိုအခါက မောင်အောင်က ''အရှင်မင်းကြီး၊ အရှင်မင်းကြီးဟာ ကိုယ့်အမှားကို သိနားလည်လာတဲ့အတွက် ကျွန်ုပ်ခွင့်လွှတ်ပါတယ်၊ အရှင်မင်းကြီးဟာ ထီးနန်းစည်းစိမ်နှင့် အာဏာပါဝါကို တပ်မက်နေမှုကြောင့် မလုပ်သင့်တာတွေကို လုပ်လို့ အကုသိုလ်တရား

တွေ များလုပြီ။ ခင်ပွန်းကြီးဆယ်ပါးကိုလည်း အကြိမ်ကြိမ်အဖန်ဖန် ပြစ်မှားခဲ့ပြီ။ ထိုအပြစ်များအတွက် သက်သာခွင့်များ ရရှိနိုင်ရန် သာသနာပြုလုပ်ငန်းများကို လုပ်ဆောင်ပါ။ တိုင်းသူပြည်သားများကို အခွန်ဘဏ္ဍာလျှော့ပေါ့ကောက်ခံပါ။ အရှင်မင်းကြီးအား ရွှေဖြစ်၊ ငွေဖြစ်လောကီပညာရပ်အချို့ကို သင်ကြားပေးခဲ့မယ်'' ဟု ပြောဆို မှာကြားခဲ့သည်။[၅၁] ထို့နောက် ညောင်ရမ်းမင်းသားဟု အများက သိထားသော စကြာမင်းလေး၏မယ်တော် (ဘိုးတော်၏မြေး) စကြာမယ်ကို ကျေးဇူးတင်စကားများ ပြောခဲ့သည်။နောက်ဆုံးတွင် ဘိုးတော်ဦးဝိုင်းကို နှုတ်ဆက်လျက် စစ်ကိုင်းဘက်၌ ရဟန်းဝတ်နေသော မောင်မြတ် (အင်းတစ်ထောင် အရပ်၌နေစဉ် ကတိကဝတ်ပြုခဲ့သူ ငယ်သူငယ်ချင်း) ထံသို့ သွားမည်ဟုပြောဆိုကာ နန်းတော်တွင်းမှ ထွက်ခွါသွားတော့ သည်။ထိုအချိန်မှစ၍ မောင်အောင်ခေါ် ဘိုးဘိုးအောင်၏ အကြောင်းကို မည်သူမျှ တိတိကျကျ မသိရတော့ပေ။[၅၂]

ဤသည့်ဖြစ်ရပ်များကို ကောက်ချက်ချကြည့်ရလျှင် အဲဒီ

---

[၅၁] နောင်သောအခါတွင် ဘိုးတော်ဦးဝိုင်းအား ရွှေဘိုအရပ်တွင် ခေါ်၍ ရွှေဖြစ်၊ ငွေဖြစ်နည်း အတတ်ပညာကို ပေးခဲ့သည်ဟု မှတ်သားရဖူးသည်၊ ဆရာကြီး အရိန္ဒမာ၊ မဟိဒ္ဓိ ပုဂ္ဂိုလ်ထူး များ၏ အံ့ဖွယ်ဖြစ်ရပ်ဆန်းများ၊ နာ ၁၉၂၊

[၅၂] နောင်အခါများတွင် ဘိုးဘိုးအောင်၏အကြောင်း ကောလာဟလသတင်းများ ထွက်ပေါ်လာ သည်ကို ကြားကြသည်။ဘိုးတော်ဦးဝိုင်း နတ်ရွာစံပြီးနောက် စစ်ကိုင်းမင်းခေါ် ဘကြီးတော်မင်း (၁၁၈၁ - ၈၈) နန်းတက်ခဲ့သည်၊ ထိုမင်းလက်ထက်တွင် ပဋ္ဌမသင်္ဂါယနာတင် မင်းတုန်းမင်း ကြီး လောင်းလျာ စကြာမင်းလေး ပုန်ကန်မှုတွင် ပါဝင်ကြောင်း နန်းမတော်မယ်နု၏ ကုန်းစကား ကြောင့် စကြာမင်းကို ကတ္တီပါအိတ်တွင်ထည့်၍ ရွှေကြိုးဖြင့် (၂၅)ပတ်ချည်နှောင်၍ နေဝင်ချိန် တွင် လှေဖြင့် မြစ်လယ်သို့ သယ်ယူကာ အိတ်ကိုရေတွင် ပစ်ချသောအခါ တမိုးလုံး ချက်ချင်း အုံ့ဆိုင်းလာကာ လျှပ်စီးများလက်လျက် မိုးမှန်တိုင်းကြီးကျလာပြီး စကြာမင်းလေးကို ဘိုးဘိုး အောင် လာရောက်ကယ်ခဲ့သည်ဟု သမိုင်းမှတ်တမ်းများက ဆိုသည်၊ ဆရာဦးဖေခင်၊ ဘိုးဘိုးအောင်နှင့်ကျင့်စဉ်၊ နာ ၇၃ - ၈၄၊





ခေတ်၊ အဲဒီအခါက ဓာတ်ပုံပညာများ ပေါ်ပေါက်လာဟန် မရှိသေး၍ ဘိုးဘိုးအောင်၏ဓာတ်ပုံကို မည်သူမျှ ရိုက်ယူထားခြင်း၊ ပုံတူရေးဆွဲ ယူထားခြင်းများ ရှိခဲ့ဟန် မတူပါ။ သို့သော် ဘုရားစင်ပေါ်၌ တွေ့ရှိနေရ သော ဘိုးဘိုးအောင်၏ ပုံသည်လည်းကောင်း၊ထွက်ရပ်ပေါက်ပုဂ္ဂိုလ်များ တစ်စုတစ်ပေါင်းတည်း၊ တစ်နေရာတည်း၌ တွေ့ကြစဉ် စုပေါင်း၍ ဓာတ်ပုံရိုက်ယူထားသယောင်ယောင်ပြုလုပ်ထားသော ထွက်ရပ်ပေါက် ဘိုးတော်၊ဝိဇ္ဇာများတွင် ရဟန်းနှင့် လူပုဂ္ဂိုလ်များစုစုပေါင်းမှာ (၃၄)ဦး (ရွှေတိဂုံစောင်းတန်း၌ ထိုပုံများကို ဝယ်ယူရရှိနိုင်သည်)၏ ဓာတ်ပုံ များသည်လည်းကောင်း ဓာတ်ပုံပညာဖြင့် ကင်မရာလှည့်စားမှု(Camara trick) ပြုလုပ်၍ ဓာတ်ပုံပညာရှင်များ၏ အနုပညာဖြင့် ဖန်တီးထား သောပုံများသာ ဖြစ်ပေလိမ့်မည်။ ဘဝနတ်ထံ (သို့မဟုတ်) ဘဝ တစ်ပါးသို့ ပြောင်းသွားကြသောပုဂ္ဂိုလ်များ အချင်းချင်းပြန်လည် ဆုံတွေ့နိုင်ကြဖို့ဆိုသည်မှာ သဘာဝလွန်စိတ်ကူးများသာ ဖြစ်နိုင်ချေ ရှိသည်။ သို့သော် ဘိုးဘိုးအောင်၏ ပုံရိပ်သွင်ကမူ ဘိုးတော်၊ဝိဇ္ဇာတို့ကို ကိုးကွယ်နေသူ ပြည်သူတို့၏ နှစ်လုံးသား၌ ထင်ကျန်နေသည့် သဘောမျိုးမှာ ရှိနေဆဲဖြစ်ပါသည်။ အောက်၌ ဖော်ပြလတ္တံ့ဖြစ်သော ဘိုးဘိုးအောင်၏ ပုံရိပ်သဏ္ဌာန်သည် ပင်ကိုယ်မူလပုံပန်းသဏ္ဌာန်ပင် ဖြစ်လေမလား။ (သို့မဟုတ်) ဖြစ်နိုင်ခြေရှိသည်ကို စိတ်ကူးဖြင့် ပုံဖော်၍ထားခြင်းမျိုးလော ပညာရှင်များ ဆင်ခြင်စဉ်စားကြပါလေ။

ဘိုးဘိုးအောင်သည် အသားအရေနုပျိုလန်းဆန်းသည်။ အင်္ဂါ ရုပ်မှာ လေးနက်တည်ကြည်၍ ပြုံးသယောင်အမြဲဆောင် သည်။ မှတ်ဆိတ်အတန်အသင့်ရှည်၍ ဆံပင်ကိုဆုပ်ကာ အဝတ်ဖြူပေါင်းထားလေ့ရှိသည်။ ဝတ်ဖြူစင်ကြယ်ကိုသာ အမြဲဝတ်၍ ပုခုံးတွင် အဝတ်ဖြူတဘက်ကို တင်ထားလေ့ရှိ၍

ဆေးတောင်ဝှေးကိုလည်း ဆောင်ထားသည်။ လက်တစ်ဖက်တွင် စိတ်ပုတီးကို ကိုင်ထားသည်။[၅၃]

ဘိုးဘိုးအောင် ထွက်ခွာသွားပြီးနောက် ဘိုးတော်ဦးဝိုင်းသည် သူငယ်ချင်းကောင်း မောင်အောင်အတွက် တွေးမိတိုင်း စိတ်မကောင်းဖြစ်ရသည်။ ထို့ကြောင့် မောင်အောင် မှာကြားခဲ့သည့်အတိုင်း စေတီပုထိုးများစွာကို တည်ထားကိုးကွယ်ခြင်း၊ မြို့ပေါင်း (၅၆)မြို့သို့ ပိဋကတ်တော်တစ်စုံစီနှင့် သံဃာတော်ငါးပါးစီကို စေလွှတ်၍ သာသနာပြုခြင်း၊ ရောဝတီမြစ်အနောက်ဘက်ရှိ မင်းကွန်းဒေသတွင် မင်းကွန်းပုထိုးစေတီကြီးနှင့် မင်းကွန်းခေါင်းလောင်းကြီးတို့ကို သွန်းလောင်း၍ ကုသိုလ်ပြုခြင်း၊ ပဲခူး ရွှေမော်ဓောစေတီတော်ကြီး သပိတ်မှောက်အောက်အထိ ပြိုပျက်နေရာ မဟာသီဟသူရအား စေလွှတ်၍ ပြုပြင်စေခြင်း၊ မြန်မာနိုင်ငံအရပ်ရပ်ရှိ ပြိုကျပျက်စီးနေသော စေတီပုထိုးများကို ပြုပြင်ခြင်း၊ ကြာမြင့်စွာ အငြင်းအခုံဖြစ်နေသော အတင်ဂိုဏ်း၊ အရုံဂိုဏ်းကို ငြိမ်းအေးစေ၍ အရုံဂိုဏ်းကို လက်ခံတော်မူကာ သာသနာတော်ကို ညီညွတ်စေခဲ့ခြင်း စသော ကုသိုလ်ကောင်းမှုများစွာကို ဆည်းပူးအားထုတ်ခဲ့သည်။[၅၄]

ဤသည်မှာ ဘိုးဘိုးအောင်၏ ဘဝမှတ်တမ်းအကျဉ်းချုပ်ဖြစ်သည်။ ဘိုးဘိုးအောင်နှင့်ပတ်သက်၍ အားကျစရာတွေ၊ အတုယူစရာတွေ၊ စဉ်းစားဆင်ခြင်စရာတွေ၊ ဆွေးနွေးစရာတွေ များစွာရှိနေပါသည်။ ဘိုးဘိုးအောင်သည် ထွက်ရပ်ပေါက်ပုဂ္ဂိုလ်ဖြစ်သည်၊ မဖြစ်သည်ဟု မည်သူမျှ တိတိကျကျသက်သေမပြနိုင်ပေ။ သို့သော်

[၅၃] ဆရာဦးဖေခင်၊ ဘိုးဘိုးအောင်နှင့်ကျင့်စဉ်၊ နှာ ၁၀၁-၁၀၂။

[၅၄] ဆရာဦးဖေခင်၊ ဘိုးဘိုးအောင်နှင့်ကျင့်စဉ်၊ နှာ ၅၈-၅၉။





ဘိုးဘိုးအောင်၏ အင်းစမအတတ်ပညာများ၊ လောကီဝိဇ္ဇာတန်ခိုးများကိုမူ အထူးယုံကြည်နေကြ၍ ယုံကြည်မှုများဖြင့်သာ ဘိုးဘိုးအောင်ကို ထွက်ရပ်ပေါက်ပုဂ္ဂိုလ်ကြီးဟု ပြောဆိုနေကြခြင်း ဖြစ်ဟန်တူသည်။ ‘ထွက်ရပ်ပေါက်’ဟု လူအများ လက်ခံထားသောနည်းမှာ နှစ်နည်းရှိသည်။ (၁) ထွက်ရပ်ပေါက်လမ်းကို အားထုတ်သဖြင့် ထွက်ရပ်ပေါက်ရာ၌ ရုပ်ကို ပြောင်းစေပြီး နာမ်အားဖြင့် ထွက်ခြင်း၊ (၂) အချို့သော ထွက်ရပ်ပေါက်ပုဂ္ဂိုလ်တို့မှာ ရုပ်ကို မပြောင်းဘဲ မူလရုပ်အတိုင်း ထွက်ခြင်းဟူ၍ ထွက်ခြင်းနှစ်မျိုးရှိရာ ဘိုးဘိုးအောင်သည် ဘယ်နည်းဖြင့် ထွက်သည်ဆိုတာမူ အတိအကျပြောနိုင်သူ မရှိပေ။ သို့ရာတွင် ဘိုးဘိုးအောင်သည် အင်းစမအတတ်၊ လောကီသိဒ္ဓိတန်ခိုးများ ရခဲ့သည်ဆိုသည့်အချက်ကိုမူ မည်သူမျှငြင်းမည် မဟုတ်ပေ။ ဆိုခဲ့ပြီးသော အကြောင်းတို့ကို ထောက်ရှု၍ ဘိုးဘိုးအောင်အသက်သည် ဆက်လက်တည်ရှိနေသည်ဆိုသည့် အချက်၌ အားနည်းချက်များ ရှိနေသည်။ အကြောင်းမှာ ဘိုးဘိုးအောင်ကိုယ်တိုင် ပြောဆိုသယောင် ရေးထားသော‘ဘိုးဘိုးအောင်နှင့်ကျင့်စဉ်’စာအုပ်၌ အောက်ပါမှတ်တမ်းမျိုးကို ဆန်းစစ်ကြည့်နိုင်သည်။ ဥပမာ- ဘိုးဘိုးအောင်ကိုယ်တိုင် မင်းတုန်းမင်းကြီးအား ပြောသော စကားအရ -

“ကျွန်ုပ်ကား ထွက်ရပ်ပေါက်ပုဂ္ဂိုလ်ဖြစ်သည်။ သင်မင်းကြီး၏ ဘေးတော်ဖြစ်သော မောင်ဝိုင်း၏ လက်ထက်ကတည်းက ထွက်ရပ်ပေါက်ခဲ့ပြီး သာသနာပြုမင်းများကို အမြဲကူညီလာခဲ့သည်။ သာသနာပြုမည့်သူကိုလည်း အမြဲတစေရှာဖွေနေခဲ့သည်”ဟူသော စကားတစ်ရပ်။[၅၅]

“ဘိုးဘိုးအောင်သည် အကျင့်သီလနှင့်ပြည့်စုံ၍ သာသနာ

[၅၅] ဆရာဦးဖေခင်၊ ဘိုးဘိုးအောင်နှင့်ကျင့်စဉ်၊ နှာ ၉၆။

တော်ကို စောင့်ရှောက် ချီးမြှင့်သူများကို မကြာခဏ ကူညီလေ့ရှိရုံမက လူသူတော်အသွင်ဖြင့် ကိုယ်ထင်ပြလေ့ရှိသည်''ဟူသော စကားတစ်ရပ်။[၅၆]

''ဘိုးဘိုးအောင်သည် လူသတ္တဝါများ ဒုက္ခရောက်မည့်အခါမျိုးတွင် ပေါ်လာ၍ မည်သို့ကာကွယ် တားဆီးရမည်ကို ပထမံ ပညာဖြင့် ညွှန်ကြားလေ့ရှိသည်။ စစ်ဘေး စစ်ဒဏ်နီးကပ်သည့် အခါမျိုးတွင် စမအင်းများ သောက်ရန်ကိုဖြစ်စေ၊ ဂုဏ်တော်ပုတီး ကိုးခေါက်အဓိဋ္ဌာန်၍ နေ့စဉ်စိတ်ရန်ကိုဖြစ်စေ၊ တရားရှိသော ပုဂ္ဂိုလ်များမှတစ်ဆင့် တစ်နိုင်ငံလုံးနှိုးဆော်၍ လိုက်နာစေသည်'' ဟူသော စကားတစ်ရပ်၊[၅၇]

ဤစကားရပ်တို့ကို ထောက်ထား၍ ဘိုးဘိုးအောင် အသက်ထင်ရှားရှိနိုင်၊ မရှိနိုင် ဉာဏ်နှင့်ယှဉ်၍ ဆင်ခြင်သုံးသပ်တတ်ဖို့သာ လိုပေတော့မည်။

'ဘိုးဘိုးအောင်သည် လူသတ္တဝါများ ဒုက္ခရောက်မည့်အခါမျိုးတွင် ပေါ်လာသည်'ဟု အဆိုရှိခဲ့သော်လည်း မြန်မာပြည်၌ အကြပ်အတည်းဘေးများ၊ ဆင်းရဲခြင်း ဘေးဒုက္ခများနှင့် ကြုံတွေ့ခဲ့ရသည့် ရဟန်းရှင်၊ လူ ပြည်သူများအား ဘိုးဘိုးအောင်သည် ကယ်မခြင်းမပြုသည်ကိုထောက်ရှု၍လည်းကောင်း လုံးလုံးလျားလျား ပျောက်ကွယ်နေပုံကို ထောက်ရှုသောအားဖြင့်လည်းကောင်း ဘိုးဘိုးအောင် အသက်ထင်ရှားမရှိတော့သည်မှာ သေချာလှသည်။ဘေးဒုက္ခမျိုး ဆိုသည်မှာ ၂၀၀၀–ခုနှစ်က မြန်မာပြည်အောက်ပိုင်း၌ တိုက်ခတ်သွား

---

[၅၆] ဆရာဦးဖေခင်၊ ဘိုးဘိုးအောင်နှင့် ကျင့်စဉ်၊ နှာ ၉၉။

[၅၇] ဆရာဦးဖေခင်၊ ဘိုးဘိုးအောင်နှင့် ကျင့်စဉ်၊ နှာ ၁၀၃။





သော နာဂစ်လေဘေးကဲ့သို့သော သမိုင်းတွင်သည့် လေဘေးဒုက္ခမျိုးကို ဆိုလိုသည်။) ဘိုးဘိုးအောင် သေလွန်ပြီး၍ နတ်ပြည်နတ်နန်း၊ ဗြဟ္မာ့ပြည် ဗြဟ္မာ့နန်းသို့ ရောက်နေပြီလော။ လူ့ပြည်၌ပင် ပြန်လာ၍ လူပဲ ပြန်ဖြစ်နေပြီလော စသည် စသည်ဖြင့် ဝေခွဲမရနိုင်ပြီ။ အသိတရား၊ သတိတရားများဖြင့် ကိုးကွယ်ရာအစစ်၊ ကိုးကွယ်ရာအမှန်ကို ရှာဖွေတွေ့ရှိနိုင်ကြပါစေ။

မြန်မာတို့၏ နှလုံးသားသည် ကိုးကွယ်မှုဘာသာတရား၌ အကြောက်တရားများဖြင့် အခြေခံထားခဲ့ကြရ၍ တချို့ကိစ္စများ၌ မှန်သည်ကိုပင် မှန်သည်ဟု ပြောဆိုရန် ဝန်လေးနေတတ်ကြသည်။ မှားတာကို မှားတယ်လို့ ပြောဆိုရဲဖို့ဆိုသည်မှာ အထူးပြောဖွယ်ရာမလိုပြီ။ တန်ခိုးပါဝါများရှိသည်ဟု ယုံကြည်ထားကြသော လောကီဝိဇ္ဇာများ၊ တန်ခိုးရှင်များနှင့် ဘိုးတော်၊ဝိဇ္ဇာများ၏ သဘောသဘာဝများ၊ မြတ်ဗုဒ္ဓဟောကြားခဲ့သော သင်္ခါရသဘောတရားတို့၏ သဘောသဘာဝများကို သုံးသပ်ဆင်ခြင်၍ ဉာဏ်ဖြင့် ဝေဖန်ထောက်ရှုတတ်ဖို့ လိုပါသည်။ အယူမှားကို လက်ခံယုံကြည်ထားခြင်း၊ သိက္ခာ စသော တန်ခိုးစွမ်းပကား အလွန်ကြီးမားကြသော အရိယာဝိဇ္ဇာများ၊ အရိယာအသွင်ကိုဆောင်နိုင်အောင် ကြိုးစားနေကြသော သမ္မုတိဂိုဏ်းဝင် ကျင့်ဆဲပုဂ္ဂိုလ်များအား ကိုယ်၊ နှုတ်၊ စိတ်သုံးပါးဖြင့် ထိပါးပုတ်ခတ်လျက် ပြစ်မှားကျူးလွန်ရဲခြင်းစသော အခြေအနေများသည် ကိုးကွယ်ရာစစ်၊ ကိုးကွယ်ရာမှန်ကို နားမလည်နိုင်ကြ၍ မြန်မာပြည်သူတို့အတွက် ဘာသာရေးအန္တရာယ် အခြေအနေဆိုးများဆီသို့ ရောက်မှန်းမသိရောက်ခဲ့ရသည်။ ပုထုဇဉ်တို့၏ အဝိဇ္ဇာခေတ်ခံသည် ထူထဲလွန်ကဲလွန်းလှ၍ အမှောင်သံသရာထဲ၌ ကြာရှည်စွာ ဆင်းရဲပင်ပန်းစွာဖြင့် ကျင်လည်ကြပေဦးတော့မည်တကားဟု ဆင်ခြင်သုံးသပ်လျက် သံဝေဂတရားများ ဖြစ်ပွားမိသည်။ သံဝေဂတရားများ ဖြစ်ပွားနိုင်ကြ

ပါစေ။

ထို့ကြောင့်'အုတ်အရောရော၊ ကျောက်အရောရော'ဖြစ်နေသော ဘုရားသာသနာတော်ကို ညှိုးနွမ်းစေနိုင်သော ဘေးရန်များကို ရှုလျက် ခေတ်သစ် 'ဘိုးတော်ကြီး' များကို ကိုးကွယ်ရာအစစ်ဟု အထင်မှား၍ ကိုးကွယ်မှုများနှင့် ရတနာသုံးပါးကို ကိုးကွယ်မှုများအကြား ရောရော ထွေးထွေးမဖြစ်စေရန် ရည်သန်၍ ဤစာတန်းကို ရေးသားပြုစုပါသည်။ မြတ်ဗုဒ္ဓ၏ အဆုံးအမကို ကောင်းစွာကျန ရရှိထားကြသူများသည် သူတော်ကောင်းများကို ဘယ်သောခါမှ ပြစ်မှားရန် ရည်ရွယ်ကြမည် မဟုတ်ပါ။ ပြစ်မှားလည်း မပြစ်မှားရဲကြပါ။ဤစာတမ်းကို ရေးရခြင်း၏ ရည်ရွယ်ချက်မှာ ဘိုးတော်တု၊ ဘိုးတော်ယောင်များ၏ စိတ်နေစိတ်ထားနှင့် ဘိုးဘိုးအောင်၊ ဘိုးမင်းခေါင် စသော သူတော်ကောင်းပုဂ္ဂိုလ်ကြီးများ၏ ဘုရားသာသနာတော်အပေါ်၌ ထားရှိသော စိတ်နေစိတ်ထားများကို 'ဘိုးတော်၊ ဝိဇ္ဇာကြီးများ'ကို သဲသဲမဲမဲ ယုံကြည်ကိုးကွယ်နေသူများအား ခွဲခြားသိနားလည်နိုင်စေရန်နှင့် လောကီဝိဇ္ဇာ ဘိုးတော်ကြီးများကို အမြတ်ထား၍ ယုံကြည်ကိုးကွယ်မှုများနှင့် ရတနာသုံးပါးကို ယုံကြည်ကိုးကွယ်မှုများအကြား သီးသီးသန့်သန့်လေး ဖြစ်စေရန်ရည်သန်လျက် ဤစာတမ်းကို ရေးသားပြုစုခြင်းဖြစ်သည်။ သာသနာတော်ဘက်မှ မားမာမတ်မတ်ရပ်တည်နိုင်သော၊ ရပ်တည်ရဲသော ပုဂ္ဂိုလ်များအား ဤစာတမ်းဖြင့်လိုက်လှဲစွာကြိုဆိုပါသည်။ရတနာသုံးပါးကို ယုံကြည်မြတ်နိုးစွာ ကိုးကွယ်နေသူမှန်သမျှ မြတ်ဗုဒ္ဓ၏ ကောင်းချီးမင်္ဂလာများကို ရရှိခံစားနိုင်ကြပါစေ။





အခန်း(၈)

## 'အောင်'လည်း ဝါဝဲ၊ 'ခေါင်'လည်း ဝါဝဲ

ရှေးမြန်မာလူမျိုးတို့သည် မိမိတို့ အိမ်အသီးသီး၌ ကျက်သရေမင်္ဂလာများရှိနေမှုကို အထူးလိုလား တောင့်တကြသည်။ မိသားစုအချင်းချင်း ချစ်ခင်မြတ်နိုးမှုများ တိုးပွားအောင် တစ်ဦးကိုတစ်ဦး စောင့်စောင့်ရှောက်ရှောက်ဖြင့် နေထိုင်ခြင်း၊ မိသားစုအားလုံး သွေးစည်းမှုရှိခြင်း၊ ချစ်ချစ်ခင်ခင် ညီညီညွတ်ညွတ်ဖြင့်နေထိုင်ခြင်း၊ ဘာသာတရား၌ ရိုသေကိုင်းရှိုင်းမှုရှိခြင်း၊ ရတနာသုံးပါး၌ ဉာဏ်နှင့်ယှဉ်သောကိုးကွယ်မှုများ ရှိထားကြ၍ ဘုရားစင်၌ ဘုရားရုပ်ပွားကို တစ်ဆူတည်းထား၍ ဘုရားရှင်ကို ကိုးကွယ်ပူဇော်ကြသည်။ ညှိုးနွမ်းသော ပန်းများဖြင့် ရှုပ်ပွနေခြင်း၊ ဟောင်းနွမ်းသော သစ်သီးများဖြင့် ရှုပ်ပွေနေခြင်း၊ ဖယောင်းစက်များ ဟိုဟိုသည်သည်ပေကျန်နေခြင်း စသည်တို့သည် အိမ်၏ကျက်သရေကို ယုတ်နွမ်းစေသည်ဟု ဘုရားကို ကိုးကွယ်ယုံကြည်သူများက ယူဆထားကြသည်။ ထို့ကြောင့် ဘုရားရှင်၏ စံကျောင်းသဖွယ်ဖြစ်သော ဘုရားခန်းကို သပ်သပ်ရပ်ရပ် သန့်သန့်

ပြန့်ပြန့်ဖြစ်အောင် ထားတတ်ကြသည့်ဓလေ့မှာ မြန်မာတို့၏ ကောင်းမြတ်သောဓလေ့တစ်ခုဟု ဆိုရပေမည်။ ယခုအခါ ထိုအမွေအနှစ်ကို ထိန်းသိမ်းတတ်သူများ တစ်စတစ်စ နည်းပါးလာသည်ကို သတိပြုမိမည်။ အချို့အိမ်များ၌မူ ပျောက်လုနီးပါးပင် ရှိလာပြီဟု ထင်မြင်မိမည်။ ဘုရားစင်ပေါ်၌ ရှိရှိသမျှသော ဖယောင်းတိုင်၊ အမွှေးတိုင်၊ တိုလီမုတ်စများ၊ မှတ်စုစာအုပ်များ၊ တရားစာအုပ်များ စသည်ဖြင့် ရှုပ်ရှုပ်ထွေးထွေးဖြစ်နေသည်မှာ အိမ်ဦးခန်းအတွက် ကြက်သရေကင်းမဲ့လှသည်။ ကျက်သရေကင်းမဲ့ရသည့်အထဲ 'ဘိုးတော်ကြီးများ'၏ ပုံပေါင်းစုံကို ဘုရားစင်၌ ရောပြွမ်းတင်ထား၍ သာသနာတော်အသရေကို ပို၍ယုတ်စေသည်ဟု ခံစားမိသည်။

ရှေးခေတ်က ဘိုးတော်ကြီးများသည် ဘုရားရှင်ကို သဒ္ဓါတရားဖြင့် ကြည်ညိုခဲ့ကြ၍ သာသနာတော်ကို ညှိုးနွမ်းစေသော အလုပ်မျိုးကို ဘယ်သောအခါကမှ မပြုလုပ်ခဲ့ကြပေ။ ထိုအထဲတွင် 'ဘိုးမင်းခေါင်' ဟူ၍လည်းကောင်း၊ 'ဘိုးတော်အောင်မင်းခေါင်ကြီး'ဟူ၍ လည်းကောင်း၊ 'ပုပ္ပါးဘိုးမင်းခေါင်' ဟူ၍ လည်းကောင်း၊ 'တိမ်ကြားမင်းခေါင်' ဟူ၍လည်းကောင်း အမည်တွင်ခဲ့သော ပုဂ္ဂိုလ်ကြီးလည်း ပါဝင်ခဲ့သည်။'အောင်'လည်းငါပဲ၊'ခေါင်'လည်းငါပဲ ဟူ၍လည်း ထုတ်ဖော်ပြောကြားခဲ့သော ဘိုးမင်းခေါင်၏ သမိုင်းအကျဉ်းကို လေ့လာသုံးသပ်နိုင်သည်။ ဘိုးမင်းခေါင်နှင့်စပ်လျဉ်း၍ လေ့လာသုံးသပ်ရာ၌ သမိုင်းက မပီပြင်လှသော်လည်း သူ၏ဖြစ်ရပ်စုံတို့သည် သမိုင်းတွင် ထင်ကျန်နေရစ်ခဲ့သည်။ ဘိုးတော်အောင်မင်းခေါင်၏ အတ္ထုပ္ပတ္တိကို ရေးသားသော အသျှင်ဇောတိပါလက၏ '(အောင်မင်းခေါင်ကြီး) ဝိဇ္ဇာဝင်သမိုင်းနှင့် ချမ်းသာရေးလမ်းစဉ်' စာအုပ်၌ အောက်ပါအတိုင်း ဖော်ပြထားသည်။





'ထိုပုဂ္ဂိုလ်ကြီး၏ အကြောင်းအရာ အတ္ထုပ္ပတ္တိကို ရေးသားရာ၌ ရာဇဝင်၊ မဟာဝင်တို့၌ မပါသော ထူးဆန်းသောအကြောင်းအရာများ၊ စကားလုံးများကို တွေ့မြင်ဖတ်ရှုရပေလိမ့်မည်။ ဤကဲ့သို့ ရာဇဝင်၊ မဟာဝင်တို့၌ မပါသော အကြောင်းအရာများဖြစ်၍ မယုံကြည်နိုင်ဟု–ဆိုသော သူများအား ယုံကြည်ရမည်ဟု မဆိုလို။ ယုံချင်ယုံ မယုံချင်နေ။ ကျွန်ုပ်တို့ရေးသားလတ္တံ့သည်ကား၊ ထိုပုဂ္ဂိုလ်ကြီး၏ နှုတ်မှဝန်ခံမိန့်ကြားအပ်သော အကြောင်းအရာများကို ရေးသားမည် ဖြစ်ပါကြောင်း၊ ပုပ္ပါးတောင်ကလပ်မှ ကိုယ်တော်တိုင် မိန့်ကြားလိုက်သော စကားရပ်တို့ကို လည်းကောင်း၊ ကျွန်ုပ်တို့၏ ဝိဇ္ဇာဦးစီး အောင်မင်းခေါင်ကြီးအဖွဲ့ချုပ်ဓာတ်စခမ်း၌ ဓာတ်စီးဖြင့် မိန့်ကြားအပ်သော စကားရပ်တို့ကိုလည်းကောင်း အခြေခံထား၍ ရေးသားသွားမည်ဖြစ်ပါသတည်း။'[၅၀]

ဤကဲ့သို့ ဝန်ခံချက်ပြုခဲ့သည့်အတိုင်း ထူးဆန်းသော ဘိုးမင်းခေါင်၏ သမိုင်းဖြစ်စဉ်များကို သူ၏စာအုပ်၌ ရေးသား၍ မှတ်တမ်းများကို ထားခဲ့သည်။ ''ဘိုးတော်အောင်မင်းခေါင်သည် လူသား စင်စစ်မဟုတ်ဘဲ၊ လူ့လောက–နတ်နယ်ပယ်မှာ ဒြပ်ကိုယ်ထည် အမျိုးမျိုးပြောင်းလဲ၍နေသော အလောင်းတော်နတ်သား နတ်ဝိဇ္ဇာကြီးတစ်ဦးဖြစ်သည်'ဟု ဖော်ပြထားသည်။ ထိုစာရေးသူက သူ၏ကိုယ်တွေ့ဖြစ်ရပ်များကို ထည့်သွင်းရေးထားသည်မှာ – ''စာရေးသူကိုယ်တိုင်

[၅၀] အသျှင်ဇောတိပါလ၊ (အောင်မင်းခေါင်ကြီး) ဝိဇ္ဇာသမိုင်းနှင့်ချမ်းသာရေးလမ်းစဉ်၊ နှာ ၃၀–၃၁။

ထိုပုဂ္ဂိုလ်ကြီး စံမြန်းရာ ပုပ္ပါးတောင်ကလပ်သို့ ၁၃၀၇–ခုနှစ်၊ ပြာသိုလတွင် ရောက်ခဲ့စဉ်က ထိုပုဂ္ဂိုလ်ကြီးနှုတ်မှ ဖွင့်ဟမိန့်ကြားသည်မှာ – 'ငါတို့သည် ရုပ်မသုံးဘူး၊ နာမ်သုံးသည်၊ ငါတို့က ဥက္ကလာပမင်းကြီးလက်ထက်ကစပြီး၊ ထိုရုံခြင်းတိုင်း ထိုရုံ၍နေခဲ့တာ၊ အလောင်းနတ်သားလည်း ငါပဲ၊ သိကြားမင်းလည်း ငါပဲ၊ ဘိုးဘိုးအောင်လည်း ငါပဲ၊ ဘိုးမင်းခေါင်လည်းငါပဲ'ဟု ဝန်ခံမိန့်ကြားသည်ကို နာခံမှတ်သားခဲ့ရဖူးလေသည်''ဟု ရေးသားထားသည်။[၅၉]

## ဦးစံဖေနှင့် တွေ့ဆုံမေးမြန်းခြင်း

ဤစာတမ်းကို ရေးသူသည် ဘိုးမင်းခေါင်အကြောင်းကို စုံစုံလင်လင် သိချင်၍ ဘိုးမင်းခေါင် ခေါင်းချသွားခဲ့သော ပုပ္ပါးတောင်ကလပ်သို့ (ဖေါ်ဝါရီလ ၆ ရက်၊ ၂၀၁၀)နေ့က သွားရောက်၍ လေ့လာရေး ခရီးထွက်ခဲ့သည်။ထွက်ရပ်ပေါက်ပုဂ္ဂိုလ်များ(ရဟန်း ၂၅–ဦး၊ လူ ၂၅–ဦး) ၏ဓာတ်ပုံများကို ချိတ်ဆွဲထားသော ပုပ္ပားတောင်ကလာပ်ပေါ်က တောင်တော်ဦး ဆုတောင်းပြည့် ဓာတ်နန်းမွာရုံ၊ ဘိုးမင်းခေါင် နေ့စဉ်နေ့တိုင်း မနက်မှ ညနေထိ နေထိုင်လေ့ရှိသော ရင်ခွဲဇရပ်နှင့် ဘိုးတော်မင်းခေါင် ဂူစေတီဓာတ်နန်း ဓမ္မာရုံတို့ကိုပါ သွားရောက်လေ့လာခဲ့သည်။ ကံအားလျော်စွာ ထိုသို့ပုပ္ပါးတောင်တစ်ဝိုက် ဟိုဟိုသည်သည်သွား၍ လေ့လာနေစဉ် အဘဘိုးမင်းခေါင်၏ မွေးစားသားတော်ခဲ့ဖူးသော အဘဦးစံဖေ (အသက် ၆၆–နှစ်)ကို တွေ့ခဲ့ရသည်။ ဦးစံဖေက သဘောကောင်းသည်။ စာရေးသူကို သူတို့အိမ်ပေါ်ရှိ

---

[၅၉] အသျှင်ဇောတိပါလ၊ (အောင်မင်းခေါင်ကြီး) ဝိဇ္ဇာသမိုင်းနှင့် ချမ်းသာရေးလမ်းစဉ်၊ နာ၄၈–၄၉၊





ဘုရားခန်းနှင့် ဘိုးမင်းခေါင်၏ ဓာတ်ခန်းကိုပါ ကြည့်ရှုလေ့လာခွင့်ပြုသည်။ သူနှင့်ကြုံကြိုက်တုန်း စာရေးသူသိလိုသည့် အချက်အလက်များကို မေးမြန်းခွင့်ရသည်။ ကျေးဇူးကမ္ဘာတင်ခဲ့ပါ၏။

''အဘဘိုးမင်းခေါင်သေတုန်းက ဘယ်နှရက်ထားလဲ''

''ကိုးရက်ထားပြီး၊ ကျွန်းခေါင်းထဲထည့်ပိတ်ပြီး၊မြေမြှုပ်တယ်''

''အဘဘိုးမင်းခေါင် သေဆုံးပြီးနောက် ဘာတွေများ ထူးထူးခြားခြားဖြစ်နေတာကို တွေ့ရလဲ''

''မြေမမြှုပ်ခင်မှာ အဘရဲ့ရုပ်အလောင်းကို လာကြည့်ကြတဲ့ လူအချို့အတွေ့အကြုံကတော့ ရုပ်အလောင်းရဲ့ခေါင်းရင်းဘက်မှာ ရပ်နေတဲ့အခါမျိုးမှာဆိုရင် မွှေးကြိုင်တဲ့အနံ့မျိုးကိုရပြီး၊ ခြေရင်းဘက်ကို ပြောင်းရွှေပြီးရပ်ခဲ့ယင် နံတဲ့အနံ့ကိုရကြတယ်။ တချို့လူတွေကြတော့လည်း ခြေရင်းဘက်မှာ မွှေးပြီး၊ ခေါင်းရင်းဖက်မှာ နံတယ်လို့ ဆိုကြတယ်။ တချို့အခေါင်းကို မကြည့်တဲ့အခါ အခေါင်းထဲမှာ ဘာမျှမရှိတော့သလိုပဲ ပေါ့နေတာကို ခံစားရတယ်။ ဒီလိုအခြေအနေမျိုးတွေကြောင့် ဖွင့်ကြည့်ရန် တောင်းဆိုကြတဲ့အခါ သက်ဆိုင်ရာမှ ဖွင့်မကြည့်ဖို့ ဆုံးဖြတ်ကြတယ်''

''အဘဘိုးမင်းခေါင်က ဘယ်လိုအစားအစာနဲ့ ဘယ်လိုဆေးလိပ်များကို ပုံမှန်မှီဝဲသုံးစွဲခဲ့သလဲ''

''အဘက ဘာအစားစာကိုမျှ စားချင်တယ်ဆိုတာမျိုးတော့ မရှိပါဘူး။ သူ့ရှေ့ရောက်လာတဲ့ အစားအစာမျိုးကို စားတာပါပဲ။ ဆေးလိပ်ဆိုလည်း ဒီလိုပဲ။ အဘကို သူများက လာကပ်တဲ့ဆေးလိပ်ကို သောက်တာပါပဲ''

''သူဘယ်နေ့သေတယ်ဆိုတာကို မှတ်မိလား''

''မှတ်မိပါတယ်။ ၁၃၁၄–ခု၊ တော်သလင်းလပြည့်ကျော် (၂) ရက်နေ့ ကွယ်လွန်အနိစ္စရောက်ပါတယ်''

''အဘသေပြီးနောက်ပိုင်းမှာ အိပ်မက်မမက်ဘူးလား''

''အိပ်မက်တော့ မမက်ဘူး။ အနားလာပြောသလို နားနဲ့ ဆတ်ဆတ်ကြားရတာမျိုးတွေတော့ ရှိတယ်''

''ဘာတွေကြားရလို့လဲ''

''ရွှေတိဂုံဘုရား-သဘော်-သပြေပန်း-တဲ့''

''ဘာကို ဆိုလိုတာလဲ''

''ကပ်ကြီးသုံးပါးကို ကျော်လွှားနိုင်အောင် ရွှေတိဂုံဘုရားမှာ သဘော်ညွှန့်၊ သပြေပန်းတို့နဲ့ ပူဇော်ခိုင်းတာပါ''

''ဘုရားကိုးကွယ်မှုနဲ့ပတ်သက်ပြီး အဘဘိုးမင်းခေါင်ရဲ့ သဘောထားက ဘယ်လိုလဲ''

''သူ့အလိုကျကို ပြောရယင်တော့ - 'ဘုရားအလုပ်ကိုလုပ်၊ ဘုရားစကားကိုနားထောင်၊ အဘဘိုးမင်းခေါင်ကို ပွဲတင်ရန်မလို၊ တောက်တဲ့လိုမအော်နဲ့၊ ကင်းပါးကို လုံအောင်ထိန်း၊ အထက်ဟာ နေပါဦး အောက်ဟာလုံအောင်ဖုံး၊ (နိဗ္ဗာန်ကို ထားပါဦး၊ ကင်းပါးကို လုံအောင်ထိန်းပါဦးဟု ဆိုလိုသည်)၊' ဒါဟာ အဘရဲ့ မိန့်ကြားချက်ပဲ။ တခြားမိန့်ကြားချက်တွေလည်း အများကြီးရှိပါတယ်။ ဒါကတော့ အဓိကပေါ့ဘုရား''

''အဘဘိုးမင်းခေါင်က စကားမပြောဘဲ အရူးကြီးလိုပဲ နေတယ် ဆိုတာ ဟုတ်ပါသလား''

''ဟုတ်တယ်။ (၃)နှစ်လောက်နေမှ တစ်ကြိမ်လောက်ပြော တာ။ စကားပြောတယ်ဆိုပေမဲ့ ရိုးရိုးစကားမျိုးမဟုတ်ဘူး။ ပါးစပ်က ဗျစ်တောက်ဗျစ်တောက်နဲ့ ရွတ်တဲ့စကားမျိုး။ သူဘာပြောတယ်ဆိုတာ လူတိုင်းမသိနိုင်ဘူး။ အဘတစ်ခုခုပြောလာယင် လူတွေ စာရွက်နဲ့ လိုက်မှတ်နေကြတယ်''

''သူနဲ့ပတ်သက်ပြီး ဘာတွေ ထူးခြားတာရှိလဲ ပြောပါဦး''





''၁၃၀၀ ပြည့် နောက်ပိုင်းမှာ အဘ ဘယ်ကိုမှ မသွားတော့ ဘူး။ ဒါပေမဲ့ တချို့လူတွေက အဘကို ဟိုနေရာမှာ တွေ့တယ်၊ ဒီ နေရာမှာ တွေ့တယ်နဲ့ ထူးထူးဆန်းဆန်းတွေ ပြောဆိုလာကြတယ်။ နောက် ထူးဆန်းတာတစ်ခုကတော့ အဘထားခဲ့တဲ့ ဆွဲသီးဆံမပါတဲ့ ခေါင်းလောင်းတစ်လုံးဟာ သူ့အလိုလို အသံမြည်သွားတာကို တစ်ခါ ကြားခဲ့ရဖူးတယ်။ ဒီလိုထူးဆန်းတာမျိုးတွေ တွေ့တွေ့လာတဲ့ နောက် ပိုင်းမှာတော့ အဘကို ကိုးကွယ်နေသူများဟာ အဘဘိုးမင်းခေါင်ရဲ့ ညွှန်ကြားချက်နဲ့ဆိုပြီး 'ကိုးတောင်ပြည့်စေတီ၊ ကမ္ဘာလုံးစေတီ၊ ကပ် ကျော်စေတီ'စတဲ့ ဘုရားတွေကို မြန်မာပြည်အနှံ့ လျှောက်တည်နေပြီး သာသနာပြုလာကြတယ်။ ဒါဟာလည်း အဘရဲ့ ထူးခြားချက်တွေလို့ပဲ ဆိုရမှာပါပဲဘုရား။''

ဘိုးမင်းခေါင်၏ မွေးစားသား ဦးစံဖေက မေးသမျှကို စေတနာ နဲ့ပဲ ဖြေကြားပေးခဲ့ပါတယ်။ သူ့အိမ်ပေါ်ထပ်မှာလည်း ဘုရားစင်မှာ အဘဘိုးမင်းခေါင်ကို အတူမထားဘဲ သီးသန့်အခန်းမှာပဲ ထားရှိထား သည်မှာလည်း 'ဘိုးတော်ဝိဇ္ဇာများ' များ ကိုးကွယ်ကြည်ညိုသူများ အတွက် အထူးသတိပြုစရာပင်။ ဘိုးမင်းခေါင်ပုံနှင့် သူမသေခင်က သုံးစွဲသွားခဲ့သော ရေနွေးပုဂံ၊ ပုဂံပြား၊ ပုဆိုး၊ ပင်နီအင်္ကျီ စသည်တို့ကို စနစ်တကျထားရှိမှုကို ကိုယ်တိုင်ကိုယ်ကျ လေလာတွေ့ရှိခဲ့ရသည်။ ဦးစံဖေအား အထူးကျေးဇူးတင်ခဲ့မိသည်။

## ဘိုးမင်းခေါင်၏ ဖွားရာမြေ

ဘိုးမင်းခေါင်၏ ဖွားရာဇာတိမြေကား ပုပ္ပါးတောင်အနီး၊ စင်မြင့်ရွာ၊ အဘဦးပု၊ အမိဒေါ်မင်းသစ် တို့မှ မွေးဖွားလာသော သားရတနာဖြစ်သည်။ ငယ်နာမည် 'မောင်မင်းအောင်' ဖြစ်သည်။ မွေးဖွားသည့်ခုနှစ် သက္ကရာဇ်ကို ဖော်ပြထားခြင်းမရှိ၍ မသိရ။ သို့သော်

ဘိုးမင်းခေါင်ကို ယုံကြည်ကိုးကွယ်သူများသည် ထိုကဲ့သို့ အမိအဘတို့၏ နေရပ်နှင့် ဖြစ်ရပ်မှန်ကို လက်မခံလိုကြပေ။ အဘယ်ကြောင့်ဆိုသော် ဘိုးမင်းခေါင်၏ နာမ်ခန္ဓာအိမ်၌ အလောင်းတော်နတ်သား၏ နာမ်ဓာတ် လာရောက်ကိန်းဝင်နေသောကြောင့်ဟု ယုံကြည်လိုကြသည်။ အင်္ဂလိပ်မင်းများလက်ထက်တွင် ကျောက်ပန်းတောင်းမှ ပုလိပ်များက ဘိုးတော်ဘိုးမင်းခေါင်အား ဘိုးတော်ကဘယ်ရွာသားလဲဟု မေးရာ ပုပ္ပါး၊စင်မြင့်ရွာကဟု ဖြေခဲ့သည်။အဖေအမေ နာမည်ကို မေးသောအခါ အဖေ ဦးပု၊ ဒေါ်မင်းသစ်ဟု ဘိုးမင်းခေါင်ကိုယ်တိုင် ဖြေဆိုခဲ့ကြောင်း သိရသည်။ သို့သော် ဘိုးမင်းခေါင်၌ ညီအကိုမောင်နှမများ ရှိသော်လည်း ဘယ်နှယောက်ရှိသည်ဆိုတာကိုမူ မှတ်တမ်းများ၌ ဖော်ပြထားခြင်း မရှိခဲ့ပေ။ ဘိုးမင်းခေါင်ကို ယုံကြည်သူများသည် ဘိုးမင်းခေါင်၏ မွေးသက္ကရာဇ်ကိုပင် ဖော်ပြရန် ဝန်လေးနေကြဟန်ရှိသည်။ အဘယ်ကြောင့်ဆိုသော် ဘိုးတော်ဘိုးမင်းခေါင်၏ ကိုယ်၌ အလောင်းတော်နတ်သား၏ နာမ်ဓာတ်ဖြစ်နေ၍ ဘိုးမင်းခေါင်၏ အသက်သည် မည်သူမျှ မည်၍ မည်မျှရှိနေကြောင်း မသိနိုင်ဟု ဆိုလိုချင်ကြဟန်ရှိသည်။

ထိုကဲ့သို့သော ရေးသား၊ ပြောဆိုမှုများသည် သာမန်အားဖြင့် ကြည့်လျှင် လက်ခံနိုင်ဖွယ် ရှိသည်ဟု ထင်ကောင်းထင်နိုင်သော်လည်း ဘိုးတော်ဘိုးမင်းခေါင်ထက် အသက်အရွယ်ကြီးသူများ၊ ဘိုးမင်းခေါင်၏ ငယ်ဘဝကို မီလိုက်သူများ၊ (သို့မဟုတ်) ဘိုးမင်းခေါင်၏ ကလေးဘဝအရွယ်ကို သိရှိထားသူများ ရှိကောင်း ရှိနေပေလိမ့်မည်။ ထိုပုဂ္ဂိုလ်များသည် စင်မြင့်ရွာက အဘအမည်ဦးပု၊ အမိအမည် ဒေါ်မင်းသစ်တို့၏သား လူအမည် ဦးမင်းအောင်၊ ရဟန်းအမည် ဦးအာစိဏ္ဏ ဆိုသူသည် ဘယ်သူလဲဟု တစ်စုံတစ်ယောက်မှ မေးခွန်းထုတ်ထားကောင်း ထုတ်ထားပေလိမ့်မည်။ ထိုမေးခွန်း၏ အဖြေကို ယုံကြည်သူများကလည်း ကြိုတင်၍ စဉ်းစားထားပြီး ဖြစ်ပါလိမ့်မည်။ ထိုကြောင့် ဘိုးတော်





အောင်မင်းခေါင် ယခုယူဆောင်ထားလျက်ရှိသော ရုပ်ခန္ဓာကိုယ်ကြီးသည် သူ၏ ရုပ်အစစ်မဟုတ်ဘဲ ပုပ္ပါးတောင်၏အနီး စင်မြင့်ရွာမှ အဘအမည်ဦးပု၊ အမိအမည် ဒေါ်မင်းသစ်တို့၏သား လူအမည် ဦးမင်းအောင်၊ ရဟန်းအမည် ဦးအာစိဏ္ဏ၏ ရုပ်အခွန်ကိုယူ၍ ဆောင်ထားခြင်းသာဖြစ်သည်။ ထိုရုပ်အခွန်ကြီးကို ၁၂၅၀–ပြည့်နှစ်မှ စတင်၍ ဆောင်ယူထားသည်ဟု ယုံကြည်ထားကြသည်။[၆၁]

ဖြစ်ရပ်ကတော့ ဆန်းကြယ်သည်။ ဖြစ်ရပ်က ဆန်းကြယ်၍ အခြေအနေများကလည်း ဆန်းကြယ်လာဟန်ရှိသည်။ စိတ်ဝင်စားစရာပင်။ တစ်ချိန်မှာ ပုပ္ပါးနယ် စင်မြင့်ရွာသား ဆရာတော် ဦးအာစိဏ္ဏ အကြီးအကျယ်ဖျားခဲ့သည်။ အဖျားက ပြင်းထန်လွန်း၍ သုံးရက်ခန့် မေ့မျောသွားသည်။ ထိုကဲ့သို့ မေ့မျောသွားပြီးနောက် လေးရက်မြောက်သောနေ့တွင် ပြန်လည်သတိရလာသည်။ မကြာခင်မှာဘဲ အကောင်းပကတိဖြစ်သွားကာ ကျရောက်နေသော ရောဂါဝေဒနာများ လုံးဝပျောက်ကင်းသွားခဲ့သည်။[၆၂] ဤ၌ ထူးခြားလာသည်မှာ ဆရာတော်ဦးအာစိဏ္ဏသည် ရောဂါပျောက်ကင်းသွားသော်လည်း ရှေးယခင်ကသို့ စကားများများမပြောတော့ဘဲ အမြဲတမ်းစဉ်စားနေဟန် လက္ခဏာမျိုးဖြစ်လာသည်။ ဤသို့ နှစ်လသုံးလလောက် နေပြီးနောက် ဆွေမျိုးမိဘများကို ခေါ်ပြောခဲ့သည်။ ''ငါ့တူလေးများကို ရှင်ပြုစရာရှိတယ်။

---

[၆၁] အသျှင်ဇောတိပါလ၊(အောင်မင်းခေါင်ကြီး)ဝိဇ္ဇာသမိုင်းနှင့် ချမ်းသာရေးလမ်းစဉ်၊နာ - ၄၉၊

[၆၂] ဦးအာစိဏ္ဏသည် ရောဂါဝေဒနာဖြင့် မေ့မျောသွားစဉ် ဦးအာစိဏ္ဏ၏ နာမ်ဓာတ်သည် ကံတရားအတိုင်း ကံကုန်၍ ဘဝတစ်ပါးသို့ ပြောင်းသွားခဲ့လေသည်၊နောက်တစ်ဖန်ပြန်လည် သတိရ၍ ထလာသောအချိန်မှစ၍ အလောင်းတော်နတ်သား နတ်ဝိဇ္ဇာကြီး ဝင်နေပြီး၊ ဦးအာစိဏ္ဏ၏ ကိုယ်မှာ အလောင်းတော်နတ်သား၏ နာမ်ဓာတ်သာလျှင် ဖြစ်လေတော့သည်ဟု ယုံကြည်ထားကြသည်၊(အောင်မင်းခေါင်ကြီး) ဝိဇ္ဇာသမိုင်းနှင့် ချမ်းသာရေးလမ်းစဉ်၊နာ - ၅၁၊

ငါအောက်ပြည်ကို သွားဦးမည်''ဟု ပြောခဲ့ပြီး အောက်ပြည်သို့ ထွက်ခွာသွားခဲ့သည်။[၆၂] သုံးနှစ်ခန့်ကြာသောအခါ စင်မြင့်ရွာသို့ပြန်ရောက်လာသည်။ ဤသို့ပြန်လာချိန်မှာ သူ၏ထူးခြားချက်မှာ တောယုံလေးများ၊ သမင်၊ ဒရယ်၊ ကျီ-စသော တောတိရစ္ဆာန်လေးများကို လက်ဖျောက်တီး၍ခေါ်လျှင် သူထံသို့ လာရောက်ကြသည်ကို ထူးထူးခြားခြားတွေ့မြင်ကြရသည်။

---

[၆၂] အောက်ပြည်သို့ ထွက်ခွာသွားသည်ဟုဆိုသော်လည်း "ဝိဇ္ဇာသမိုင်းနှင့် ချမ်းသာရေးလမ်းစဉ်" စာအုပ်၌ အရပ်ဒေသကို အတိအကျညွှန်းဆိုမပြခဲ့၊ သို့သော် ရန်ကုန်တိုင်း၊ သင်္ဃန်းကျွန်းမြို့နယ်၊ ဇ-တောင်ရပ်ကွက်၊ သာသနာ့အလင်းရောင် မြတ်စွာဘုရားဝင်းအတွင်းရှိ အာရုံခံတန်ဆောင်းထဲတွင် ကြည်ညိုဖွယ်ရှိသော ရုပ်ပွားတစ်ဆူကို တွေ့ရမည်ဖြစ်သည်၊ ထိုအာရုံခံနှင့်ကပ်လျက်တည်ရှိသော အိပ်ခန်း (၁) ခန်းနှင့် ဘုရားခန်းငယ်(၁)ခန်းရှိသည်၊ ထိုအိပ်ခန်းသည် ဘိုးမင်းခေါင်၏ အိပ်ခန်းဟု သိရ၏၊ ထိုအိပ်ခန်းထဲ၌ ဘိုးမင်းခေါင် အိပ်စက်သွားသော ခုတင်တစ်လုံးကိုလည်း တွေ့ရသည်၊ အခန်းအဝင်ပေါက်တံခါး၏ အထက်၌ "အဘမင်းခေါင်အား လေးမြတ်စွာ ဖူးမြော်ပူဇော်ပါ၏" ဟု စာတမ်း ရေးထိုးထားကြသည်ကို တွေ့ခဲ့ရသည်၊ ထိုဘုရားဝင်းအတွင်း၌ပင် တောင်ဘက်ခြမ်း၌ "ဥက္ကလာဦးစေတီတော်" ဟု အမည်မှည့်ထားသော စေတီတစ်ဆူကို တွေ့ရှိရသည်၊ ထိုစေတီတော်၏ အရှေ့မြောက်ထောင့်၌ အဘမင်းခေါင် တရားကျင့်သွားသော ဂူငယ်တစ်ခုကိုလည်း တွေ့ရသည်၊ ထိုဂူ၏ အထက်၌ စေတီငယ်တစ်ဆူကို တည်ထား၏၊ "ဘိုးတော်အောင်မင်းခေါင် အောင်နန်းတော်" ဟု ခေါ်ဆိုကြောင်း သိရ၏၊ ဂူအတွင်း၌ ဘိုးမင်းခေါင် ကိုင်ဆောင်သွားသော သန်လျက်တစ်ချောင်းနှင့် ဓားရှည်နှစ်ချောင်း ဂူ၏အမြင့်တစ်နေရာ၌ ကျောက်ဆင်းတုရုပ်ပွားငယ်တစ်ဆူကို တွေ့ရသည်၊ ထိုစေတီ၏ တောင်ဘက်ကပ်လျက်ရှိသော ကမ္ဘာလုံးပေါ်၌ တံခွန်တိုင်တစ်ခုစိုက်ထူထားသည်၊ အထိမ်းအမှတ်မှာ ကမ္ဘာ့အောင်မြေအားလုံးကို စုပေါင်း၍ တံခွန်တိုင်စိုက်ထူထားကြောင်းနှင့် အဘအောင်မင်းခေါင်သည် ကမ္ဘာ့ပြဿနာများကို ဤအောင်မြေမှ ဖြေရှင်းပေးကြောင်း ရှင်းပြသည်ကို မှတ်သားခဲ့ရ၏၊ ပြည်တွင်းပြဿနာများ ပေါ်ပေါက်လာခဲ့လျှင်မူ ထိုမှအနောက်တောင်ထောင့်အရပ် တစ်ဖာလုံခန့်ဝေးသောအရပ်၌ တည်ရှိသော မုလဆယ်တောင်ပြည့်ဘုရား ပရိဝုဏ်အတွင်းရှိပြည်တွင်းအောင်မြေမှနေ၍ပြဿနာများကို ဖြေရှင်းပေးသည်ဟု ကိုသန်းဌေး(ပရိဝုဏ်စောင့်)၏ ရှင်းလင်းပြောကြားချက်ကို မှတ်သားခဲ့ရသည်၊





စင်မြင့်ရွာ၌ အနည်းငယ်နေပြီးနောက် မကြာမီမှာပင် ''အထက်အညာဒေသကို သွားဦးမယ်''ဟုပြောဆိုပြီး အထက်အညာအရပ်သို့ ထွက်ခွာသွားပြန်သည်။ဧယျာပူရတိုင်းဖြစ်သော စစ်ကိုင်းမြို့ ဥစ္စာရဘုရားအနီး ခဝဲတောင်၌လည်းကောင်း၊ မန္တလေးမြို့ နန်းတော်ကျုံးအတွင်း မင်္ဂလာတံခါးအနီး၌လည်းကောင်း၊ ထီးချိုင့် ညောင်ပင်သာရွာ၌လည်းကောင်း လှည့်လည်သွားလာနေခဲ့သည်။ ထီးချိုင့် ညောင်ပင်သာရွာသို့ ရောက်သောအခါ သင်္ကန်းဝတ်ကိုချွတ်၍ လူဝတ်အသွင်ပြောင်းကာ 'မင်းခေါင်' ဟူသော အမည်ကို ခံယူခဲ့သည်။

ထို့နောက် ဦးမင်းခေါင်သည် ရွှေလည်နယ် မိုးမှောင်ကျတောင် သီတာချောင်း၌လည်းကောင်း၊ တရုတ်ပြည်၊ တိဘက်ပြည်၊ ရုရှားပြည်၊ အိန္ဒိယပြည်တို့၌လည်းကောင်း အသီးအသီး သုံးနှစ် လေးနှစ်ခန့်စီ နေပြီးနောက် သာသနာ့မျိုးစေ့ ဓာတ်ပန္နက်များကို ချပ်ျုိး စိုက်ထူကာ မြန်မာပြည်သို့ ပြန်ဝင်လာခဲ့သည်ဟု အဆိုရှိသည်။ မြန်မာပြည်သို့ ပြန်ဝင်လာပြီးနောက် ကချင်တောင်၊ နတ်စီးအောင်နမ္မခရုချောင်း ဌာနများသို့ ရောက်သောအခါ ပညာစခန်း၊ ဓာတ်စခန်းများ ပေးအပ်လျက် သာသနာရေးများကို စီမံဆောင်ရွက်ခဲ့သည်ဟု အဆိုရှိသည်။အရပ်ရပ်၊ အနယ်နယ်ဒေသများသို့ လှည့်လည်ပြီးနောက် နမ္မားခရုချောင်းသို့ (၁၂၉၀) ပြည့်နှစ်တွင် ရောက်ရှိလာသည်။ ထိုဌာနတွင် ဆယ်နှစ်နေထိုင်သွားပြီး ၁၃၀၀ ပြည့်နှစ်တွင် ပုပ္ပါးတောင်သို့ ပြန်လည်ရောက်ရှိလာသည်။

ထိုအချိန်မှစ၍ ပုပ္ပါးတောင်ကလပ်၌ပင် နေထိုင်သွားခဲ့သည်။ ထိုတောင်ကလပ်၌နေစဉ် သူ၏တန်ခိုးကြီးမားမှု၊ အစွမ်းရှိမှုကို လူများသိမှာ အလွန်စိုး၍ အရူးအသွင်ပုံဆင်၍ သွားလာနေထိုင်ခဲ့သည်။[၆၃]

---

[၆၃] အသျှင်ဇောတိပါလ၊ (အောင်မင်းခေါင်ကြီး) ဝိဇ္ဇာသမိုင်းနှင့် ချမ်းသာရေးလမ်းစဉ်၊ နှာ - ၆၀၊

သို့သော် ထိုတောင်ကလပ်၌ နေထိုင်နေသော်လည်း စကားလုံးဝ မပြော၊ ပြောသောအခါ၌လည်း လူများ နားလည်မှုရှိအောင် ပြောဆိုခြင်းမပြုဘဲ ဝိဇ္ဇာအများ၊ နတ်အများ ပြောသော ခက်ခဲနက်နဲသော စကားမျိုးသာဖြစ်နေ၍ လူသာမန်တို့ နားမလည်နိုင်ကြပေ။ ထို့ကြောင့် လူအများ နားလည်မှုရှိအောင် ပြောဆိုညွှန်ကြားရန်အတွက် သူ၏ ကိုယ်စား ကိုယ်ပွားပြုလုပ်၍ 'အပွား' ဟူသော အမည်တံဆိပ်ခပ်နှိပ်ကာ မန္တလေးတောင်၊ မိုးထိတိုက်၊ နတ်စလင်းကျောင်းတွင် ဓာတ်စခန်းဌာနချုပ်ထား၍ လုပ်ငန်းစဉ်အရပ်ရပ်ကို မိန့်ကြားပြောဆို လုပ်ကိုင်ခဲ့သည်။ သူ၏ကိုယ်စား ဦးပွား၏ ကိုယ်ခန္ဓာ၌ ဘိုးတော်အောင်မင်းခေါင်၏ နာမ်ဓာတ်ကိန်းအောင်း၍ ပြောဆိုမိန့်ကြားနေခြင်းကို ''ဓာတ်စီး' သည်ဟု ဆိုလိုခြင်းဖြစ်သည်။ အောင်မင်းခေါင်၏ နာမ်ဓာတ်သည် ဦးပွား၏ ခန္ဓာအိမ်သို့ ဝင်ရောက်လာသောအခါ သူတစ်ပါး၏စိတ်ကို လျင်စွာသိခြင်း၊ သူတစ်ဦး၏ အတိတ်၊ အနာဂတ်၊ ပစ္စုပ္ပန်အဖြစ်အပျက်များကို မှန်ကန်စွာသိခြင်း၊ ပြောနိုင်ခြင်းသည် ဝိဇ္ဇာ၏ တန်ခိုးအစွမ်းများဟု ယုံကြည်သူများက ယုံကြည်နေကြသည်။[၆၄] ဘိုးတော်မင်းခေါင်ကြီး၏ သမိုင်းမှတ်တမ်းကို ရေးသားသူသည် ဘိုးတော်ဘိုးမင်းခေါင်၏ သေဆုံးသွားသော ခုနှစ်သက္ကရာဇ်ကို မှတ်တမ်း၌ ဖော်ပြထားခြင်း မရှိခဲ့ပေ။ မေ့လျော့ပေါ့ဆ၍ ရေးထည့်မထားခဲ့ခြင်းမျိုးလား။ (သို့မဟုတ်) အကြောင်းတစ်စုံတစ်ရာရှိ၍ တမင်တကာ ရေးမထည့်ခဲ့ခြင်းလား။ (သို့မဟုတ်) ဘိုးမင်းခေါင်သည် ထွက်ရပ်ပေါက် ပုဂ္ဂိုလ်ကြီးတစ်ဦးဖြစ်၍ မသေသေးဟု ယုံကြည်ယူဆထားကြသော ကြောင့်ပေလား ဝေခွဲမရနိုင်တော့ပြီ။ ဉာဏ်ဖြင့်သုံးသပ် ဆင်ခြင်ကြည့်

[၆၄] အသျှင်ဇောတိပါလ၊ (အောင်မင်းခေါင်ကြီး) ဝိဇ္ဇာသမိုင်းနှင့် ချမ်းသာရေးလမ်းစဉ်၊ နှာ ၃၁-၃၂။





နိုင်သူများသာလျှင် ပုဂ္ဂိုလ်တစ်ယောက်၏ နောက်ဆုံးသွားရာလမ်းသည် သေခြင်းတရားပင်ဖြစ်ကြောင်း ဝန်ခံနိုင်ကြပါလိမ့်မည်။ ဤသည်ကား မြတ်ဗုဒ္ဓ၏ သစ္စာစကားများ ဖြစ်သည်။

## ဆရာတော်ကြီးတစ်ပါး၏ ဘိုးမင်းခေါင်နှင့်စပ်၍ မှတ်မိသမျှ မိန့်ကြားချက်

ဘိုးမင်းခေါင်ကို သာမဏေငယ်လေးဘဝ (ကိုရင်မိုးဒိဘဝ)နှင့် ဆရာဘုန်းတော်ကြီး၏ အမိန့်အရ ဘိုးတော်ကြီးအနားတွင် အနီးကပ်လုပ်ကျွေးပြုစုခွင့်ရခဲ့သော အသက်ခုနစ်ဆယ်ကျော် ဆရာတော်ကြီးတစ်ပါးကို ကံအားလျော်စွာ ဖူးတွေ့ခဲ့ရ၍ ထိုဆရာတော်ကြီးထံမှ ဘိုးမင်းခေါင်၏ ဘဝတစ်စိတ်တစ်ပိုင်းကို သိခွင့်ရခဲ့ပေသည်။ ဆရာတော်ကြီးက –

''ဘိုးတော်ကြီးဟာ ပုပ္ပါးတောင်အတက်ရှိ ရင်ခွဲဇရပ်၌ မနက်၊ နေ့လယ်စာ စားပြီးတိုင်း တင်ပျဉ်ခွေချိတ်ပြီး ထိုင်နေလေ့ရှိတယ်။ ဘိုးတော်ကြီးဟာ တစ်နေ့လေးကြိမ် အစာစားတယ်။ အရုဏ်တစ်ချိန်(ရေနွေးကြမ်း၊ ထမင်းကြော် စသည်)၊ ၁၀နာရီခန့်မှာတစ်ချိန် (ထမင်းဖလုံနဲ့စား၊ ဝက်သားဟင်း၊ ချဉ်ပေါင်ကြော် စသည်)၊နေ့ ၂နာရီခန့်တစ်ချိန်(ခဲဘွယ်နှင့် ရေနွေးကြမ်း၊ စီးကရက်သောက်)၊ ညနေ ၅ နာရီခန့်မှာတစ်ချိန် (ကြာဆံ၊ ခေါက်ဆွဲ စသောစားဘွယ်) အစားအစာများကို များသောအားဖြင့် စားသောက်လေ့ရှိတယ်။သူရှိတုန်းကတော့ ဝက်သားကို ပုပ္ပါးတောင်ပေါ် ယူလာလည်း ဘာမှုမဖြစ်ဘူး။ နောက်တော့ ပုပ္ပားတောင်ပေါ် ဝက်သားယူလာရင် အဖြစ်တယ်၊ ညာဖြစ်တယ်နဲ့ သတင်းတွေ ကြားလာရတော့တယ်။ သူရဲ့

ပုံပန်းသဏ္ဌာန်က မျက်နှာက လေးထောင့်စပ်စပ်၊ အသားက အသားလပ်၊ အရပ်အမောင်းက ထောင်ထောင်မောင်းမောင်း၊ ကိုယ်က ခပ်ပြားပြား၊ ဆံပင်က ပခုံးပေါ်ဝဲလုနီးပါး၊ ပင်နီရင်ခွဲအင်္ကျီကို အတွင်းခံစွတ်ကျယ် မခံဘဲ ဝတ်ထားလေ့ရှိတယ်။ ပုဆိုးကတော့ အကွက်ပါတဲ့ မန္တလေးပတ်လည်စင်းပုဆိုးကို ဝတ်တယ်။သူ့ကို ကြည့်ရတာ အရူးကြီးလိုပဲ။ စကားလုံးဝမပြောဘူး။ ညနေ ၆–၇ နာရီလောက်မှာ ဘိုးတော်ကို နှိပ်ပေးသူတွေရှိတယ်။ စကားထွေထွေထူးထူးမပြောဘူး။ ကိုရင်လေးဘဝနှင့် ဘိုးတော်ကြီးနားမှာ လုပ်ကျွေးပြုစုနေရင်း ၁၃၁၃–ခုနှစ် (ဆရာတော်မှတ်သားထားသည့်ခုနှစ်မှာ ဦးစံဖေပြောကြားသောနှစ်နှင့် တစ်နှစ်ကွာနေသည်)မှာ ဘိုးတော်ကြီး သေဆုံးသွားခဲ့တယ်။ ဘိုးတော်ကြီးအလောင်းကို သံဖြူခေါင်းထဲ ထည့်ဖို့ စောင့်နေစဉ် ၂–၃ ရက် လောက်မှာ သူ့ကိုယ်ပေါ်မှ ပိုးလောက်တွေ ထွက်ကျလာတယ်။ သံဖြူခေါင်းရသည့်နေမှာပဲ သံဖြူခေါင်းထဲကိုထည့်ကာ ဂဟေဆော်ပြီးပိတ်လိုက်ကြတယ်။ (ဦးစံဖေကမူ ကျွန်းခေါင်းထဲကို ထည့်ပြီး အလုံပိတ်ခဲ့တယ်ဟု ပြောခဲ့သည်)။ အသုဘမှာ ဘုန်းကြီးမပင့်၊ သရဏဂုံမတင်ဘဲ ပုပ္ပါးတောင်ကလပ်ခြေရင်းက ရွှေဂူချောင်အနီးမှာ မြှုပ်နှံလိုက်ကြတယ်။[၆၅] အရှင်ထွက်၊

---

[၆၅] ရွှေဂူချောင်အနီး၌ရှိသော "ဘိုးတော်မင်းခေါင်ဂူစေတီဓာတ်နန်း" ကို သွားရောက်လိုလျှင် ပုပ္ပါးတောင်ကလာပ်အတက်လမ်းရှိ ရင်ခွဲရေပ်မှ တောင်ကလာပ်ပေါ်သို့ဆက်လက်မတက်ဘဲ၊ လက်ဝဲဘက်လမ်းသို့ဆက်လက်လျှောက်သွားခဲ့လျှင် ပိုက် ၅၀၀ - ခန့်တွင် ဘိုးတော်အောင်မင်းခေါင် ဂူစေတီဓာတ်နန်းကို တွေ့နိုင်ပေသည်။ အဘဘိုးမင်းဓေါင်၏ ဂူအထက်၌ (၁၈) တောင်ခန့်မြင့်သည့် စေတီတစ်ဆူကို တည်ထားသည်။ စေတီအထက်ပိုင်း၌ ရွှေသင်္ကန်း





အသေထွက်တွေဆိုတာကတော့ လူတွေ ယုံကြည်ချက်နဲ့ အထင်နဲ့ပြောနေကြတာဖြစ်တယ်။ ဘုန်းကြီးမျက်မြင်မှာတော့ သာမန်လူတွေလို သေပြီး သာမန်လူတွေကို မြှုပ်နှံလိုက်ကြသလို မြှုပ်နှံလိုက်တာကိုပဲ တွေ့ရတယ်။[၆၆]

စာရေးသူက ဆရာတော်ကြီးကို "ဘိုးတော်ကြီးက ဘာတွေများ ဆရာတော်ကြီးအား မ,စ ခဲ့လဲဘုရား" လို့ မေးလျှောက်တော့ "အခုအချိန်အထိတော့ တပည့်တော်ကို ဘာမျှတော့ မ'စတာမရှိသေးပါဘူး။ အကယ်၍သာ ဘိုးတော်ကြီးအောင်မင်းခေါင်သည် သူ့အား ကျေးဇူးပြုဖူးသူများအား မ–စမယ်ဆိုယင်တော့လည်း တပည့်တော်ကို ထိပ်ဆုံးက မ'စ, သင့်တာပေါ့"ဟု ပြုံးပြုံးရွှင်ရွှင်နှင့်ပင် မိန့်တော်မူသည်။ အမှန်တရားကို ထုတ်ဖော်ရဲသော ဆရာတော်ကြီးအား ဤစာတမ်းဖြင့် ဂုဏ်ပြုမှတ်တမ်းတင်ပါသည်။

ဘိုးတော်အောင်မင်းခေါင်၏ ဖြစ်ရပ်သည် စိတ်ဝင်စားဖွယ်ကောင်းသလို ပဟေဠိပုစ္ဆာများနှင့် ရောနှောနေသည်။ အစပိုင်းကလူ၊ ထို့နောက် ဘုန်းတော်ကြီးဦးအာစိဏ္ဏ ဖြစ်လာသည်။ ထို့နောက် လူ့ဘဝပြန်လည်ရောက်ရှိသွားပြီး၊ ဘိုးတော်အောင်မင်းခေါင် ဖြစ်လာခဲ့ရ

---

ကပ်လှူထားပြီး၊ စေတီအောက်ပိုင်း၌ မှန်စီရွှေချထားသည်ကို တွေ့ခဲ့ရသည်၊ ဘိုးတော်မင်းခေါင် ဂုနန်းစေတီအတွင်း၌ ဘိုးမင်းခေါင်ရုပ်တု၊ ဘိုးဘိုးအောင်ရုပ်တုနှင့်အလောင်းတော်နတ်သားရုပ်တုကို တန်းစီထုထားသည်၊ ဘိုးမင်းခေါင်၏ ရုပ်တုကို အလယ်ဝယ်ပြု၍ ထုထားသည်ကို တွေ့ခဲ့ရသည်၊

[၆၆] သက်တော် ၇၀ ကျော်ရှိပြီဖြစ်တဲ့ ဆရာတော်ကြီးတစ်ပါး၏ ကိုယ်တွေ့ဖြစ်ရပ်မှန်ကို မေးလျှောက်ထားသည်ရှိ၍ ဘိုးတော်ကြီးအောင်မင်းခေါင်၏ အကြောင်းကိုပြန်လည်မိန့်ကြားခြင်းဖြစ်သည်၊ ပုဂ္ဂိုလ်ရေးရာအရ ဆရာတော်ကြီးအား စိတ်အနှောက်အယှက်များ မဖြစ်စေလို၍ မူလဘွဲ့တော်ရင်းကို ဖော်ပြမထားခြင်းဖြစ်ပါသည်၊

သည်ဖြစ်၍ ဘိုးတော်ဘိုးမင်းခေါင်၏ ဘဝက ဘဝတွေစုံလှသည်။ ဘိုးဘိုးအောင်နှင့် ဘိုးမင်းခေါင်သည် တစ်ယောက်တည်း ဖြစ်သည်ဟု သူကိုယ်တိုင် ယုံကြည်ထား၍လားမသိ 'အောင်လဲငါပဲ၊ ခေါင်လဲငါပဲ' ဟူသော စကားသည် ဘိုးမင်းခေါင်ကိုယ်တိုင် ပြောကြားထားခဲ့သည်ဟု အဆိုရှိခဲ့သည်။

လူတို့၏ ယုံကြည်မှုများသည် အံ့မခန်းရှိလှသည်။ ယုံကြည်မိပြီ ဆိုလျှင် ဘာဆိုဘာမျှ အကြောင်းအကျိုး မဆင်ခြင်နိုင်ကြတော့ဘဲ ယုံမိယုံရာကို ယုံသွားကြတော့သည်။ ဘိုးတော်ကြီးများ သက်ရှိ ထင်ရှားရှိစဉ်က သူတို့ကိုယ်ပိုင် ဣဒ္ဓိဝိဓတန်ခိုးအစွမ်းများ ရှိတန် သလောက်တော့ ရှိနိုင်ပါလိမ့်သည်။ ဒီအချက်ကိုမူ ဘာမျှ စောဒက တက်စရာမရှိပါ။ သို့သော် သူတို့၏ ဘုန်းတန်ခိုးသည် မြတ်ဗုဒ္ဓ၏ ဘုန်းတန်ခိုးများနှင့် နှိုင်းစာလျှင် သေကွေးလွန်းလှ၍ ဘုရားစင်မှာ အတူထား၍ ကိုးကွယ်ထားခြင်းမျိုးသည် အကျိုးစီးပွားများ တိုးပွားဖို့ ထက် ဆုတ်ယုတ်ဖို့သာရှိကြောင်း သတိပေး၍ သိစေပါသည်။ ဘိုး တော်ကြီးများကို အကြည်ညိုလွန်၍ သေခြင်းတရားကို ထွက်ရပ်ပေါက် သီအိုရီဖြင့် အံတုထားနိုင်သော်လည်း သေခြင်းကို မယုံကြည်၊ လက်ခံ မထားနိုင်ခြင်းသည်ပင် 'ဘိုးတော်' ကိုးကွယ်သူများသည် မိစ္ဆာလမ်း ပေါ်သို့ ရောက်မှန်းမသိ ရောက်နေခဲ့သည်။ လှမ်းမှားမှန်းမသိ မှားနေခဲ့ သည်။ ဓမ္မဝိနယနှင့်မညီသော စွဲလမ်းမှုမျိုးသည် ယုံကြည်စွဲလမ်း သူတို့အား အမှားသံသရာကို ရှည်ကြာစေနိုင်သည်။ ထို့ကြောင့် ဉာဏ်အလင်းကို ထွန်းညှိပေးနိုင်သော သစ္စာတရားကို ဖော်ထုတ်ပေး နိုင်ရန် တရားသိသူများသည် ဤအချိန်မျိုး၌ ဆိတ်ဆိတ်မနေသင့်ပြီ။ ဗုဒ္ဓဘာသာဝင်များသည် စစ်မှန်သော ထေရဝါဒတရားတော်များကို စံနစ်တကျ ဖတ်ရှု၊ လေ့လာ၊ သင်ကြား၊ ပွားများ အားထုတ်ခြင်းဖြင့် အမှားသံသရာထဲမှ လွန်မြောက်နိုင်ကြပါစေ။ သစ္စာဉာဏ်အလင်းကို



ရရှိနိုင်ကြ၍ အမှောင်လမ်းနှင့်တူသော မိစ္ဆာလမ်းမှားများမှလည်း ကောင်း၊ သစ္စာလမ်း၏ ဆန့်ကျင်ဖက်ဖြစ်သော အမှားသံသရာလမ်းမှား များမှလည်းကောင်း လွန်မြောက်နိုင်ကြပါစေ။



## အခန်း(၉)

## အထက်ရှည်လိုခြင်းသည် တိုးတော် ဝိဇ္ဇာများတို့ ထိုးတွယ်ခြင်း၏ အခြေခံအကြောင်းတစ်ရပ်ဖြစ်နေသလော

လမ်းဟူသည် နှစ်သွယ်၊ နှစ်ခွရှိတတ်သလို၊ လမ်းဆုံ (လမ်းလေးခွဆုံ)၊ လမ်းခွမျိုးလည်း ရှိတတ်သည်။ လူ့ဘဝဟူသည် ဒုဂ္ဂတိလမ်းနှင့် သုဂတိလမ်းဟူ၍ လမ်းနှစ်သွယ်ရှိသည်။ ဤလမ်းနှစ်သွယ်တွင် မိမိလျှောက်လှမ်းလိုသောလမ်းကို လျှောက်လှမ်းခွင့်အား သဘာဝတရားက ပေးထားသည်။ လူ့ဘဝသည် လူ့ဘုံ၊ နတ်ဘုံ၊ ဗြဟ္မာဘုံဆိုသည့် ဘုံ(၃)ဘုံတို့တွင် ကြိုက်နှစ်သက်ရာ ဘုံသို့ သွားရောက်နိုင်ဖို့အတွက် မဟာအခွင့်ထူးကြီးတစ်ရပ်ကို ပေးအပ်ထားသလို၊ အပါယ်လေးဘုံ ကဲ့သို့သော ဒုဂ္ဂတိဘုံမျိုးသို့ ရောက်သွားအောင်လည်း အခွင့်အလမ်းများက တံခါးများဖွင့်ထားသကဲ့သို့လည်း ဖြစ်နေပြန်သည်။သတ္တဝါအများစုသည် သံသရာတစ်ခွင် ကျင်လည်စဉ်၌ အပါယ်လေးဘုံ၌သာ အနေများကြ၍ (စတ္တာရော အပါယာ သကဂေဟာသဒိသာ) လူ့ဘဝနှင့်ကြုံခိုက်၊ အသိဉာဏ်ရှိသော ပုထုဇဉ်ဘဝနှင့် နေရခိုက် အသိတရားကို ဉာဏ်နှင့်ယှဉ်စေလျက် သတိကြီးစွာထားနိုင်ပါမှ

တော်ကာကြပေမည်။ ပုထုဇဉ်ဘဝမို့ စိတ်ရှိတိုင်း ထင်ရာစိုင်းကြမည်ဆိုလျှင် အပါယ်ဘုံကဲ့သို့သော ဆင်းရဲသောဘုံမျိုးကို ကျရောက်သွားနိုင်သလို၊ ထိုဘုံမျိုးမှ ပြန်လည်လွတ်မြောက်လာဖို့ အခွင့်အလမ်းများလည်း နည်းပါးသည်ထက် နည်းပါးသွားနိုင်သည်ကို သတိမူသင့်ပါသည်။ အသိဉာဏ်ရှိသော ကလျာဏပုထုဇဉ်များသည် အပါယ်လေးပါး၌ ကြရောက်မည်ကို ကြောက်ရွံ့တတ်ကြသည်။ သို့သော် ထိုကဲ့သို့သော ဘုံဘဝမျိုးသို့ ကျရောက်မသွားနိုင်စေရန် သတိတရားဖြင့် ကိုယ့်ကိုယ်ကို ကာကွယ် စောင့်ရှောက်သင့်လှပေသည်။ ပုထုဇဉ်တို့၏ ဘဝတဏှာသည် အားကြီးသည်။ ဘဝအတွက် မိုက်ရူးရဲဆန်သည့် သတ္တိမျိုးကို မွေးထားလိုကြသည်။ အရေးကြုံလျှင် ဘဝအတွက် စွန့်စားရဲသည့်သတ္တိ၊ မိုက်ရဲသည့်သတ္တိ၊ ရင်ဆိုင်ရဲသည့်သတ္တိ၊ စွန့်လွှတ်ရဲသည့်သတ္တိများကို မွေးမြူထားကြလျက် သံသရာတည်းဟူသော ဘဝတွေထဲ၌ ဆက်လက်ရှင်သန်နိုင်ရေးအတွက် တရားဓမ္မများကို လျစ်လျူရှုထားလိုကြသည်။ ဘဝလွတ်မြောက်ရေးလမ်းကို လှမ်းဖို့အတွက် သိက္ခာသုံးပါး(သီလ၊ သမာဓိ၊ ပညာ) အကျင့်များကို ကျင့်ကြံအားထုတ်ကြရန်မှု ပုထုဇဉ်တို့၏ ခြေလှမ်းများသည် နှေးကွေးနေတတ်သည်။

ဘဝဟူသည် ပုထုဇဉ်များ တွေးထင်ထားသလို နှစ်သက်သာယာဖွယ်ကောင်းသောလမ်းခရီးကို လျှောက်လှမ်းနေရခြင်း မဟုတ်ပေ။ သံသရာခရီးလမ်းမှာ ဆင်းရဲနှင့်ချမ်းသာနှိုင်းစာလျှင် ဆင်းရဲတွေကသာ များနေပြီး၊ ချမ်းသာဆိုတာ မရှိသလောက်ပင်။ ပုထုဇဉ်များသည် အများစုအားဖြင့် ချမ်းသာနှင့် ဆင်းရဲကို ဉာဏ်နှင့်ခွဲခြားပြီး မသိနိုင်ကြပေ။ ထိုကဲ့သို့ခွဲခြား၍ မသိနိုင်ခြင်းကြောင့် သံသရာရေယဉ်ကြောဝယ် သူတို့အတွက် ဘဝတွေဆိုတာ အစမထင်၊ အဆုံးမမြင်နိုင်အောင်ပင် ရှိနေခဲ့သည်။ သာသနာတော်အတွင်း၌ လူတိုင်းနီးနီးရပိုင်ခွင့်ရှိသော သစ္စာလေးပါးဆိုသည့် အမှန်တရားကို အဝိဇ္ဇာနှင့်

များယှဉ်းစွာ လဲယူနိုင်ရဲသည့်သတ္တိ၊ နိဗ္ဗာန်ဆိုသည့် အမတ (မသေ) တရားကို အသေမဆုံးနိုင်သောဘဝတဏှာတွေနှင့် ဟန့်တားထားရဲသည့်သတ္တိ၊ ဤကဲ့သို့သော သတ္တိမျိုးတွေနှင့် ပုထုဇဉ်အများစုသည် ဘဝအာရုံ၊ လောကီအာရုံကာမဂုဏ်တွေကို စွဲစွဲလမ်းလမ်းကြီး နှစ်ခြိုက်သာယာနေတတ်ကြသည်။ ထို့ကြောင့် သည်ဘဝ၊ သည်ခန္ဓာ၊ သည်ရုပ်ဝတ္ထုများသည် ပုထုဇဉ်တစ်ယောက်၏ ဘဝအတွက် အဓိကအရေးကြီးဆုံးအရာဖြစ်နေခဲ့သည်။အဝိဇ္ဇာဓာတ်ခံအားကြီးသော ပုထုဇဉ်တို့၏ဘဝသံသရာခရီးလမ်းသည် 'ပျောက်သောလမ်းမှာ စမ်းတဝါးဝါး'ပင်။

အသက်ဟူသည် အတို၊ အရှည်ရှိနေ၍ ဘဝတဏှာအားကြီးသော ပုထုဇဉ်ပုဂ္ဂိုလ်တစ်ယောက်သည် အသက်ရှည်ရှည်နေလိုလှသည်မှာ မဆန်းပြီ။နေ့နေ့ညညဆိုသလို တောင်းတနေတတ်ကြသည်။ အသက်ရှည်နည်းကို ပေးနိုင်မည်ဆိုလျှင် လူကိုပဲဖြစ်ဖြစ်၊ နတ်ကိုပဲဖြစ်ဖြစ်၊ ဘိုးတော်ဝိဇ္ဇာများကိုပဲဖြစ်ဖြစ် ယုံကြည်ကိုးကွယ်ဖို့ အဆင်သင့်အနေအထားမျိုးမှာ ရှိနေတတ်ကြသည်။ ဘာသာတရားတိုင်း၏ပန်းတိုင်သည် အသေကင်းခြင်း၊ ငြိမ်းချမ်းခြင်း၊ ချမ်းသာခြင်းစသည်ဖြင့် နောက်ဆုံးပန်းတိုင်၏အဓိပ္ပါယ်ကို အမျိုးမျိုးဖွင့်ဆိုထားခဲ့ကြသည်။ သက်ဆိုင်ရာဘာသာတရားတိုင်းလိုလို အသက်ရှည်ခြင်းကို ကောင်းသော အကျိုးတရား၌ ထည့်သွင်းဖော်ပြထားကြ၍ အသက်ရှည်ရှည်နေလိုသူတို့အတွက် အဓိပ္ပါယ်ရှိနေသယောင်ယောင် ဖြစ်နေသည်။

ဘာသာတရားယုံကြည်ကိုးကွယ်မှုကို လေ့လာရေးရှုထောင့်မှ လေ့လာသုံးသပ်ကြည့်လျှင် ဘာသာတရားတိုင်းလိုလို အသေကင်းခြင်းကိုပင် ပန်းတိုင်အဖြစ်ထားရှိကြ၍ စိတ်ဝင်စားဖွယ်ကောင်းနေသည်။ဘိုးတော် ဝိဇ္ဇာတို့၏ 'ထွက်ရပ်ပေါက်' သီအိုရီသည် 'ဘိုးတော်၊ ဝိဇ္ဇာ'ယုံကြည်မှုနှင့် ခရစ်ယာန်တို့၏ယုံကြည်မှု နှစ်ခုအကြား ပေါင်းစုထားသကဲ့သို့ ဖြစ်နေသည်။ဂျေးဆက်(စ်)ခရိုက်(စ်)၏ ရှင်သန်ထမြောက်

သွားခြင်းကို ပုံတူယူလျက် 'ထွက်ရပ်ပေါက်' ပုဂ္ဂိုလ်တို့၏ အရှင်ထွက်ထွက်သွားသည့် သီအိုရီသည် တိုက်တိုက်ဆိုင်ဆိုင်ဆိုသလို တူညီနေသကဲ့သို့ ဖြစ်သည်။ ဗုဒ္ဓဘာသာဝင်တို့၏သီအိုရီသဘောအရ ဤကမ္ဘာဝယ် ဘုရားငါးဆူပွင့်တော်မည်ဖြစ်၍ နောက်ဆုံးပွင့်တော်မူမည့် အရိမေတ္တေယျဘုရားရှင်လက်ထက်ဝယ် ဘုရားရှင်ဟောကြားသောတရားတော်ကို နားကြားရပြီး ကျွတ်တမ်းဝင်လိုသူတို့သည် လူ့ဘုံ၌ ဘုရားရှင် သက်တော်ထင်ရှားပွင့်သည်အထိ 'ဘိုးတော်၊ ဝိဇ္ဇာများ'၏ အသက်ရှင်ခြင်းမျိုးနှင့် အသက်ရှင်လျက်စောင့်ဆိုင်းနေကြဟန်ရှိသည်။ သို့သော် 'ထွက်ရပ်ပေါက်' သီအိုရီ၏ကျယ်ပြန့်သောမူလအဓိပ္ပါယ်ကိုမူ ထွက်ရပ်ပေါက်ပုဂ္ဂိုလ်များသာ သိပေလိမ့်မည်။

နိဗ္ဗာန်၏ သဘောသဘာဝများကို ဉာဏ်နှင့်ယှဉ်၍ မသုံးသပ်၊ မဆင်ခြင်နိုင်ကြလျှင် အသေကင်းသည့် သီအိုရီသည် ဘာသာတစ်ခုနှင့်တစ်ခု အယူအဆခြင်းတူညီနေသကဲ့သို့ ရှိနေသည်။ ဥပမာ၊ ခရစ်ယန်နှင့် အစ္စလာမ်ဘာသာတရား၏ နောက်ဆုံးပန်းတိုင်သည် ဘယ်တော့မှ မသေနိုင်သော၊ အမြဲထာဝရထည်ရှိသော ကောင်းကင်ဘုံဖြစ်သည်။ ထိုဘုံကို အသေကင်းသောနေရာဟု ထိုဘာသာကို ယုံကြည်ကိုးကွယ်သူများက လက်ခံထားကြသည်။ ဟိန္ဒူဘာသာတရား၏ နောက်ဆုံးပန်းတိုင်မှာလည်း အတ္တမန်ဟုခေါ်သည့် အင်ဒဗီကျူရယ်ဆိုး(လ်) (Individual soul) သည် မဟတ္တမဟုခေါ်သည့် ယူနီဗာဆယ်ဆိုး(လ်) (Universal soul) (သို့မဟုတ်) ဗြဟ္မာ့ဘုံက မဟာဗြဟ္မာကြီးနှင့် ပေါင်းဆုံသွားသည်ဟု ယုံကြည်လက်ခံထားသည်။ ဟိန္ဒူဘာသာဝင်တို့သည် ထိုဗြဟ္မာ့ဘုံကို ထာဝရမသေသည့်နေရာဟု ယုံကြည်လက်ခံထားကြသည်။

ဗုဒ္ဓဘာသာတရား၏ နောက်ဆုံးပန်းတိုင်ကို လေ့လာသုံးသပ်





ကြည့်ပြန်တော့လည်း 'အမတ'ဟု ခေါ်သည့် မသေတရားပင်ဖြစ်သည်။ မသေတရားသည်ပင် နောက်ဆုံးပန်းတိုင်ဖြစ်နေသည်ကို တွေ့ရပြန်သည်။ 'အမတ'လို့ပဲခေါ်ခေါ်၊ 'နိဗ္ဗာန'လို့ပဲ ခေါ်ခေါ် နောက်ဆုံးပန်းတိုင်ကတော့ အသေကင်းသည့်နေရာ (သို့မဟုတ်) ထာဝရ မြဲမြဲသည့်သဘောတရားသည့် အဓိပ္ပါယ်သက်ရောက်သည်။ သို့သော် ဤနေရာ၌ ယုံကြည်ကိုးကွယ်မှု ဘာသာတရားများအကြား ထူးခြားနေသည့်အချက်များကို သတိပြု၍လေ့လာကြည့်ရှုလျှင် တခြားဘာသာဝင်များ ကိုးကွယ်ယုံကြည်ထားသော ထာဝရတည်ရှိနေသည်ဟု ယူဆထားသော ကောင်းကင်ဘုံနှင့် ဗြဟ္မာ့ဘုံနန်းများသည် တကယ်ပင် ထာဝရတည်ရှိနေသလော နားလည်ဖို့သင့်သည်။ ထေရဝါဒရှုထောင့်မှ လေ့လာသုံးသပ်လျှင် ထိုဘုံနန်းများသည် တကယ်ပင် အမြဲတည်ရှိနေသည်မဟုတ်။ ထာဝရဘုရားဆိုသည်မှာလည်း ယုံကြည်သူတို့ စိတ်ထဲမှာသာ တည်ရှိနေသောအရာများဖြစ်သည်။ ထာဝရဗြဟ္မာဆိုသည်မှာလည်း ယုံကြည်မှုသဘောဖြင့်သာ တည်ရှိနေသောအရာများဖြစ်သည်။ 'မမြဲသောအရာကို မြဲသည်' ဟု ယုံကြည်စွဲလမ်းမှုမျိုးကို ဗုဒ္ဓဘာသာတရား၌ သဿတဒိဋ္ဌိဟု ခေါ်သည်။

ဤသို့ဆိုလျှင် ဗုဒ္ဓဘာသာဝင်များ ယုံကြည်လက်ခံထားသော 'နိဗ္ဗာန်'ကိုလည်း 'နိစ္စ-မြဲသည်'ဟု ယုံကြည်ထားကြသည်ဖြစ်၍ 'သဿတဒိဋ္ဌိ' အယူဟုပင် ခေါ်နိုင်သည်မဟုတ်ပါလောဟု တစ်စုံတစ်ယောက်က မေးလာခဲ့သော် အဖြေကား 'No' ဟူ၍သာ ဖြေဆိုရမည်။ အဘယ့်ကြောင့်ဆိုသော် 'သဿတဒိဋ္ဌိ' အယူမျိုးဆိုတာ ပုဂ္ဂိုလ်သတ္တဝါ၌ တည်ရှိသော အသက်ကောင်၊ ဝိဉာဉ်ကောင်သည် ထာဝရ တည်မြဲနေပြီး၊ ထိုတစ်ကောင်တည်းကပင် ကောင်းကင်ဘုံ (သို့မဟုတ်) ဗြဟ္မာ့ဘုံသို့ ပြောင်းရွှေ့နေထိုင်သည်ဟု ယုံကြည်သော အယူဝါဒမျိုးဖြစ်၍ 'သဿတဒိဋ္ဌိ' ဟုပင် ခေါ်ဆိုရခြင်းဖြစ်သည်။

'နိဗ္ဗာန်'ဆိုသည့် သန္တိသုခ–အငြိမ်းဓာတ်ကို မျက်မှောက်ပြုသိသွားသော ရဟန္တာအရှင်မြတ်များ၏ ရုပ်နာမ်သည် သေပြီးသည့်နောက် ပိုင်း၌ ချုပ်ခဲ့ပြီ။ အဝိဇ္ဇာဓာတ်က အခြေခံထား၍ စိတ်ကိုပင် အသက် ကောင်၊ ဝိညာဉ်ကောင်အနေနှင့် အများစုက အသိအမှတ်ပြုထားသော ရဟန္တာအရှင်မြတ်များ၏ စိတ်သည်လည်း သေလွန်ပြီးနောက် ပိုင်း၌ ချုပ်ခဲ့ပြီ။ မြဲသည်ဟူ၍ ဘာတစ်ခုမျှမရှိ။ထို့ကြောင့် 'နိဗ္ဗာန်'၏ သဘောသဘာဝသည် 'နိစ္စ–မြဲသည်'ဟု ယူဆထားသော်လည်း 'သဿတဒိဋ္ဌိ' အယူတွင်း၌ ပါဝင်ပတ်သက်ခြင်းမရှိကြောင်း သိနိုင် ပေသည်။ အသိခက်သည်။ ဉာဏ်သဘောသက်ဝင်နိုင်သည်အထိ လေ့လာသုံးသပ်၍ မြတ်ဗုဒ္ဓ၏ တရားတော်များကို နားလည်သဘော ပေါက်နိုင်ကြပါစေ။

မည်သို့ပင်ရှိစေ အသက်ရှည်လိုခြင်းသည် လူသားများ တောင်းတအပ်သော ဆန္ဒများအနက် ထိပ်ဆုံးမှပါဝင်နေသော ဆန္ဒ တစ်ခုဖြစ်သည်။ စည်းစိမ်ဥစ္စာ၊ ရာထူးဂုဏ်သိန်တို့ကို မက်မောကြ သော်လည်း အသက်ရှည်မှုအတွက် စည်းစိမ်ဥစ္စာတို့ကို စွန့်လွှတ်ရဲ သည်။ အသက်ရှည်မှုအတွက် ရာထူးဂုဏ်သိန်နှင့်လည်း လဲလှယ်ရဲ သည်။အသက်ရှည်လိုမှုအတွက် တစ်ခါတစ်ရံ၌ လုပ်သင့်တာကို မလုပ် နိုင်ဘဲ ထင်ရာစိုင်းခဲ့ကြသည်။ အယူမှားခြင်း၊ မကောင်းမှု ဒုစရိုက်မှု များကိုပြုခြင်း၊ သတိမယှဉ်နိုင်ဘဲ ထင်မိထင်ရာပြုလုပ်ခြင်းစသော အမှုမှန်သမျှတို့သည် ဆင်းရဲခြင်း၏ အခြေခံမူလအကြောင်းတရားများ ဖြစ်သည်။ သို့သော် ချမ်းသာလိုခြင်း၊ အသက်ရှည်လိုခြင်းသည် ပုထုဇဉ်အများစု၏ ဆန္ဒဖြစ်သည်။ ဆန္ဒရှိတိုင်း ထင်ရာစိုင်းလျက် ကိုယ်ထင်ရာကို ထင်တိုင်းလုပ်နေခြင်းသည် အန္ဓပုထုဇဉ်တို့၏ အမူ အကျင့်မျှသာဖြစ်သည်။ အန္ဓပုထုဇဉ်ဘဝမျိုးနှင့် နေရခြင်းသည် ဘဝ အတွက် အပြစ်တွေ များနေတတ်၍ ကလျာဏပုထုဇဉ်ဘဝမျိုးနှင့်



နေနိုင်ရန် စာတတ်ပေတတ်ဖြစ်သော သူတော်ကောင်းဓာတ်ရှိသော ရဟန်းရှင်လူများသို့ ချဉ်းကပ်၍ အမှားနှင့်အမှန်၊ ဓမ္မနှင့် အဓမ္မကို ခွဲခြားနားလည်အောင် လေ့လာဆွေးနွေးသင့်ကြပေသည်။ လူနှင့်ဂုဏ်၊ ဘဝနှင့်တဏှာ၊ ရာဂနှင့်အချစ်၊ အသစ်နှင့်အဟောင်း စသော ဤ အရာများသည် သဘာဝအားဖြင့် မတူညီကောင်း၍ ခွဲခွဲခြားခြား နားလည်ထားသင့်သည်။ သတိတရားရရှိရေးကို အချိန်ပေး၍ ဘာဝနာ တရားကို ရှာမှီးတတ်လျှင် တန်ဖိုးရှိသောအချိန်တွေကို ဘယ်နေရာမျိုး ၌ အသုံးပြုသင့်သည်ကို ကိုယ်တိုင်နားလည်လာလိမ့်မည်။ ထိုအကျိုး များအတွက် မှားယွင်းစွာယုံကြည်လက်ခံထားသော ကိုးကွယ်မှုများကို စွန့်လွှတ်သင့်က စွန့်လွှတ်ရပေလိမ့်မည်။ သတိတရားဟူသည် ဘယ် သောအခါမျှ ပိုသည်ဟူ၍မရှိ။

## အသက်ရှည်ရှည် ခင်ခင်မင်မင်

ယနေ့မျက်မှောက်ခေတ်၌ အသက်ရှည်လိုသောသူများအတွက် အသက်ရှည်ဆေးကို လူအများ စိတ်ဝင်စားကြသည်။ 'အဘိဝါဒန သီလိဿ'စသော ဘုရားရှင်၏ အသက်ရှည်နည်း၊ 'စတ္တာရော ပဥ္စ အာလောပေ'စသော ရှင်သာရိပုတ္တရာ၏ ကျန်းမာနည်း၊ အသက်ရှည် နည်း၊ရွှေဟင်္သာဆရာတော်ဘုရားကြီး၏ ကျန်းမာနည်း၊ အသက်ရှည် နည်း၊အင်္ဂလိယဆရာတို့၏ ဓာတ်ပြာစားခြင်းအစွမ်းဖြင့် အသက်ရှည်နည်း နှင့် ရသာယနဆေးစွမ်းဖြင့် အသက်ရှည်နည်း စသည်ဖြင့် အသက် ရှည်နည်းသည် နည်းပေါင်းများစွာ ရှိပေလိမ့်မည်။ ထိုနည်းများသည် သူနည်းနှင့်သူ အံ့ဖွယ်ရှိပါသည်။ ထိုအသက်ရှည်နည်းများထဲတွင် ရှေးဦးစွာ ဘုရားရှင်၏ အသက်ရှည်နည်းကို ခေတ်အမြင်နှင့် သုံးသပ် တင်ပြလိုပါသည်။ ဘုရားရှင်သည် အောက်ဖော်ပြပါအတိုင်း အသက် ရှည်နည်းကို ဟောကြားထားသည်။

အဘိဝါဒနသီလိဿ၊ နိစ္စံ ဝုမ္မာပစာယိနော။
စတ္တာရော ဓမ္မာ ဝမုန္တိ၊အာယု ဝဏ္ဏော သုခံ ဗလံ။[၆၇]

**အနက်**။။ အဘိဝါဒနသီလိဿ၊ ရှိခိုးခြင်းအလေ့ရှိထသော။ နိစ္စံ၊ အမြဲမပြတ်။ ဝုမ္မာပစာယိနော၊ အသက်, ဂုဏ်သိက္ခာ သာသူ, ကြီးသူတို့ကို ရိုသေမှုပြုလေ့ရှိသူအား။ အာယု၊ အသက်တမ်းသည်လည်းကောင်း။ ဝဏ္ဏော၊ ရုပ်ရည်အဆင်းသည်လည်းကောင်း။သုခံ၊ ချမ်းသာခြင်းသည်လည်းကောင်း။ ဗလံ၊ ခွန်အားသည်လည်းကောင်း။ စတ္တာရော၊ လေးပါးကုန်သော။ ဓမ္မာ၊ တရားတို့သည်။ ဝမုန္တိ၊ တိုးပွားကြလေကုန်၏။ (ပရိတ်ကြီးနိဿယသစ်)

**စကားပြေ**။ ။ရှိခိုးခြင်းအလေ့ရှိလျက် အသက်သိက္ခာ ကြီးသူတို့ကို အရိုအသေပြုသောသူအား အသက်၊ အဆင်း၊ ချမ်းသာခြင်း၊ ခွန်အား အကျိုးတရားလေးပါး တိုးပွားကြကုန်၏။[၆၈]

အဓိပ္ပါယ်မှာ သီလစသောဂုဏ်သိက္ခာ (ဂုဏဝုဍ္ဎိ)၊ အရွယ်အားဖြင့်ကြီးရင့်ခြင်းဟူသော အသက်သိက္ခာ (ဝယဝုဍ္ဎိ) ရှိသူများအား ရှိခိုးခြင်း၊ အရိုအသေပေးခြင်းစသည်ကို ပြုသောသူတို့အား အသက် ရှည်ခြင်း၊ အဆင်းလှခြင်း၊ ချမ်းသာများခြင်း၊ ခွန်အားဗလကြီးမားခြင်း ပညာဉာဏ် ကြီးမားခြင်းစသော အကျိုးကျေးဇူးများကို ရရှိနိုင်သည်ဟု ဟောတော်မူသည်။ ထိုဟောတော်မူချက်ကို အချို့ပုဂ္ဂိုလ်တို့သည် ခေတ်အမြင်အားဖြင့် စဉ်းစားကြည့်လိုကြသည်။'အသက်သိက္ခာ၊ ဂုဏ် သိက္ခာကြီးမားသူတို့ကို အရိုအသေပေးရုံမျှဖြင့်၊ ရှိခိုးရုံမျှနှင့်ဖြင့် အသက်ရှည်နိုင်တယ်ဆိုတာ ဖြစ်နိုင်ပါမည်လော။' ဆေးသိပ္ပံဆရာ တို့၏ လေ့လာသုံးသပ်ချက်အရ အသက်ရှည်ခြင်း အကြောင်းများ ထဲတွင် သောကကင်းဝေးခြင်း၊ ပူပန်မှုနည်းပါးခြင်း၊ ခံစားမှုဝေဒနာ နည်းပါးခြင်း၊ ဖိစီးမှုကင်းခြင်း၊ စိတ်ချမ်းသာခြင်း စသော စိတ်ပိုင်း ဆိုင်ရာ ဖိစီးမှုများနည်းပါးခြင်းသည် အနာကင်းခြင်း၊ အသက်ရှည် ခြင်း၏ အကြောင်းအထောက်အပံ့များဖြစ်ကြောင်း သုတေသနပြု၍ လက်ခံထားကြသည်ကို သတိမူသင့်ပါသည်။

အသက်သိက္ခာကြီးသူတို့ကို အရိုအသေပေးခြင်း၊ လေးစား ခြင်းစသော အကြောင်းများကြောင့် အရိုအသေပေးသူတို့၌ သီလ သိက္ခာများ ကောင်းမွန်လာနိုင်သည်။ စိတ်ဓာတ်များလည်း ကောင်းမွန် လာနိုင်၍ စိတ်များလည်း ကြည်လင်လာနိုင်သည်။ အေးချမ်း သာယာမှုမျိုးလည်း ရှိလာနိုင်သည်။ဤကဲ့သို့ စိတ်ဓာတ်များ ကြည်လင် လာခြင်း၊ အေးချမ်းသာယာရှိလာခြင်းများသည် အသက်ရှည်ခြင်း၏ အခြေခံအကြောင်းတရားများဖြစ်ကြောင်း မည်သူမျှငြင်းနိုင်မည် မဟုတ်ပေ။ ဤနေရာ၌ မြတ်စွာဘုရားသည် ထိုသို့ပြုခြင်းသည် အသက်ရှည်ကြောင်းတရားများဖြစ်သည်ဟုသာ ဟောထားသည်။ ထိုသို့ပြုခြင်းဖြင့် ဘယ်၍ ဘယ်မျှထိ အသက်ရှည်နိုင်သည်ဟူ၍ကား ဟောကြားထားခြင်းမရှိပါ။ ဤနည်းဖြင့် မြတ်ဗုဒ္ဓ၏ ဟောကြားချက် သည် ဓမ္မဝိနယအမြင်နှင့်လည်းကောင်း၊ လောကအမြင်နှင့် လည်း ကောင်း ညီညွတ်စေသည်။ သေခြင်းဆိုသည့် သခါရသဘောတရားကို

[၆၇] ဓမ္မပဒ၊ နာ ၂၉၊
[၆၈] ဝါသေဋ္ဌာဘိဝံသ၊ အရှင်၊ ပရိတ်ကြီးနိဿယသစ်၊ မိုးကြည်စာပေ၊ ရန်ကုန်မြို့၊ ၁၉၈၉၊ နာ ၅၅၃-၅၅၄

လွန်ဆန်၍ ဟောကြားထားခြင်းမျိုးမဟုတ်၍ တရားသဘောအားဖြင့် ယုတ္တိတန်လှပေသည်။

ယုတ္တိမတန်သည်က အသက်ကို ထောင်ချီ၍ ဆွဲဆန့်ထားနိုင်သည်ဟု ယုံကြည်ထားသော 'ဘိုးတော်၊ ဝိဇ္ဇာ' ဂိုဏ်းဝင်များ၏ ယုံကြည်ယူဆချက်ပင်ဖြစ်သည်။ 'ဘိုးတော်၊ ဝိဇ္ဇာ' တစ်ယောက် ထွက်ရပ်ပေါက်ပုဂ္ဂိုလ်ဘဝမျိုးသို့ ရောက်ရှိသွားခဲ့လျှင် ထိုထွက်ရပ်ပေါက်ပုဂ္ဂိုလ်၏ အသက်သည် ထောင်ချီ၍ပင် ရှည်နိုင်ကြောင်း ယုံကြည်ယူဆ စွဲလမ်းထားကြသည်မှာ ယုံမှုကိုယ်ကွယ်မှု ဘာသာတရား၌ အစွန်းရောက်လွန်းသည်ဟု ယူဆမိသည်။ ထိုအယူအဆသည် ခရစ်ယာန်ဘာသာဝင်တို့ ယုံကြည်ယူဆထားသော ယေရှုခရစ်တော်၏ ရှင်သန်ထမြောက်ခြင်း အယူအဆနှင့် နီးနီးစပ်စပ်ရှိနေသည်ကို လေ့လာသုံးသပ်မိသည်။ ဘိုးတော်၊ ဝိဇ္ဇာဂိုဏ်းဝင်များ၏ အယူအဆအရဆိုလျှင် အသေထွက်ထွက်သောအယူအဆနှင့် တိုက်ဆိုင်လျက်ရှိနေသည်။ သို့သော် ဖြစ်ပေါ်လျက်ရှိသော အနေအထားအပေါ်၌ အမိပ္ပါယ်ပြန်ဆိုခြင်းကား လုံးဝခြားနားသည်။ ဤအရာ၌ မိမိ၏ကိုယ်ပိုင် အသိဉာဏ်ကို ကွန့်မြူးလျက် စဉ်းစားဝေဖန် သုံးသပ်နိုင်ကြပါစေ။

ခြားနားမှုသာခြားနား ယုံကြည်ချက်ကို တစ်ပြားသားမျှ မလျှော့လိုသူတို့ကား ဆေးဝိဇ္ဇာ၊ အင်းဝိဇ္ဇာ၊ ပြဒါးဝိဇ္ဇာ၊ သံဝိဇ္ဇာ ဟူသော ဝိဇ္ဇာအတတ်များကို ပေါက်ရောက်သော် ပေါက်ရောက်ငြား ဆက်လက်ယုံကြည်လိုက်စားနေသူများဖြစ်သည်။ အချိန်တွေကုန်၊ ငွေတွေကုန်၊ လုပ်ပင်ပန်းခံကာ ပညာရပ်များကို လိုက်စားကြရင်း အသက်များသာ ကုန်ဆုံးပျောက်ပျက်သွားကြသည်။ သူတို့ဆန္ဒများကား ပြည့်ဝမသွားခဲ့ကြပေ။ သို့သော် ဘိုးတော်၊ ဝိဇ္ဇာများကို ယုံကြည်ကိုးကွယ်သူများသည် ချမ်းသာရေးနှင့် အသက်ရှည်ရေး ဆုလာဘ်နှစ်မျိုးကို အဓိက





အားဖြင့် မျှော်လင့်ကြလျက် ငှက်ပျောပွဲပြင်၊ အုန်းပွဲတင်လျက် 'ဘိုးတော် ဝိဇ္ဇာများ' ကို ဘုရားရှင်နှင့်အတူ ဘုရားစင်ပေါ်မှာ အတူထား၍ ပူဇော် ပသနေကြသည်မှာ မကြံစည်အပ်၊ မကြံစည်ရာဖြစ်သော အမှုမျိုး ပြုနေရာရောက်သည်။ စာရေးသူအတွက်တော့ အံ့သြစရာဝေ ဖြစ်ရတော့သည်။

## လူတိုင်း အသက်ရှည်နိုင်သလား

လူတိုင်း အသက်ရှည်လိုကြသော်လည်း အသက်ရှည်ရှ နေခွင့်ကို ကံတရားက လူတိုင်းကို ပေးမထားပါ။ အကြောင်းကင်း အကျိုးတရားများ ဖြစ်ပေါ်ခွင့်မရှိနိုင်ဟု ဖော်ပြထားသော ပါဠိစာ ကျမ်းဂန်များ၌ အသက်ရှည်ခြင်း၊ မရှည်ခြင်းအကြောင်းကို ဖော်ပြထ သည်။ စူဠကမ္မဝိဘင်္ဂသုတ်၌ မြတ်ဗုဒ္ဓ ဟောကြားထားသည်မှာ ပါဏ တိပါတ–သူတစ်ပါး၏အသက်ကို သတ်ဖြတ်တတ်သူများသည် အသက တိုတတ်ပြီး၊ သူတစ်ပါးအသက်ကိုမသတ်ဘဲ၊ သနားကြင်နာတတ်သူမျ သည် အသက်ရှည်နိုင်ကြောင်းကို ဟောကြားထားတော်မူ၏။ သ တစ်ပါးအသက်ကို သတ်ဖြတ်ခြင်းဟု ဆိုအပ်သောကံကို ကျူးလွန်ခြ တည်းဟူသော သီလအားနည်းသူများသည် အသက်တိုတတ်ပြီး၊ သူ တစ်ပါးအသက်ကိုသတ်ဖြတ်ခြင်းဟုဆိုအပ်သောကံကို ရှောင်ကြဉ်သူ သည် အသက်ရှည်တတ်ကြသည်ဟု ဆိုလိုသည်။ ယနေ့ မျက်မှောက် ခေတ်၌ အသက်ရှည်သင့်သလောက် အသက်မရှည်ကြဘဲ၊ အသက်တို ရခြင်း အကြောင်းတရားများစွာကို တွေ့နေရသည်။ သီလအားနည်း၍ အသက်တိုမှုဖြစ်နိုင်သလို၊ အစဉ်အလာများကို ခေတ်နှင့်လျော်ညီ အောင် မပြောင်းလဲကြ၍ အသက်တိုရသည့် အကြောင်းများလည်း ပါဝင်နေသည်ကို တွေ့ရသည်။ ဥပမာ၊ လက်ရေတပြင်တည်း

စားသောက်သည့် ဓလေ့ထုံးစံများ(ဒေါင်းလန်းတစ်ခုတည်း သို့မဟုတ် ဇလုံတစ်လုံးတည်း၌ ထမင်း၊ ဟင်းများကို စုပုံထည့်ထား၍ အတူစားသော အလေ့အကျင့်များ)၊ မွေးနေ့ပါတီများ၌ မွေးနေ့ကိတ်မုန့်ကို မားဖြင့်ဖြတ်၍ ပုဂံပြားတစ်ချပ်၌ထည့်ကာ ဇွန်းတစ်ချောင်းတည်းဖြင့် ဝေငှစားသောက်သည့် အလေ့အထများ၊ ထမင်းပွဲများ၌ ဇွန်းတစ်ချောင်းတည်းသုံး၍ ထိုဇွန်းဖြင့် လူတိုင်းဟင်းချိုဟင်း ခပ်သောက်၍ စားရသည့် ဓလေ့ထုံးစံများ၊ သောက်ရေအိုးများတွင် ရေခွက်တစ်ခုတည်းထား၍ ထိုရေခွက်ဖြင့် လူတိုင်းခပ်သောက်နေသည့် ဓလေ့ထုံးစံ များကြောင့် မြန်မာလူမျိုးများ မဖြစ်သင့်သော (ဘီပိုးစသော) ကူးစက် တတ်သောရောဂါများ ရရှိနေကြခြင်းဖြစ်သည်။ စဉ်းစားကြည့်လျှင် လူမျိုးအတွက် ဝမ်းနည်းဖို့ ကောင်းလှ၏။ ပြည်သူများ ကျန်းမာရေး အသိစိတ်ဓာတ်များ နိုးကြားနိုင်ကြပါစေ။

အသက်ရှည်နည်းများတွင် ရှင်သာရိပုတ္တရာ၏ ဆွမ်းစားနည်းမှာ ဆွမ်းစားသောအခါ ဆွမ်းကို ဝမ်းခေါင်းဆန့်သလောက် အဝအပြဲ မစားသောက်ပဲ လေးလုပ်၊ ငါးလုပ်ချန်၍ စားသောက်သော နည်းဖြစ်သည်။ မြတ်စွာဘုရား လက်ထက်တော်ကာလက ဗိုက်ခေါက်ထူကြီးနှင့် ကိုယ်ခန္ဓာအဝလွန်းနေ၍ အသွားအလာခက်ခဲနေသော ပသေဒနီကောသလမင်းကြီးအား အစားအစာ စားသောက်သောအခါ ဝမ်းဗိုက်ခေါင်းဆန့်သလောက် မစားမသောက်ဘဲ လျှော့ပေါ့၍စားသောက်ရန် ညွှန်ကြားတော်မူချက်ကို လိုက်နာလျက် ပွဲတော်တည်သောအခါ ထမင်းဟင်းများကို လျှော့၍ စားခဲ့သည်မှစ၍ ပသေဒနီကောသလမင်းကြီး၏ ခန္ဓာကိုယ်မှာ တစ်နေ့တခြား ပေါ့ပါးလာပြီး ကျန်းမာရေးများလည်း ကောင်းမွန်လာ၍ သူ၏သက်တမ်းသည် ရှည်သင့်သလောက် ရှည်ခဲ့သည်။ ဤအသက်ရှည်နည်းသည် အစားအသောက်ကို စားသုံးရာ၌ ဘောဇနေမတ္တညုနည်း (အစားအစာကို အတိုင်းအရှည်သိပြီး



ချင့်ချိန်စားနည်းသောက်ရမည်)နှင့်လည်း လိုက်လျောညီထွေ ရှိလှပေသည်။

ရွှေဟင်္သာဆရာတော်ဘုရားကြီး၏ ကျန်းမာ၊ အသက်ရှည်နည်းမှာလည်း တမျိုးစိတ်ဝင်စားစရာကောင်းပြန်သည်။ ရွှေဟင်္သာဆရာတော်ကြီး နည်းမှာ 'ချဉ် ဖန် စပ် ခါး၊ နေ့တိုင်းစား၊ ပေါ့ပါးလျင်မြန်သည်' ဟု အဆိုအမိန့်ရှိထားသည်။ ဆိုလိုသည်မှာ အစား၊ အသောက်များကို ဘုဉ်းပေးသုံးဆောင်ရာ၌ စနစ်ရှိလှသော သက်တော်ရှည် ရွှေဟင်္သာဆရာတော်ဘုရားကြီး (သက်တော် ၁၀၃-နှစ်၌ ပျံလွန်တော်မူသည်)၏ ကျန်းမာနည်း၊ အသက်ရှည်နည်းသည် ခေတ်မီ၍ သိပ္ပံနည်းကျသည်ဟု ဆိုနိုင်သည်။ ဆရာတော်ဘုရားကြီးက ''အချဉ်တို့၊ အဖန်တို့၊ အစပ်တို့၊ အခါးတို့ဆိုတာ မကြိုက်သော်လည်း နည်းနည်းပါးပါးတော့ စားပေးရသည်''ဟု အမိန့်ရှိသည်။ အစားအစာများကို မှီဝဲသုံးဆောင်ရသော ရည်ရွယ်ချက်မှာ အရသာကို ခံစားလို၍ သုံးဆောင်ရခြင်းမျိုး မဟုတ်ဘဲ၊ ခန္ဓာကိုယ်၌ လိုအပ်သော အာဟာရကို ဖြည့်တင်းပေးရန် စားသုံးရခြင်းဖြစ်ကြောင်း သတိမူသင့်သည်။ သို့သော် လူအများ အများဆုံးစားသောက်နေသော အစားအစာများမှာ 'အဆီ၊ အဆိမ့်၊ အချို၊ အငန်' များအပြင် ဟင်းချိုမှုန့်ကို စားသုံးနေကြ၍ ရောဂါများ ရှေးကထက်ပို၍ ထူပြောလာသည်ကို သတိပြုနိုင်သည်။ ရောဂါဘယများကြောင့် အသက်တိုခြင်းစသော အကျိုးတရားများကို မလွဲမသွေ ခံစားနေကြရသည်။ အစားအသောက်များကို မဆင်မခြင် စားသုံးခြင်းသည် အနာများခြင်း၊ အသက်တိုခြင်းစသော မကောင်းကျိုးများကို အခွင့်သာအောင် ပြုလုပ်ပေးရာရောက်၍ အသက်ရှည်လိုသူတိုင်း သတိမူနိုင်ကြပါစေ။

မဝေးလှသောအချိန်က စာရေးသူသည် စာပေကျွန်းဂန်တတ်ကျွမ်းသော ဆရာတော်ကြီးတစ်ပါးကို ကံအားလျော်စွာ ဖူးတွေ့ခဲ့

ရသည်။ ထိုဆရာတော်ကြီး၏ သက်တော်မှာ (၇၃)နှစ် ရှိနေပြီဖြစ်ပြီး၊ ထိုဆရာတော်ကြီးသည် အသက်ရှည်လို၍ ပြဒါးသေဓာတ်ပြာကို မှီဝဲသုံးဆောင်နေသည်။ စာရေးသူနှင့် ရင်းနှီးထားပြီးဖြစ်သောကြောင့် ပွင့်ပွင့်လင်းလင်းပင် စာရေးသူအား – ''ငါအခု ပြဒါးသေဓာတ်ပြာကို စပြီးစားနေတယ်။ အခုအချိန်အထိ အဆင်ပြေနေတယ်။ အောင်မြင်ရင်တော့ သက်တမ်းထောင်ချီပြီးရှည်နိုင်တယ်။ ငါ့ဓာတ်ပြာ အောင်မြင်ရင်တော့ မင်းတို့ကိုလည်း ပေးကျွေးမယ်'' ဟု ချီးမြှောက်စကားကို မိန့်တော်မူသည်။ ထိုဆရာတော်ကြီးသည် စာရေးသူနှင့်တွေ့ပြီး ခြောက်လအရောက်မှာ ပျံလွန်တော်မူသွားကြောင်း ကြားသိရသည်။ ဝမ်းနည်းမိပါ၏။ ဓာတ်ပြာစား၍ အသက်ရှည်ရှည်နေလိုသော ဆရာတော်ကြီး၏ ဆန္ဒမှာ အားကိုးရာမရောက် ဖြစ်ခဲ့ရသည်။

ပါဠိစာပေကျမ်းဂန်များ၌ ရသာယနဆေးမျိုးဖြင့် လူတစ်ယောက်၏အသက်ကို ရှည်အောင် လုပ်ပေးနိုင်ကြောင်း မိန့်ဆိုထားပြန်သည်။ ဤကျမ်းဂန်အဆိုကို ကြားဖူးနားဝရှိထားကြသော အချို့သောပုဂ္ဂိုလ်များသည် အသက်ရှည်နည်းကို ရှာကြံကြယင်း အင်္ဂါယထိုးခြင်း၊ ဓာတ်ပြာကို မှီဝဲခြင်း၊ ဆေးမြစ်တူးခြင်း၊ ဆေးဖော်ခြင်း စသည်တို့ကို ပြုလုပ်လာကြသည်။ ထို့ပြင် အသက်ရှည်လိုသောသူသည် ရသာယနဆေးမျိုးနှင့် ရုပ်ခန္ဓာကိုယ်ကို ရုပ်ပြောင်းသွားအောင် ပြုလုပ်နိုင်လျှင် အသက်တစ်ရာတမ်းမှသည် အသက်ထောင်တမ်းအထိ အသက်ရှည်နိုင်ကြောင်း ကျမ်းဂန်များ၌ ဖော်ပြထား၍ အသက်ရှည်လိုသူတို့အတွက် အားတက်စရာဖြစ်ရပြန်သည်။ ရှေးဘုန်းရှေးကံနည်းသူပင် ဖြစ်သော်လည်း ဉာဏ်စွမ်း၊ ဝီရိယစွမ်းတို့ဖြင့် ဤရသာယနဆေးမျိုးကို သုံးဆောင်လျက် မိမိ၏ ရူပကာယခန္ဓာကိုယ်ကို ရုပ်ပြောင်း၍သွားအောင် တတ်နိုင်ပါမူ တစ်ရာတမ်းမှာပင် တစ်ထောင်မက၊ တစ်သောင်းမက နေနိုင်သော နည်းလမ်းအမှန်ဖြစ်သည်ဟု ဆိုလိုကြောင်း လယ်တီ



ဆရာတော်ဘုရားကြီးက ဝိဇ္ဇာမဂ္ဂဒီပနီကျမ်း၌ မိန့်ဆိုထားသည်။[၆၉]

လယ်တီဆရာတော်ဘုရားကြီးက ယခုခေတ်လူတို့၏ ပကတိဝမ်းမီးသည် ပါစကဓာတ်မီး ညှိုးဖျင်းသည့်အတွက်ကြောင့် မကျန်းမာလွယ်၊ အိုလွယ်၊ နာလွယ်၊ သေလွယ်ဖြစ်တတ်ကြသည်။ ဤပါစကဓာတ်မီးသတ္တိ ညှိုးလွန်းသည့်အတွက်ကြောင့် ရုပ်ခန္ဓာသည် မကြည်လင်ခြင်းများ ဖြစ်ရသည်။ ရုပ်ခန္ဓာမကြည်လင်ခြင်းများကြောင့် စိတ်မကြည်လင်ခြင်း၊ ဉာဏ်မကြည်လင်ခြင်းများ ဖြစ်လာကြသည်။ ယခုလိုဝိပတ္တိအခါမျိုး၌ ရှေးဘုန်း၊ ရှေးကံကြီးမားကြသော ပုရိသဝိသေသတို့၌ ပါစကဓာတ်မီးများ အားကောင်း၍ အသက်ရှည်ခြင်း အကျိုးများကို ရနိုင်သော်လည်း ရှေးဘုန်းရှေးကံ နည်းသူတို့၌ကား ပကတိအားဖြင့် မရနိုင်ပါ၊ ဆေးကောင်း ဝါးကောင်းတို့ဖြင့် ပြုပြင်၍ယူမှ ရနိုင်သည်။ ထို့ကြောင့် နေတ္တိပါဠိတော်၌ အောက်ပါအတိုင်း ရှင်းလင်းဖော်ပြထားသည်။

ပါဠိ။ ။သက္ကတေဝ ဇရာယ ပဋိကမ္မံ ကာတုံ။
ဇရာယ–အချိန်အရွယ်ကျလျှင် အိုခြင်း ဇရာတရား၏။ပဋိကမ္မံ–မအိုရအောင် ကြံဆောင်တားမြစ်မှုကို၊ ကာတုံ–ပြုခြင်းငှာ၊သက္ကတေဝ–တတ်နိုင်ကောင်းသည်သာလျှင်တည်း။[၇၀]

---

[၆၉] လယ်တီဆရာတော်၊ ဝိဇ္ဇာမဂ္ဂဒီပနီ၊ ရတနာသီရိစာပုံနှိပ်တိုက်၊ တောင်ဥက္ကလာပမြို့၊ ၁၃၃၀၊ နှာ ၈၊

[၇၀] နေတ္တိပါဠိတော်၊ နှာ - ၂၁၊

ဤပါဠိတော်၌ မအိုအောင် (သို့မဟုတ်) အလွန်အကျူး အိုမသွားအောင် တတ်နိုင်ကောင်းသည်ဟု ဟောတော်မူထားခြင်းဖြစ်သည်။ ထိုသို့ဟောတော်မူထားခြင်းကြောင့် မနာရအောင်လည်း တတ်နိုင်ကောင်း၏ဟူသော အဓိပ္ပါယ်များပါ သက်ရောက်နေကြောင်း လယ်တီဒီပနီကျမ်း၌ ဖော်ပြထားသည်။ဝိသုဒ္ဓိမဂ်မဟာဋီကာ၌လည်း အောက်ပါအတိုင်း ဖော်ပြထားပြန်သည်။

ပါဠိ။ ။ ရသာယနဘေသဇ္ဇံ ပန သုစိရမ္ပိ ကာလံ
ဇီဝိတံ ပဝတ္တေတုံ သက္ကောတိယေဝ။[၅၁]

အနက်။။ရသာယနဘေသဇ္ဇံ ပန-ရသာယနဆေးမျိုးသည်
ကား၊သုစိရမ္ပိကာလံ-အနှစ်တစ်ရာတမ်းမှ ငါးရာ
တစ်ထောင်မကသော နှစ်ကာလပတ်လုံးလည်း၊
ဇီဝိတံ-အသက်ကို၊ပဝတ္တေတုံ-တည်စေခြင်းငှာ၊
သက္ကောတိယေဝ-စွမ်းနိုင်သည်သာလျှင်တည်း။

ဤကဲ့သို့ ပါဠိစာပေကျမ်းဂန်များ၌ ဖော်ပြထားသည့်အတိုင်း ရသာယနဆေးဖြင့် အသက်တွေ ရာချည်၊ ထောင်ချည်ရှည်အောင် ပြုလုပ်ထားနိုင်ကြောင်းကို ထုတ်ဖော်ဟောပြထားသည်။ ဤ၌ ရသာယန၏ အနက်အဓိပ္ပါယ်ကို ဖော်ညွှန်းပြဆိုရာ၌ (ရသာ အာယန္တိ ဝဍ္ဎန္တိ ဧတေနာတိ ရသာယနံ) ဤဓာတ်ဆေးဖြင့် နှစ်ပေါင်းထောင်သောင်းမက ခိုင်မြဲသော အသွေးအသား ရသဓာတ်တို့ကို တိုးပွားစေတတ်သောကြောင့် ဤဆေးမျိုးကို ရသာယနဆေးဟု ခေါ်ဆိုကြောင်း

[၅၁] ဝိသုဒ္ဓိမဂ်မဟာဋီကာ (ပထမတွဲ)၊ နှာ-၆၄။





ဖွင့်ဆိုထားသည်။ ဤဆေးများကို မြန်မာတို့က အာယုဝဍ္ဎနဓာတ်ဆေးဟု ခေါ်ဆိုကြသည်။[၅၂] အမှန်မှာမူ 'သဗ္ဗေ သင်္ခါရာ အနိစ္စာ'ဟူသော တရားတော်အရ ဉာဏ်မမီနိုင်သော သဘောသဘာဝတို့ကို အမျှော်လင့်ကြီး မျှော်လင့်နေမည့်အစား သင်္ခါရသဘောတရားမှန်လျှင် လွန်ဆန်၍ မရနိုင်ကြောင်းကို ဉာဏ်ဖြင့် သုံးသပ်ဆင်ခြင်သင့်ကြောင်း တိုက်တွန်းလိုပေသည်။ဖြစ်နိုင်ခြေရှိသည်ကို မျှော်လင့်နေသည်ကိုတော့ မဆန့် ကျင်လိုပါ။ သို့သော် ဖြစ်နေသည့်သဘောတရားကို ဆန့်ကျင်ဘက်ပြုရန် အားထုတ်မှု မပြုလုပ်သင့်ကြောင်းကိုမူ တိုက်တွန်းလိုပါသည်။

## အသက်ရှည်ရန် အားထုတ်သင့် မသင့်

ပုထုဇဉ်ပုဂ္ဂိုလ်တို့အတွက် ဘဝတဏှာကြောင့် သံသရာဆင်းရဲ၌ ကျင်လည်နေကြရသည့်တိုင်အောင် ပဋိစ္စသမုပ္ပါဒ်ဉာဏ်၊ ဝိပဿနာဉာဏ် မသက်ဝင်နိုင်ကြ၍ အသက်ရှည်လိုမှုကို တောင့်တမြဲ တောင့်တနေကြသည်။ မြတ်စွာဘုရား၏ တရားတော်၌လည်း ဆွမ်းလှူခြင်း၊ ရေလှူခြင်း စသော လှူဒါန်းပေးကမ်းခြင်း၏အကျိုး၊သီလဆောက်တည်ရခြင်း၏အကျိုးတို့ကို ဖော်ပြရာတွင် အသက်ရှည်ခြင်း အကျိုးတရားသည် ထိပ်ဆုံးမှ ပါဝင်နေသည်ကို တွေ့ရသည်။ ဘဝတဏှာရှိသူများအတွက် အသက်ရှည်ခြင်းသည် မည်၍မည်မျှ အရေးပါကြောင်း သိရှိနိုင်ပါသည်။အချို့သော ဆရာတို့ကား အာယုဝဍ္ဎန (အသက်ရှည်ခြင်း၊ အသက်တိုးပွားခြင်း)ကို အားစိုက်နေမှုများသည် အသက်ခန္ဓာ၌ တွယ်တာသောဉပါဒါန်ဖြစ်သည်။ 'အသက်ခန္ဓာကို မညှာရဘူး' ဟူ

[၅၂] ဝိဇ္ဇာမဂ္ဂဒီပနီ၊ နှာ ၂၂။

သော မြတ်စွာဘုရား၏ ဩဝါဒတော်နှင့်လည်း ဆန့်ကျင်သည်ဟု အချို့က ယူဆကြကုန်သည်။ အသက်ခန္ဓာကို မငဲ့ညှာဘဲ အစားအစာ ခြိုးခြံမှု၊ အဝတ်အရုံကို ခြိုးခြံမှု၊ အရိပ်အာဝါသကို ခြိုးခြံမှုတို့ကို ပြု၍ အားထုတ်ကြကုန်သည်။ ထိုသို့သော အားထုတ်ခြိုးခြံမှုများသည် ထို ဥပါဒါန်ကို တဒင်္ဂပဟာန်ဖြင့် ပယ်မှုသာဖြစ်သည်။ထိုဥပါဒါန်ကို လွန်မြောက်နိုင်သော အလုပ်မျိုးကားမဟုတ်။သစ်ပင်တောခြုံ ထူထပ်သော နေရာ၌ ယခုနှစ်အတွက် မြေပေါ်တွင် ခုတ်ထွင်ရှင်းလင်းမှုပြုခြင်းသည် နောက်နှစ်အတွက် ထိုနေရာ၌ သစ်ပင်တောခြုံ စည်ကားရုံမျှ ဖြစ်သကဲ့သို့ နောက်ဘဝ၌ ထိုဥပါဒါန် တရားစည်ကားရန် အဖို့ကို ပြုသကဲ့သို့သာရှိသည်ဟု လယ်တီ ဆရာတော်ဘုရားကြီးက မိန့်တော်မူသည်။

ထိုဥပါဒါန်ကို အမှန်တကယ်လွန်မြောက်နိုင်သောအလုပ်မှာ ဝိပဿနာဉာဏ်တည်းဟူသော မြမြထက်သောပေါက်တူးဖြင့် မိမိကိုယ်ခန္ဓာ,သူတစ်ပါး ကိုယ်ခန္ဓာ၊ ယခုပစ္စုပ္ပန်ခန္ဓာ၊ နောင်အနာဂတ် ခန္ဓာတို့ကို မှုန့်မှုန့်ညက်ညက် တူးဖြိုမှုမျိုးကို စွမ်းစွမ်းတမံပြုမှုသာလျှင် အသက်ခန္ဓာ၌ တွယ်တာသောဥပါဒါန်ကို လွန်မြောက်နိုင်သော အမှုမှန်ဖြစ်ပေသည်ဟု လယ်တီဒီပနီကျမ်း၌ ဖော်ပြထားသည်။ထိုသို့သော တူးဖြိုမှုမျိုးကို ပြုလုပ်အားထုတ်လျက် ပေါက်ရောက်ထမြောက်နိုင်သော အင်္ဂါစုတွင် အနာရောဂါကင်းရှင်းခြင်းဟူသော ပဓာနိယင်္ဂ အင်္ဂါ ၅-ပါးတို့တွင် ဒုတိယအင်္ဂါ၌ ပါရှိသည်ဖြစ်၍ ထိုဥပါဒါန်ကို လွန်မြောက်ခြင်းငှာ အရိယာဝိဇ္ဇာလမ်းကို ပြီးမြောက်အောင် ကြိုးပမ်းအားထုတ်ကြရပေမည်။ ထိုကြောင့် ယောဂီပုဂ္ဂိုလ်များသည် အရိယာဝိဇ္ဇာလမ်းခေါ်သည့် နိဗ္ဗာန်လမ်းကို ဆုံးကမ်းတိုင် ထမြောက်သည့်တိုင်အောင် အနာရောဂါကင်းရှင်းခြင်းဟူသော ဤဒုတိယအင်္ဂါကို ကောင်းစွာအားထုတ်အပ်သတည်းဟု လယ်တီဆရာတော်ဘုရားကြီးက



ညွှန်ကြားတိုက်တွန်းတော်မူသည်။[၇၂]

လူတိုင်း တရားရနိုင်သည်ဟု ယေဘုယျသဘောအားဖြင့် ဆိုရသော်လည်း စိတ်နှလုံးမဖြောင့်မတ်သောပုဂ္ဂိုလ်များကိုမူ ချွင်းချက်ထား၍ မြတ်စွာဘုရားက ဟောကြားခဲ့သည်။ ဤသည်မှာလည်း အရိယာဝိဇ္ဇာဖြစ်လိုသူများအတွက် မှတ်သားဖွယ်ရာကောင်းလှသည်။ မြတ်ဗုဒ္ဓ၏ ဟောကြားချက်ကို လေ့လာကြည့်စေချင်ပါသည်။ မြတ်စွာဘုရားက -

ပါဠိ။ ။အသဌော ဟောတိ အမာယာဝီ ယထာဘူတံ အတ္တာနံ အာဝိကတ္တာ သတ္ထရိ ဝါ ဝိညူသု ဝါ သဗြဟ္မစာရီသု။

အနက်။ ။အသဌော၊ မစဉ်းလဲသည်။ အမာယာဝီ၊ လှည့်ပတ်ခြင်းမရှိသည်။ဟောတိ၊ ဖြစ်၏။ သတ္ထရိဝါ၊ ငါဘုရား၌သော်လည်းကောင်း။ ဝိညူသု၊ မိမိထက် တရားကျမ်းဂန် အမြင်သန်ကုန်သော။ သဗြဟ္မစာရီသု ဝါ- အတူနေ သီတင်းသုံးဖော်တို့၌ သော်လည်းကောင်း။ အတ္တာနံ၊ မိမိကိုယ်ကို၊ ယထာဘူတံ၊ ဟုတ်မှန်သောအတိုင်း။ အာဝိကတ္တာ၊ ထင်စွာပြုတတ်သည်။ ဟောတိ၊ ဖြစ်၏။ (လယ်တီဆရာတော်နိဿယ)

ထိုပါဠိတော်၏ အဓိပ္ပါယ်ကို လယ်တီဆရာတော်ဘုရားကြီးက ဖြောင့်မတ်ခြင်းဆိုသည်မှာ 'မိမိ၏စိတ်သန္တာန်၌ရှိသော မကောင်းသော

---

၇၂ လယ်တီဆရာတော်၊ဝိဇ္ဇာမဂ္ဂဒီပနီ၊ နှာ ၈-၉

အမှုအရာ၊ အကြံအစည်၊ ဝါသနာစရိုက်တို့ကို မထိမ်မချန် ဖြောင့်မှန်စွာ ပြောကြားရမည်။ မသိဘဲနှင့် အသိလုပ်ချင်မှု၊ မမြင်ဘဲနှင့် အမြင်လုပ်ချင်မှု၊ အနည်းငယ်မျှ သိသည်မြင်သည်ကို အများကြီးသိသည့် အနေအထားမျိုးလုပ်ချင်မှု၊ အသိဉာဏ်မပါးဘဲကို အပါးလုပ်ချင်မှု၊ ဤကဲ့သို့သော ကောက်ကျစ်မှုများကို အနည်းငယ်မျှ မရှိစေရ။ ဖြောင့်စင်းဖြူစင်သော စိတ်နှလုံး ရှိစေရမည်' ဟု ဆိုလိုသည်။[၇၄] လယ်တီဆရာတော်ဘုရားကြီးသည် အရိယာဝိဇ္ဇာအဖြစ်သို့ ရောက်ရှိနိုင်ရန် မဂ္ဂင်ရှစ်ပါးကို ကျင့်ကာမျှဖြင့် မပြည့်စုံသေးကြောင်း၊ ကောက်ကျစ်မှုကင်း၍ ဖြောင့်စင်းဖြူစင်သော စိတ်နှလုံးများပါ ရှိရမည်ဖြစ်ကြောင်း အထူးမှာကြားလိုခြင်းဖြစ်သည်။

ဘိုးတော်၊ဝိဇ္ဇာယုံကြည်သူတို့သည် မိမိတို့၏ ယုံကြည်ချက်များ ပိုမိုအားကောင်းလာနိုင်စေရန် ထွက်ရပ်ပေါက်ပုဂ္ဂိုလ်များစာရင်း (ရဟန်းပုဂ္ဂိုလ် ၂၅-ယောက်၊လူပုဂ္ဂိုလ် ၂၅-ယောက်)ကို ဖော်ပြရာ၌ ဝေဘူဆရာတော်စသော အရိယာပုဂ္ဂိုလ်မျိုးကိုပါ ထည့်သွင်းဖော်ပြထား၍ အံ့သြရပြန်သည်။ ရောသမမွှေထားတာမျိုးဖြစ်နေ၍ ဘာသာရေးဗဟုသုတနည်းပါးသူတို့အတွက်မူ ယုံမှားသံသယတွေဖြစ်မည်မှာ မြေကြီးလက်ခတ်မလွဲနိုင်ပေ။ အရိယာဝိဇ္ဇာနှင့် လောကီဝိဇ္ဇာများ၏ သဘောသဘာဝများကို ခွဲခြားနားလည်ထားသင့်ပါ၏။ အရိယာဝိဇ္ဇာတို့၏သဘာဝသည် ကံငါးပါး (ငါးပါးသီလ)ကိုလည်း လုံခြုံ၍ မိစ္ဆာအယူများကို စွန့်လွှတ်ထားပြီးဖြစ်သည်။ လောကီဝိဇ္ဇာတို့၏ သဘာဝကား ကာမဂုဏ်အာရုံနှင့် ကြုံလာလျှင် ဖောက်ပြန်တတ်ကြပြီး၊ အယူဝါဒရေးရာများ၌ ကိုယ်ကျိုးရှိမည်ဆိုလျှင် ထိုမှားမှန်းသိသော အယူဝါဒမျိုးကို စွန့်လွှတ်ရန်ဝန်လေးနေတတ်ကြသည်။ ဤသည်မှာ အခြေခံအားဖြင့် အရိယာဝိဇ္ဇာများနှင့် လောကီဝိဇ္ဇာတို့၏ ကွဲပြားခြားနားချက်ကို သိနိုင်ပေသည်။



လောကီဝိဇ္ဇာများသည် ပုထုဇဉ်များသာဖြစ်ကြသည်။ ပုထုဇဉ်တို့စိတ်သည် အပေါင်းအဖော်နှင့် နေရမှ ပျော်ရွှင်တတ်ကြသည်။ တစ်ကိုယ်တည်း၊တစ်ယောက်တည်းဆိုလျှင် ပြင်းရိချောက်သွေ့၊ ငြီးငွေ့တတ်ကြ၍ အဆင်က မပြေချင်။ယုတ်စွအဆုံး အာရုံတစ်ခုခုနှင့် တွေ့ထိဆက်ဆံနေရမှ အဆင်ပြေနေတတ်သည်။ ဤနေရာ၌ ဆက်ဆံရေးနှင့်ပတ်သက်၍ နှစ်မျိုးနှစ်စား ရှိနိုင်သည်။ (၁)ကိုယ်ကျိုးရှိသော ဆက်ဆံရေး၊ (၂)အများအကျိုးရှိသောဆက်ဆံရေးဟူ၍ နှစ်မျိုးရှိသည်။ ဘာသာရေး၊ လူမှုရေး၊ စီးပွားရေး၊ ပညာရေး၊ ပေါင်းသင်း ဆက်ဆံရေးတို့သည် လူ့အလွှာအသီးသီးတို့ နေ့စဉ်ကြုံတွေ့နေရသော လူမှုလုပ်ငန်းများဖြစ်သည်။ မိမိက ဘာသာတရားကို အထူးလိုက်စားသူဖြစ်၍ လူ့ရေးတန်းရေးနှင့် လူမှုရေးကိစ္စများ၌ ပျော်ရွှင်နေသူ ဖြစ်လျှင် ကောင်းသောအလေ့အကျင့်၌ ပျော်ရွှင်နေသည်ဖြစ်၍ ထိုသူမျိုးသည် ဘာသာနှင့် သာသနာ၊ တိုင်းပြည်နှင့်လူမျိုးအတွက် တာဝန်သိသူဟု ဆိုရပေမည်။ ကိုယ်ကျိုး၊ ကိုယ်စီးပွား၌သာ ပျော်ရွှင်နေသူဖြစ်လျှင် ကောင်းသောအလေ့အကျင့်တော့ ဖြစ်ကောင်းဖြစ်မည်။သို့သော် မိမိ၏ အကျိုးစီးပွားကိုသာ ပြုလုပ်တတ်၍ ဘာသာနှင့် သာသနာ၊ တိုင်းပြည်နှင့် လူမျိုးအတွက် တာဝန်သိသူဟု မဆိုနိုင်သေးချေ။ ကိုယ်ကျိုး၊ ကိုယ်စီးပွားကို ပြုနေရုံမျှဖြင့် ဘဝအတွက်၊ သံသရာအတွက် ပြည့်စုံနေပြီဟူ၍လည်း မမှတ်ထင်သင့်သေးပေ။ အသက်ရှင်စဉ် အချိန်၌ ဘဝအတွက် တင့်တောင့်တင့်တယ် နေနိုင်အောင်ကြိုးစားသင့်သလို၊ သေလွန်သောအခါ၌ ကိုယ့်နောက်ကို ပါနိုင်သော ကုသိုလ်မျိုးကိုလည်း ပြုလုပ်ထားသင့်သည်။ ဘာသာဝါဒယုံကြည်ချက်ဖြင့် ကုသိုလ်များကို ပြုနေကြသော်လည်း ကုသိုလ်ပြုတိုင်း ကုသိုလ်မရနိုင်ကြောင်းကို သိထားသင့်သည်။ ထိုနည်းတူစွာပင် ဘာသာဝါဒတစ်ခုကို ယုံကြည်ကိုးကွယ်ရာ၌ ယုံကြည်ကိုးကွယ်တိုင်း ကုသိုလ်မရနိုင်ခြင်းပင်ဖြစ်သည်။

ကုသိုလ်ပြုရာ၌လည်း ဘာသာရေးကုသိုလ်နှင့် လူမှုရေးကုသိုလ်ဟူ၍ ကုသိုလ်နှစ်မျိုးရှိသည်။ ဗုဒ္ဓဘာသာဝင်အများစုသည် ဘာသာရေးကုသိုလ်မျိုး၌သာ စိတ်ဝင်စားကြပြီး၊ လူမှုရေးကုသိုလ်မျိုးကို ပြုလုပ်ကြရန် အားမသန်ဘဲ ရှိနေတတ်ကြသည်။ ကုသိုလ်ပြုရာ၌ အလှူခံပုဂ္ဂိုလ်၏ဂုဏ် (သို့မဟုတ်) သိက္ခာ (သို့မဟုတ်) ထင်ပေါ်ကျော်ကြားမှုကို အာရုံပြုလျက်လှူဒါန်းသော ကုသိုလ်မျိုးသည် ဘာသာရေးကုသိုလ်ဖြစ်သည်။ ဥပမာ၊ ဘုရားတည်ခြင်း၊ ကျောင်းဆောက်ခြင်း၊ ရဟန်းခံခြင်း၊ ရှင်ပြုခြင်း၊ သံဃာတော်များအား ဆွမ်းကျွေးခြင်း စသည်များ ပါဝင်သည်။ အလှူခံပုဂ္ဂိုလ်၏ဂုဏ်သိက္ခာကို အာရုံမပြုဘဲ လူ့ပတ်ဝန်းကျင်၌ ကြုံတွေ့နေရသော လိုအပ်ချက်များအတွက် ဖြည့်ဆည်းပေးလိုမှုကို အာရုံပြုလျက်လှူဒါန်းသော ကုသိုလ်မျိုးသည် လူမှုရေးကုသိုလ်ဖြစ်သည်။ ဥပမာ၊ စာသင်ကျောင်းဆောက်ခြင်း၊ ဆေးရုံဆောက်ခြင်း၊ ကုသိုလ်ဖြစ်ဆေးခန်းဖွင့်ခြင်း၊ ပရဟိတကျောင်းများတည်ထောင်ခြင်း၊ မိဘမဲ့ဂေဟာ၊ သားသမီးမဲ့ ဂေဟာများတည်ဆောက်ခြင်း စသည်များ ပါဝင်သည်။ များသောအားဖြင့် အရိယာသာဝကများသည် ပထမအမျိုးအစားကို အာရုံအပြုများပြီး၊ ဒုတိယ အမျိုးအစားကိုမူ ဘုရားလောင်းများနှင့် ဘုရားလောင်း၏ သာဝကများ၊ လူသားချင်း ကိုယ်ချင်းစာနာတတ်သောလူများက အာရုံအပြုများသည်။ အသိတရားကြီးမားသော ဗုဒ္ဓသာဝကများကမူ နှစ်မျိုးစလုံးကို အာရုံပြုကြောင်း သိနိုင်ပေသည်။ အသိတရားလည်းရှိ၊ ဖြူစင်သော စိတ်ထားလည်းရှိပြီး၊ ဉာဏ်အမြော်အမြင်ရှိသူတို့ပြုသော ကုသိုလ်မျိုးသည် ဘာသာရေးကုသိုလ်မျိုးကိုပဲပြုပြု၊ လူမှုရေးကုသိုလ်မျိုးကိုပဲပြုပြု၊ အကျိုးကြီးမားနိုင်ကြောင်း စာပေကျမ်းဂန် သဘောအရ သိရပါသည်။ အဘယ်ကြောင့်ဆိုသော် ပြုသောကုသိုလ်၌ ဂုဏ်ပကာသနလည်းကင်း၊ မာန်မာနလည်းကင်းပြီး၊ စိတ်ထားများကလည်း ဖြူစင်





သန့်ရှင်းနေသောကြောင့်ဖြစ်သည်။ ဗုဒ္ဓဘာသာဝင်တိုင်း ကုသိုလ်တစ်မျိုးမျိုး၌ စိတ်ကို ပျော်ရွှင်အောင်ထားတတ်ကြပါစေ။ ကုသိုလ်ပြုရာ၌ သတိရှေ့ထားပြီး၊ ဉာဏ်နှင့်ယှဉ်လျက် လိုအပ်သောအရာများ၌ လိုအပ်သလို ကုသိုလ်များ ပြုနိုင်ကြပါစေ။

'ဘိုးတော်၊ ဝိဇ္ဇာများ'ကို ကြည်ညိုလွန်း၍ ဘိုးတော်တို့၏ပုံများကို ဘုရားစင်ပေါ်၌ တင်ထားပြီး၊ အနှိုင်းမဲ့၊ အတုမဲ့သော ဘုရားရှင်နှင့် အတူထား၍ ကိုးကွယ်ဆည်းကပ်နေခြင်းမျိုးသည် သာသနာတော်၏ အသရေကို ညှိုးစေနိုင်သည်။ ဤသို့ပြုလုပ်ခြင်းသည် ကုသိုလ်တရားတိုးပွားဖို့ထက် လျော့နည်းဖို့က အခွင့်များနေပါသည်။ ဤသို့ပြုလုပ်လာခြင်းသည် (သို့မဟုတ်) ပြုလုပ်ရဲလာခြင်းသည် တစ်ခုခုတော့မှားနေပြီဟုသာ ဆိုရပေတော့မည်။ မြတ်စွာဘုရားသည် အများပြုသူအား ဘယ်သောအခါမှ အမုန်းမပွားဘဲ၊ မေတ္တာတရားဖြင့်သာ ခွင့်လွှတ်ခဲ့သည်။ မြတ်ဗုဒ္ဓ၏ အေးမြသောမေတ္တာတရားကို ဉာဏ်နုံ့သူများ ခံစားတတ်မည်မဟုတ်ပေ။ မြတ်ဗုဒ္ဓ ဟောကြားသော တရားမွမ်များကို အယူသည်းသူများ သိနားလည်နိုင်လိမ့်မည် မဟုတ်ပေ။ အယူသည်းခြင်း၊ အယူမှားခြင်းသည် အေးမြသော နိဗ္ဗာန်သို့ သွားရောက်ရာလမ်းနှင့် နိဗ္ဗာန်လမ်း၏ ဆန့်ကျင်ဘက်ဖြစ်သောလမ်းကို တမင်တကာရွေးချယ်၍ လျှောက်လှမ်းနေသည်နှင့် တူလှပေသည်။ နိဗ္ဗာန်နှင့်နီးခြင်း၊ ဝေးခြင်းဆိုသည့် အခွင့်အလမ်းများမှာ မိမိကိုယ်တိုင် ပြုလုပ်ဖန်ဆင်းထားခြင်းဖြစ်သည်။ သာသနာတည်းဟူသော အလင်းရှိခိုက် အဝိဇ္ဇာတည်းဟူသော အမှောင်တိုက်မှ ရုန်းထွက်နိုင်ကြပါစေ။

မြတ်စွာဘုရား၏ဂုဏ်တော်၊ ကျေးဇူးတော်တို့သည် သန့်ရှင်းသည်။ စင်ကြယ်သည်။ ဖြူစင်သည်။ ထိုကဲ့သို့ သန့်ရှင်းစင်ကြယ်ဖြူစင်သော မြတ်ဗုဒ္ဓ၏ တရားတော်များကို ထေရဝါဒနိုင်ငံဖြစ်သော မြန်မာနိုင်ငံတို့လို ဗုဒ္ဓဘာသာနိုင်ငံမျိုး၌ သန့်သန့်ရှင်းရှင်းပင် တရား

ဓမ္မ၏ အဆုံးအမအတိုင်း လိုက်နာကျင့်သုံးသင့်သည်။ ရောရောနှောနှောမျိုး ဖြစ်မနေသင့်ပေ။ မြတ်ဗုဒ္ဓသာသနာတော်ကို စင်စင်ကြယ်ကြယ်ဖြင့် စောင့်ရှောက်ခြင်းသည် စောင့်ရှောက်သောလူမျိုး၏ ဂုဏ်သိက္ခာကို ထိန်းသိမ်းစောင့်ရှောက်ရာရောက်သည်။ သာသနာအရောင်တောက်ပြောင်လျှင် လူမျိုး၏ ဂုဏ်သိက္ခာများလည်း အထွတ်အထိပ်သို့ ရောက်နေမည်သာဖြစ်သည်။ သာသနာတော်ဂုဏ်နှင့် လူမျိုးဂုဏ်တို့သည် ခွဲခြား၍မရနိုင်သော နို့နှင့်ရေပမာရှိသည်။ အဖိုးထိုက်တန်သော သာသနာတော်၏ ဂုဏ်ကျေးဇူးသည် တန်ဖိုးသိသောလူမျိုးနှင့်သာသဟဇာတဖြစ်ပေလိမ့်မည်။ တန်ဖိုးမသိသောလူမျိုးလက်ထက်၌ တန်ဖိုးရှိသော ရတနာနှင့်တူသော သာသနာတော်ကြီးသည် အမြဲတည်နေလိမ့်မည်မဟုတ်။ မိမိကိုယ်ကိုယ်ကို တရားဓမ္မတည်းဟူသော အဆီအနှစ်များနှင့် တန်ဖိုးရှိအောင် သုံးလိမ်းပေးပါလေ။ တရားဓမ္မတည်းဟူသော အဆီအနှစ်များကို အကျင့်တရားနှင့် ရောနှော၍ စားသုံးပါလေ။ ယခုခေတ် 'ဘိုးတော်၊ ဝိဇ္ဇာများ'၏ သာသနာပြုခြင်းမျိုးသည် အပေါ်ယံ အပြင်ပန်းအားဖြင့် အဆီရွှန်းလှသော်လည်း အနှစ်ကင်းသော သူတို့၏လုပ်ရပ်များသည် လုပ်ဇာတ်များသာဖြစ်သည်။ ထိုလုပ်ဇာတ်များကို ယုံကြည်မိခဲ့သူတို့၏ နှလုံးသား၌ ဒဏ်ရာ၊ ဒဏ်ချက်များကို ထင်ကျန်စေခဲ့သည်။ အေးမြချမ်းသာသောသုခ၊ ငြိမ်းအေးတည်ငြိမ်သောသန္တိသုခကို ရရှိနိုင်ရန် ဘုရားကိုလည်း ကိုးကွယ်၊ တရားကိုလည်း ကျင့်သုံး၊ သံဃာကိုလည်း အစဉ်မြတ်နိုးလျက် ဤအကျင့်မျိုးကို ရှိရှိသေသေ လေးလေးစားစားကျင့်သုံးကြမှသာလျှင် ဘာသာနှင့်သာသနာ၊ တိုင်းပြည်နှင့်လူမျိုး၏ ဂုဏ်သိက္ခာကို မြှင့်တင်ရာရောက်ပါလိမ့်မည်။ ဘာသာတရားကို မြတ်နိုးသူတိုင်း၊ ရတနာသုံးပါးကို ကိုးကွယ်သူတိုင်းသည် ဘာသာနှင့်သာသနာ၊ တိုင်းပြည်နှင့် လူမျိုး၏ ဂုဏ်သိက္ခာကို မြော်မြင်တုံ၊ ဆင်ခြင်တုံတရားတို့ဖြင့် မြှင့်တင်နိုင်ကြ





ပါစေ။

ဤစာတမ်းကို ရေးသားပြုစုနိုင်ရန် ဘိုးတော်ဘိုးမင်းခေါင်နေထိုင်ခဲ့ဖူးသော ပုပ္ပါး၊ မန္တလေး၊ ရန်ကုန်မြို့ရှိ ဌာနေများသို့ ကိုယ်တိုင်သွားရောက်၍လည်းကောင်း၊ ထွက်ရပ်ပေါက်သွားသည်ဟု နာမည်ကျော်ကြားသော တစ်ချိန်က ရှင်အဇ္ဈဂေါဏနေထိုင်ရာ ပုဂံ၊ ညောင်ဦးဒေသများသို့ ကိုယ်တိုင်သွားရောက်၍လည်းကောင်း၊ ဘိုးတော်ဘိုးမင်းခေါင်ကို သက်ရှိထင်ရှား မီလိုက်ခဲ့သော ဆရာတော်ကြီးတစ်ပါးအပါအဝင် မွေးစားသားဖြစ်သူ ဦးစံဖေတို့နှင့် တွေ့ဆုံမေးမြန်း၍ လည်းကောင်း၊ ပုဂံအရပ်၌နေထိုင်သော ပုဂံသမိုင်းပညာရှင် မင်းဘူးဦးအောင်ကြိုင်နှင့် တွေ့ဆုံမေးမြန်း၍လည်းကောင်း၊ ပါဠိစာပေကျမ်းဂန်လာ အချက်အလက်တို့ကို အထောက်အထားပြု၍လည်းကောင်း၊ မြန်မာစာပေ သမိုင်းများ၌ ဖော်ပြထားသော အချက်အလက်တို့ကို စုဆောင်းလေ့လာ၍လည်းကောင်း ဤစာတမ်းကို ရေးသားပြုစုထားပါသည်။

မှားယွင်းစွာဖြင့် ယုံကြည်ကိုးကွယ်မှုကို ပြုလုပ်နေခဲ့လျှင် ထိုပြုသူအား အမှားတွေသည်သာ များသည်ထက် များလာနိုင်သည်။ မြတ်ဗုဒ္ဓ၏ သာသနာဆိုသည်မှာ ပါရမီရှိသူများအတွက်သာ ထားရှိခဲ့ခြင်းဖြစ်သည်။ သာသနာတော်ကို ပါရမီရှိသူများအတွက်သာ ထားရှိခဲ့ခြင်းဖြစ်၍ သာသနာတော်တွင်း၌ အမှားကင်းသော ယုံကြည်မှုမျိုးကို ယုံကြည်ကိုးကွယ်တတ်ကြမှသာလျှင် အကျိုးများနိုင်ပါလိမ့်မည်။ မှားယွင်းစွာ ယုံကြည်လက်ခံထားသော မိမိ၏ အယူများကို သဒ္ဓါနုသော (ကိုးကွယ်မှုဘာသာတရား၌ ဉာဏ်မယှဉ်နိုင်သေးသူ)သူတစ်ပါးတို့အား အမှားသံသရာ၌ မလည်စေသင့်ပါ။ အမှားတစ်ခုကို အကြောင်းပြု၍ မိမိကိုယ်ကိုလည်းကောင်း၊ သူတစ်ပါးတို့ကို လည်းကောင်း ပစ္စုပ္ပန်သံသရာ၌ နစ်နာသွားစေနိုင်သော အဖြစ်မျိုးနှင့် ပစ္စုပ္ပန်အကျိုးစီးပွား၊

သံသရာအကျိုးစီးပွားတို့ကို ဆုတ်ယုတ်သွားစေနိုင်သော အဖြစ်မျိုးတို့ကို သဒ္ဓါအနုအရင့်ဖြစ်သော ဗုဒ္ဓဘာသာဝင်တို့အား မဖြစ်စေသင့်ဟု ယုံကြည်ယူဆမိ၍ ဤစာတမ်းကို ရေးသားခဲ့ပါသည်။

ဤစာတမ်း၏ အဓိကရည်ရွယ်ချက်မှာ မှားယွင်းစွာနေရာပေးထားသော 'ဘိုးတော်၊ ဝိဇ္ဇာများ'၏ ဓာတ်ပုံများ၊ ရုပ်တုများကို အတုမရှိသောဘုရားရှင်၏ စင်ပေါ်၌ အတူထားရှိမှုကို ဗုဒ္ဓဓမ္မနှင့်အညီ ဖယ်ရှားနိုင်ရန်နှင့် ဗုဒ္ဓ၏ တရားတော်များကို ကိုယ်တိုင်လည်းသိစေ၊ သိသည့်အတိုင်းလည်း ရိုရိုသေသေ လေးလေးစားစားဖြင့် ကျင့်ကြံပွားများ အားထုတ်စေလိုသော စေတနာအရင်းခံလျက် ဤစာတမ်းကို မကျဉ်းမကျယ် ရေးသားပြုစုခြင်းဖြစ်သည်။ တစ်ဦးတစ်ယောက်၏ ဂုဏ်သိက္ခာကို လည်းကောင်း၊ အများ၏ ဂုဏ်သိက္ခာကိုလည်းကောင်း ထိခိုက်စေနိုင်သော ပုဂ္ဂိုလ်ရေးရာများကို အထူးရှောင်ရှားလျက် ရေးသားထားခြင်းဖြစ်သည်။ ဤစာတမ်းနှင့်စပ်လျဉ်း၍ အထူးပြောကြားလိုသည်မှာ မကျဉ်းမကျယ် ရေးသားပြုစုထားသော ဤသုတေသနစာတမ်းမျှဖြင့် 'ဘိုးတော်၊ ဝိဇ္ဇာများ' ကိုးကွယ်မှုဆိုင်ရာ သိသင့်သိထိုက်သည်များကို ပြည့်ပြည့်စုံစုံ ရေးသားထားနိုင်ပြီဟူ၍ လည်းကောင်း၊ ဤစာတမ်းကို ရေးသားပြုစုရခြင်း ကုသိုလ်စေတနာမျှလောက်ဖြင့် သာသနာ့ကျေးဇူးများကို ပြည့်ပြည့်စုံစုံ၊ လုံလုံလောက်လောက် ပေးဆပ်နိုင်ပြီဟူ၍လည်းကောင်း ရေးသားပြောဆိုရန် မဝံ့ရဲသေးပါဟူ၍ ...။



## ကျမ်းညွှန်းများ


ဝိနယပိဋ္ဋက စူဠဝဂ္ဂပါဠိ၊ သာသနာရေးဦးစီးဌာနပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ ၁၉၉၃။

ပဋိသမ္ဘိဒါမဂ် ပါဠိတော်၊ သာသနာရေးဦးစီးဌာနပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ ၁၉၉၃။

သီလက္ခန္ဓဝဂ္ဂပါဠိ၊ သာသနာရေးဦးစီးဌာနပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ ၁၉၉၄။

သီလက္ခန္ဓဝဂ္ဂဋ္ဌကထာ၊ သာသနာရေးဦးစီးဌာနပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ ၁၉၉၂။

သီလက္ခန္ဓဝဂ္ဂအဘိနဝဋီကာ (ဒုတိယတွဲ)၊ သာသနာရေးဦးစီးဌာနပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ ၁၉၉၃။

မဟာဝဂ္ဂသံယုတ္တပါဠိ၊ သာသနာရေးဦးစီးဌာနပုံနှိပ်တိုက်၊ ကမ္ဘာအေး၊ ရန်ကုန်၊ ၁၉၉၃။

ဝိမာနဝတ္ထု ပေတဝတ္ထု ထေရဂါထာ ထေရီဂါထာပါဠိ၊ သာသနာရေးဦးစီးဌာနပုံနှိပ်တိုက်၊ ကမ္ဘာအေး၊ ရန်ကုန်၊ ၁၉၉၅။

ဇာတကအဋ္ဌကထာ(တတိယအုပ်)၊ ဆဋ္ဌသံဂါယနာ၊ သာသနာရေးဦးစီးဌာနပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ ၁၉၅၉။

သံယုတ်ပါဠိတော်မြန်မာပြန် (တတိယတွဲ)၊ သာသနာရေးဦးစီးဌာနပုံနှိပ်တိုက်၊ ကမ္ဘာအေး၊ ရန်ကုန်၊ ၁၉၉၂။

မန်လည်ဆရာတော်၊ မဟာသုတကာရီမဃဒေဝလင်္ကာသစ်၊ သာသနာရေးဦးစီးဌာန ပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ ၁၉၉၈။

လယ်တီဆရာတော်၊အရှင်ဉာဏဓဇ၊ ဝိဇ္ဇာမဂ္ဂဒီပနီ–လယ်တီဒီပနီပေါင်းချုပ် (ဒုတိယတွဲ)၊ သာသနာရေးဦးစီးဌာန ပုံနှိက်တိုက်၊ ရန်ကုန်မြို့၊ ၁၉၈၅။

မဟာသီလဝံသ၊ ရှင်၊ ဓမ္မပါလပျို့၊ ဟံသာဝတီပိဋကတ်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ ၁၉၄၀။

မဟာရဋ္ဌသာရသာရ၊ရှင်၊သံဝရပျို့၊ ပိဋကတ်တော်ပြန့်ပွားရေးပုံနှိပ်တိုက်၊ မန္တလေးမြို့၊ ၁၉၅၀။

တေဇောသာရ၊ရှင်၊ရွှေဟသ်ာမင်းပျို့၊ ကဝိလက္ခဏာစာအုပ်ဆိုင်၊ မန္တလေးမြို့၊ ၁၃၂၄။

လယ်တီဆရာတော်၊ ဝိဇ္ဇာမဂ္ဂဒီပနီ၊ ရတနာသီရိစာပုံနှိပ်တိုက်၊ တောင်ဥက္ကလာပမြို့၊ ၁၃၃၀။

အရှင်ဇနကာဘိဝံသ၊ သီလက္ခန်ဘာသာဋီကာ (ပထမအုပ်) နာမည်မပါ၊ ရိုက်သည့်ခုနှစ်မပါ။

ဆရာတော်၊ မဟာစည်။ ဝိသုဒ္ဓိမဂ်မြန်မာပြန် (တတိယတွဲ)၊ ဗုဒ္ဓသာသနာနုဂ္ဂဟာအဖွဲ့၊ ရန်ကုန်၊ ၁၉၉၁။

ဝါသေဋ္ဌာဘိဝံသ၊ အရှင်၊ ပရိတ်ကြီးနိဿယသစ်၊ မိုးကြည်စာပေ၊ ရန်ကုန်မြို့၊ ၁၉၈၉။

ရာဇဓမ္မာဘိဝံသ၊ ဘဒ္ဒန္တ။ ဘဒ္ဒန္တသူရိယာဘိဝံသ၏ ထေရုပ္ပတ္တိကထာ၊ မန္တလေးမြို့၊ မစိုးရိမ်နာယကအဖွဲ့၊ ၁၉၇၆။

ဇောတိပါလ၊ အသျှင်၊ (အောင်မင်းခေါင်ကြီး) ဝိဇ္ဇာဝင်သမိုင်းနှင့် ချမ်းသာရေးလမ်းစဉ်၊ အောင်မင်းခေါင်ကြီး–သာသနာပြုအဖွဲ့၊ (ပုံနှိပ်တိုက်နှင့်ခုနှစ်သက္ကရာဇ်တို့မသိရ)မောင်ပန်းမွှေး၊ ကျိုက်ထီးဆောင်းဆရာတော် ဘဒ္ဒန္တပညာဒီပ မဟာထေရုပ္ပတ္တိအဖွင့်၊ ငြိမ်းချမ်းသာ





ဂရပ်ဖစ်(ခ်)၊ ရန်ကုန်၊ ၂၀၀၈။

ဟုတ်စိန်၊ ဦး၊ ပါဠိ–မြန်မာအဘိဓာန်၊ ချမ်းသာရောင်စုံပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ ၁၉၉၉။

ဝင်းမောင်၊ ရေနံ့သာ။ လျှပ်တစ်ပြက်မဟာပုဂံ၊ မြင်းခြံပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ ၂၀၀၉။

မြန်မာစွယ်စုံကျမ်း (အတွဲ–၄)၊ တတိယအကြိမ်၊ စာပေဗိမာန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ ၁၉၆၇။

မြန်မာစွယ်စုံကျမ်း (အတွဲ–ဂ)၊ ပထမအကြိမ်၊ စာပေဗိမာန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ ၁၉၆၃။

ဝေယံလင်းခေါင်၊ သူတော်စင်တော၏ ဂမ္ဘီရဝတ္ထုတိုများ၊ ပညာရွှေတောင်စာအုပ်တိုက်၊ ရန်ကုန်မြို့၊ ၂၀၀၂ ခုနှစ်။

ဗိုလ်တာရာ (ရဲဘော်သုံးကျိပ်)၊ ဂတိသစ္စာ၊ မုဆိုးစာပေ၊ ရန်ကုန်၊ ၁၉၆၈။

ဆရာကြီးအရိန္ဒမာ၊ မဟိဒ္ဓိ ပုဂ္ဂိုလ်ထူးများ၏ အံ့ဖွယ်ဖြစ်ရပ်ဆန်းများ၊ တက်လမ်းစာပေ၊ ရန်ကုန်မြို့၊ ၁၉၉၆။

ဆရာဦးဖေခင်၊ ဘိုးဘိုးအောင်နှင့်ကျင့်စဉ်၊ သောင်းစာပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ ၁၉၄၉။

<www.en.wikipedia.org/wiki>. December 7, 2009.

Htin Aung. Maung. Folk Elements in Burmese Buddhism. Religious Affairs Dept, Press. 1959.

Htin Aung, Maung. Alchemy and Alchemists in Burma. Folk Lore, 1933.

Takeuchi Yoshinori, ed., Buddhist Spirituality: Later China, Korea, Japan and the Mordern World. Vol. II. New York; Crossroad Press. 1999.